အသင်္ချေယျ ပရိဝုဏ်သို့ လာခဲ့၏။ အရှင်အာယုပါလထံ ဝင်ရောက်၍ ရှိသေစွာ ရှိခိုးဦးချ နှုတ်ဆက်စကား လျှောက်ပြီးလျှင် ဤသို့ မေးလျှောက်၏။

'အရှင် အာယုပါလဘုရား၊ အရှင်ဘုရားတို့၏ ရဟန်းအဖြစ် ကျင့်သုံးရခြင်းသည် မည်သည့် အကျိုး ရှိပါသနည်း။ ထို့ပြင် အရှင်ဘုရားတို့ အလွန်တရာ အလိုရှိအပ်သော အကျိုးတရားကား မည်သည့်တရား ဖြစ်ပါသနည်း'

'မင်းမြတ်၊ ရဟန်းအဖြစ် ကျင့်သုံးရခြင်းသည် တရားသဖြင့် ကျင့်ကြံရခြင်း၊ တရားနှင့်အညီ ကျင့်သုံးရခြင်း အကျိုးရှိ၏။ ငါတို့ အလွန်တရာ အလိုရှိအပ်သော တရားသည်ကား မဂ်ဖိုလ် ပေတည်း'

'အရှင် အာယုပါလဘုရား၊ ရဟန်းအဖြစ်ကို မခံယူပါဘဲလျက် တရားသဖြင့် ကျင့်သုံ၊ တရားနှင့်အညီ ကျင့်ကြံသူ တစ်စုံတစ်ယောက်ရှိပါ၏လော'

'မင်းမြတ်၊ ရှိပါပေ၏။ ဗာရာဏသီမြို့အနီး မိဂဒါဝုန်တောဌ် ဓမ္မစကြာ ဒေသနာတော်ကို ဘုရားရှင် ဟောကြားတော်မူသောအခါ တစ်ဆယ့်ရှစ်ကုဋေမျှသော ဗြဟ္မာတို့ တရားသိမြင် အလင်း ဝင်ကြကုန်၏။ တရားသိမြင် အလင်းဝင်သော နတ်တို့ကား မရေမတွက်နိုင်အောင် ရှိကြကုန်၏။ ထို့ပြင် မဟာသမယသုတ်၊ မဟာမင်္ဂလသုတ်၊ သမစိတ္တ ပရိယာယသုတ်၊ ရာဟုလောဝါဒသုတ်၊ ပရာဘဝသုတ်တို့ကို ဟောကြားတော်မူစဉ်ကလည်း မရေမတွက်နိုင်အောင် နတ်အပေါင်းတို့ ကျွတ်တမ်းဝင်ကြကုန်၏။ ထိုသူအပေါင်းတို့သည် ရဟန်းအဖြစ်ကို မခံယူကြကုန်'

'အရှင် အာယုပါလ ဘုရား၊ ရဟန်းအဖြစ်ကို မခံယူပါဘဲလျက်လည်း တရားကျင့်၍ ရနိုင်ပါမူကား အရှင်ဘုရား၏ ရဟန်းအဖြစ် ကျင့်သုံးခြင်းသည် အကျိုးမဲ့၊ အချည်းနှီး ဖြစ်လေစွတကား။ ရှေးရှေးဘဝတုန်းက ပြုခဲ့သော အကုသိုလ်ကံကြောင့် ယခု ဘဝတွင် ဒုက္ခခံကာ ရဟန်း ပြုကြရကုန်၏။ ဓုတင်အကျင့်ကို ကျင့်ကြရကုန်၏။ ဧကာသနိတ် ဓုတင်ဆောင်၍ တစ်ထပ်သာ စားကြရသော ရဟန်းတို့သည် ရှေးရှေးဘဝက သူတစ်ပါး၏ ပစ္စည်းကို ခိုးခဲ့လေယောင်တကား။ ထိုအကုသိုလ်ကံကြောင့် အချိန်မရွေး စားသောက်ခွင့်မရကြဘဲ တစ်နေ့ရာတည်း၌ တစ်ထပ်သာ စားကြလေယောင် တကား။ အဗ္ဘောကာသိက ဓုတင်ဆောင်၍ လွင်တီးခေါင်၌ နေထိုင်ကြရသော ရဟန်းတို့သည်လည်း ရှေးရှေးဘဝ၌ ကျေးလက်တောရွာတို့ကို ဖျက်ဆီးခဲ့သော ခိုးသားဓားပြတို့ ဖြစ်ခဲ့ကြလေယောင်တကား။ ထိုသို့ ဖျက်ဆီးခဲ့ကြဖူးသောကြောင့် အမိုးအကာအောက်တွင် နေ ထိုင်ခွင့် မရကြဘဲ လွင်တီးခေါင်၌ နေကြရလေယောင် တကား။ နေသဇ္ဇိက ဓုတင်ဆောက်၍ ထိုင်လျက်သာ နေကြရသော ရဟန်းတို့သည်လည်း ရှေးရှေးဘဝ၌ လမ်းခရီးမှ စောင့်ကြိုနှိပ်စက် ကြသော ခိုးသားဓားပြတို့ ဖြစ်ခဲ့ကြလေယောင် တကား။ ထိုအကုသိုလ်ကံကြောင့် ယခုဘဝတွင် အိပ်စက်ခွင့်မရဘဲ ထိုင်လျက်သာ နေကြရလေယောင် တကား'

ဤသို့ မိလိန္ဒမင်းက လျှောက်ထားလိုက်သောအခါ အရှင်အာယုပါလသည် ပြန်လည်ချေပ ရန် မစွမ်းနိုင်သဖြင့် နှုတ်ဆိတ်၍သာ နေရတော့၏။

## မိလိန္ဒမင်းနှင့် အရှင်နာဂသေနတို့ တွေ့ဆုံခြင်း

ထိုအခါ မိလိန္ဒမင်းသည် လက်ခမောင်းခတ်လျက် အို – အချင်းတို့၊ ဇမ္ဗူဒိပ်ကျွန်းသည် အချည်းနှီး ဖြစ်လေစွတကား၊ အို – အချင်းတို့၊ ဇမ္ဗူဒိပ်ကျွန်းသည် အဖျင်းအတိသာ ဖြစ်လေစွတကား၊ သိလိုရာ မေးမြန်းရန်၊ ယုံမှားသင်္ကာကို ပယ်ဖျောက်ရန် သမဏ၊ ဗြာဟ္မဏ တစ်စုံတစ်ယောက်မျှ မရှိချေတကားဟု ကြွေးကြော် ပြောဆို၏။ ဤသို့ ကြွေးကြော်ပြီးနောက် ယောနကအမတ် ငါးရာ တို့ကို အကဲခတ်လိုက်ရာ ယခင်နှင့်မတူ တစ်မူထူးခြားနေသည်ကို တွေ့လိုက်ရ၏။ ယခင်အကြိမ် များတုန်းက မျက်နှာညှိုးနွမ်း၊ မလန်းမရွှင် ဖြစ်နေခဲ့ကြသော ယောနက အမတ်ငါးရာတို့သည် ယခုတစ်ကြိမ် ကြွေးကြော်ရာတွင်ကား သူတို့အားလုံး၏ မျက်နှာတို့သည် မညှိုးမနွမ်း၊ လန်း ရွှင်လျက်သာ ရှိနေကြ၏။ ထို့ကြောင့် မိလိန္ဒမင်းက 'အချင်းတို့၊ ငါနှင့် ယှဉ်ပြိုင်၍ ပြောဆို နိုင်သော၊ ငါ၏ ယုံမှားသင်္ကာကို ပယ်ဖျောက်ပေးနိုင်သော ပညာရှိ ရဟန်းတစ်ပါးပါး ရှိနေပါ သလော'ဟု မေးမြန်း၏။

ထိုအခါ ယောနက အမတ်တို့က 'မင်းမြတ်၊ အရှင် နာဂသေန မည်သော ရဟန်းသည် ရဟန်းအပေါင်း ခြံရံလျက် အသင်္ချေယျ ပရိဝုဏ်၌ သီတင်းသုံးတော်မူနေပါ၏။ ထို အရှင်နာဂ သေနသည် ထိုးထွင်းသော ဉာဏ်ရှိပါ၏။ တရားဒေသနာတော်၌ ကျွမ်းကျင်လိမ္မာပါ၏။ တရား သဘောကို ထင်ရှားအောင် ဟောကြား ပြသ ဆုံးမနိုင်ပါ၏။ ရဲရင့်တည်ကြည်သော စိတ်သဘော ရှိပါ၏။ ပိဋကတ်သုံးပုံကို ဆောင်ပါ၏။ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်ကာ ပဋိသမ္ဘိဒါဉာဏ် ရရှိသူ ဖြစ်ပါ၏'

ဤသို့ စသည်ဖြင့် အရှင်နာဂသေန၏ ဂုဏ်ကျေးဇူးကို ချီးကျူးထုတ်ဖော်၍ လျှောက်တင် ကြ၏။ နာဂသေနဟူသော အသံကို ကြားရသည်နှင့် တစ်ပြိုင်နက် မိလိန္ဒမင်း၏ သန္တာန်၌ ကြောက်ရွံ့ခြင်း၊ တုန်လှုပ်ခြင်း၊ ကြက်သီးမွေးညင်း ထခြင်းတို့ ဖြစ်ပေါ်လာကုန်၏။ ထို့နောက် မိလိန္ဒမင်းသည် ဒေဝမန္တိယအမတ်အား 'အရှင်မြတ်၏ အထံသို့ တမန်စေလွှတ်လော့'ဟု မိန့်ကြား ၏။ ဒေဝမန္တိယ အမတ်သည် မင်းချင်းတစ်ယောက်အား အရှင် နာဂသေနထံသို့ စေလွှတ်ကာ 'အရှင်ဘုရား၊ မိလိန္ဒမင်းသည် အရှင်ဘုရားကို ဖူးမြင်လိုပါ၏'ဟု လျှောက်ထားရန် ညွှန်ကြား လိုက်၏။ ညွှန်ကြားသည့်အတိုင်း မင်းချင်းက လျှောက်ထားသောအခါ အရှင် နာဂသေနက 'လာလိုလျှင် လာခဲ့ပါလော့'ဟု မိန့်ကြားလိုက်လေသည်။

အရှင် နာဂနေသနက လာခွင့်ပြုလိုက်ပြီဖြစ်၍ မိလိန္ဒမင်းသည် ယောနက အမတ်ငါးရာခြံရံ ကာ မြင့်မြတ်သော ရထားကို စီးလျက် အသင်္ချေယျပရိဝုဏ်သို့ လာခဲ့၏။ ထိုအချိန်၌ အရှင် နာဂသေနသည် ရှစ်သောင်းသော ရဟန်းများနှင့်အတူ စည်းဝေးရာ တန်ဆောင်း၌ ထိုင်လျက် ရှိနေ၏။ မိလိန္ဒမင်းသည် အရှင်နာဂသေန၏ ပရိသတ်ကို ရှုမြင်ရသောအခါ ကြွေတို့၏ ဝိုင်းဝန်း ပိတ်ဆီးခြင်းကို ခံနေရသော ဆင်ပြောင်ကဲ့သို့ ကြောက်ရွံ့တုန်လှုပ်လာ၏။ သို့ရာတွင် ရာဇက္ကန္ဓေ

ကို မပျက်စေဘဲ ဆက်လက်၍ ခြေကျင်လှမ်းခဲ့ရာမှ 'အချင်း ဒေဝမန္တိယ၊ ဤသူကား နာဂသေန တည်းဟု သင်က ငါ့ကို မပြောကြားလင့်။ ငါကိုယ်တိုင်သာလျှင် နာဂသေနကို သိအောင် ကြိုးစားအံ့'ဟု မိန့်ဆို၏။

စည်းဝေးရာ တန်ဆောင်း၌ ထိုင်နေကြသော ရဟန်းရှစ်သောင်းတို့ထဲတွင် အရှင်နာဂသေန သည် ရဟန်းလေးသောင်းတို့ထက် သိက္ခာငယ်ကာ ရဟန်း လေးသောင်းတို့ထက် သိက္ခာကြီး၏။ မိလိန္ဒမင်းသည် ရဟန်းရှစ်သောင်း၏ အလယ်၌ ခြသေ့်မင်းကဲ့သို့ ရဲတင်းစွာ ထိုင်နေသော အရှင် မြတ်ကို ဖူးမြင်ရသောအခါ 'ဤသူကား အရှင်နာဂသေနတည်း'ဟု သိရှိသွား၏။ အရှင်နာဂ သေနကို ဟုတ်တိုင်းမှန်စွာ သိရှိနိုင်သဖြင့် မိလိန္ဒမင်းသည် နှလုံးကြည်သာ ဝမ်းမြောက်စွာ ချဉ်းကပ်လာပြီးလျှင် သင့်တင့်လျောက်ပတ်သောနေရာ၌ ထိုင်လျက် သိလိုရာ ပြဿနာတို့ကို မေးမြန်းလျှောက်ထားလေသတည်း။

•

6A



## အခန်း ၂

# မိလိန္ဒပဉ္ဟာ ကဏ္ဍ

ယောနိသော မနသိကာရတည်းဟူသော အသင့်အတင့် နှလုံးသွင်းမှုသည် စိတ်ကို စုစည်းရုံးပေါင်းစေ၏။ ဝိပဿနာပညာသည် ခွဲခြားပိုင်းဖြတ်၏။ လက်တစ်ဖက်က စပါးပင်ကို ဆုပ်ကိုင်၍ လက်တစ်ဖက်က တံစဉ်ဖြင့် ရိတ်ဖြတ်သကဲ့သို့တည်း။




## ၁။ အမည်နာမသည် တကယ်ရှိသလော

'အရှင်ဘုရားသည် အဘယ်အမည် ရှိပါသနည်း'

'မင်းမြတ်၊ ငါ့ကို နာဂသေန ဟူ၍ သီတင်းသုံးဖော်တို့က ခေါ်ကြကုန်၏။ နာဂသေန ဟူ၍ လည်းကောင်း၊ သူရသေန ဟူ၍ လည်းကောင်း၊ ဝီရသေန ဟူ၍လည်းကောင်း၊ သီဟသေန ဟူ၍ လည်းကောင်း အမိ အဖတို့က မှည့်ခေါ်ကြကုန်၏။ သို့ရာတွင် နာဂသေန ဟူသော အမည်သည် ခေါ်ဆို၍ လွယ်ကူစေရန် မှည့်ထားသော အမည်မျှသာတည်း။ နာဂသေန ဟူရာ၌ ပုဂ္ဂိုလ်ကို တကယ်ရှိသည်ဟု ဉာဏ်ဖြင့် ကြည့်ရှု၍ မရနိုင်ပါ'

မိလိန္ဒမင်းသည် ဤစကားကို ဆွဲကိုင်၍ ဝါဒတိုက်ပွဲ ဆင်နွှဲလိုသဖြင့် –

'အို – ယောနက အမတ်ငါးရာတို့၊ အို – ရဟန်းရှစ်သောင်းတို့၊ ကျွန်ုပ်၏ စကားကို နားစိုက်ကြကုန်လော့၊ ဤနာဂသေနသည် 'နာဂသေန ဟူရာ၌ ပုဂ္ဂိုလ်က တကယ်ရှိသည်ဟု ဉာဏ်ဖြင့် ကြည့်ရှု၍ မရနိုင်'ဟု ဆိုဘိ၏။ နာဂသေန၏ စကားကို လက်ခံခြင်းငှာ သင့်ပါ၏လော'ဟု တိုင်တည်ပြောကြားပြီးလျှင် ဆက်လက်၍ မေးလျှောက်၏။

'အရှင်နာဂသေနဘုရား၊ ပုဂ္ဂိုလ် သတ္တဝါ ဟူ၍ ရှုမြင်၍ မရနိုင်ပါလျှင် အဘယ်သူသည် အရှင်ဘုရားတို့အား သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ အိပ်ရာနေရာနှင့် ဆေးဝါးပစ္စည်းများ လှူဒါန်းပါသနည်း။ ထိုပစ္စည်းလေးပါးကို အဘယ်သူ သုံးဆောင်ပါသနည်း။ အဘယ်သူသည် သီလ စောင့်ထိန်းပါသနည်း။ အဘယ်သူသည် ဘာဝနာကမ္မဋ္ဌာန်း စီးဖြန်းပါသနည်း။ အဘယ်သူသည် ငါးပါးသီလကို ချိုးဖောက် ကျူးလွန်ပါသနည်း။ အဘယ်သူသည် အနန္တရိယကံကြီး ငါးပါးကို ပြုလုပ်ပါသနည်း။ ထို့ကြောင့် ကုသိုလ်ဟူ၍ မရှိပြီ။ အကုသိုလ် ဟူ၍ မရှိပြီ။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ကို ပြုလုပ်သူလည်းကောင်း၊ ပြုလုပ်စေသူလည်းကောင်း မရှိတော့ပြီ။ ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏ အကျိုးတရား မရှိတော့ပြီ။ အကယ်၍ တစ်စုံတစ်ယောက်သည် အရှင်ဘုရားတို့အား သတ်ဖြတ်ငြားအံ့။ ထိုသူမှာ ပါဏာတိပါတကံ မထိုက်တော့ပြီ။ အရှင်ဘုရားတို့မှာ ဆရာဟူ၍ မရှိတော့ပြီ။ ဥပဇ္ဈာယ်ဟူ၍ မရှိတော့ပြီ။ ရဟန်းအဖြစ် မရှိတော့ပြီ။

'မင်းမြတ်၊ ငါ့ကို နာဂသေန ဟူ၍ သီတင်းသုံးဖော်တို့က ခေါ်ကြကုန်၏'ဟူသော စကား၌ နာဂသေနဟူသည် အဘယ်နည်း။ ဆံပင်တို့သည် နာဂသေနလော'

'မင်းမြတ်၊ ဆံပင်တို့သည် နာဂသေန မဟုတ်ပါ'

'အမွေးတို့သည် နာဂသေနလော'

'အမွေးတို့သည် နာဂသေန မဟုတ်ပါ'

ဤနည်းအတိုင်း သုံးဆယ့်နှစ်ကောဋ္ဌာသလုံး အမေးအဖြေ ပြုလုပ်ကြ၏။

'ရုပ်သည် နာဂသေနလော'

'ရုပ်သည် နာဂသေန မဟုတ်ပါ'

'ဝေဒနာသည် နာဂသေနလော'

'ဝေဒနာသည် နာဂသေန မဟုတ်ပါ'

'သညာသည် နာဂသေနလော'

'သညာသည် နာဂသေန မဟုတ်ပါ'

'သင်္ခါရတို့သည် နာဂသေနလော'

'သင်္ခါရတို့သည် နာဂသေန မဟုတ်ပါ'

'ဝိညာဉ်သည် နာဂသေနလော'

'ဝိညာဉ်သည် နာဂသေန မဟုတ်ပါ'

'အရှင်ဘုရား အသို့ပါနည်း၊ ခန္ဓာငါးပါးတို့မှ တစ်ပါးသော တရားတို့သည် နာဂသေနမည်သလော'

'မင်းမြက်၊ နာဂသေန မဟုတ်ပါ'

'အရှင်ဘုရား၊ တပည့်တော်တို့ မေးတိုင်း မေးတိုင်း နာဂသေနကို မတွေ့မြင်ရပါ။ နာဂသေန ဟု ပြောဆိုသော အသံသည်ပင် နာဂသေနလော'

'မင်းမြတ်၊ ထိုအသံသည်လည်း နာဂသေန မဟုတ်ပါ'

'အရှင်ဘုရား၊ ဤနာဂသေန ဟူရာ၌ အဘယ်သည် နာဂသေန မည်ပါသနည်း။ အရှင်ဘုရားသည် မဟုတ်မမှန် ပြောဆိုသည်တကား'

ဤသို့ မိလိန္ဒမင်းက အပြစ်တင်၍ ပြီးဆုံးသွားသောအခါ အရှင်နာဂသေနက တုံ့ပြန်မေးခွန်း ထုတ်၏။

'မင်းမြတ်၊ သင်မင်းမြတ်သည် မင်းတို့၏ နူးညံ့ခြင်းဖြင့် နူးညံ့လှ၏။ မွန်းတည့်ချိန်အောက်၌ သဲမြေပြင်သည် ပူလောင် ကြမ်းတမ်းလှ၏။ ကျောက်စရစ်ခဲ၊ အိုးခြမ်းကွဲတို့ကလည်း အနှံ့အပြား ရှိနေကြ၏။ ထိုကဲ့သို့သော မြေအပြင်ဝယ် သင် မင်းမြတ်သည် ခြေကျင်လျှောက်လာရလျှင် ခြေထောက်များ ကျိန်းစပ်နာကျင်ကြပေလိမ့်မည်။ ကိုယ်ခန္ဓာ ပင်ပန်းနွမ်းနယ်ပေလိမ့်မည်။ ဒုက္ခဝေဒနာကို ခံစားရပေလိမ့်မည်။ အသို့နည်း။ သင်မင်းမြတ်သည် ခြေကျင်လာခဲ့ပါသလော။ ရထားစီး၍ လာခဲ့ပါသလော'

'အရှင်ဘုရား၊ တပည့်တော်သည် ခြေကျင်မလာခဲ့ပါ။ ရထားစီး၍ လာခဲ့ပါ၏'

'မင်းမြတ်၊ သင်မင်းမြတ်သည် ရထားစီး၍လာခဲ့ပါလျှင် ရထားကို ပြဆိုပါလော့၊ ရထားသန်သည် ရထားပေလော'

'အရှင်ဘုရား၊ ရထားသန်သည် ရထားမဟုတ်ပါ'

'ဝင်ရိုးသည် ရထားပေလော'

'ဝင်ရိုးသည် ရထားမဟုတ်ပါ'

'ဘီးတို့သည် ရထားပေလော'

'ဘီးတို့သည် ရထားမဟုတ်ပါ'

'ရထားအိမ်သည် ရထားပေလော'

'ရထားအိမ်သည် ရထားမဟုတ်ပါ'

'ရထားဒေါက်သည် ရထားပေလော'

'ရထားဒေါက်သည် ရထား မဟုတ်ပါ'

'ထမ်းပိုးသည် ရထားပေလော'

'ထမ်းပိုးသည် ရထားမဟုတ်ပါ'

'ကြိုးသည် ရထားပေလော'

'ကြိုးသည် ရထား မဟုတ်ပါ'

'နှင်တံသည် ရထား ပေလော'

'နှင်တံသည် ရထား မဟုတ်ပါ'

'မင်းမြတ်၊ မည်သို့ပါနည်း။ ရထားသန် စသော အင်္ဂါ အစိတ်အပိုင်းတို့သည် ရထားပေလော'

'အရှင်ဘုရား၊ ထိုအင်္ဂါ အစိတ်အပိုင်းတို့သည် ရထား မဟုတ်ပါ'

'ထိုအင်္ဂါ အစိတ်အပိုင်းတို့ကို ဖယ်ထား၍ တခြားမှာ ရထားရှိသေးသလော'

'ထိုအင်္ဂါ အစိတ်အပိုင်းတို့ကို ဖယ်ထား၍ တခြားမှာ ရထားမရှိပါ'

'မင်းမြတ်၊ သင်မင်းမြတ်ကို မေးတိုင်းမေးတိုင်း ရထားကို မတွေ့မြင်ရပါ။ ရထားဟု ခေါ်ဝေါ်သော အသံသည်ပင် ရထားပေလော'

'အရှင်ဘုရား၊ ရထားဟုခေါ်သော အသံသည် ရထားမဟုတ်ပါ'

'မင်းမြတ်၊ ဤနေရာ၌ ရထားသည် အဘယ်ပါနည်း။ သင်မင်းမြတ်သည် မဟုတ်မမှန် ပြောဆိုချေသည်တကား။ အို – မင်းမြတ်၊ သင်မင်းမြတ်သည် ဤဇမ္ဗူဒိပ်တစ်ကျွန်းလုံး၌ အမြတ်ဆုံးသော မင်း ဖြစ်ပေ၏။ သို့ပါလျက် မည်သူ့ကို ကြောက်ရွံ့၍ မဟုတ်မမှန် ပြောဆိုနေရပါသနည်း။ အို– ငါးရာသော ယောနက အမတ်တို့၊ အို–ရှစ်သောင်းသော ရဟန္တာ အရှင်မြတ်တို့ဘုရား၊ တပည့်တော်၏ စကားကို နားစိုက်ကြပါကုန်လော့။ ဤမိလိန္ဒမင်းက 'တပည့်တော်သည် ရထား

စီး၍ လာခဲ့ပါ၏'ဟု လျှောက်ထားခဲ့ပါ၏။ 'မင်းမြတ်၊ သင်သည် ရထားစီး၍ လာခဲ့ပါလျှင် ရထားကို ပြဆိုပါလော့'ဟု တပည့်တော် ပြောဆိုခဲ့ပါ၏။ သို့ပါလျက် သူသည် ရထားကို ရေရေရာရာ မပြဆိုနိုင်ပါ။ ဤသို့ဖြစ်လျှင် မိလိန္ဒမင်း၏ စကားကို လက်ခံထိုက်ပါသေးသလော'

ဤတွင် ယောနက အမတ်ငါးရာတို့သည် အရှင်နာဂသေနကို ကောင်းချီးပေးကြကုန်၏။

'အရှင် နာဂသေနဘုရား၊ တပည့်တော်သည် မဟုတ်မမှန် ပြောဆိုသည် မဟုတ်ပါ။ ရထားသန် စသော အင်္ဂါအစိတ်အပိုင်းတို့ကို အကြောင်းပြု၍ ရထားဟူ၍ အမည်နာမ ပညတ်ထားခြင်းမျှသာ ဖြစ်ပါသည်'

'မင်းမြတ်၊ သင်မင်းမြတ်သည် ရထားကို ကောင်းစွာ သိပါပေ၏။ ဤအတူသာပင် ဆံပင်၊ မွေးညင်း စသော သုံးဆယ့်နှစ်ကောဋ္ဌာသတို့ကိုလည်းကောင်း၊ ရုပ်၊ ဝေဒနာ စသော ခန္ဓာငါးပါးတို့ကိုလည်းကောင်း အစွဲပြု၍ နာဂသေနဟူ၍ အမည်နာမ ပညတ်ထားခြင်းမျှသာ ဖြစ်ပါသည်။ ဤနာဂသေန ဟူရာ၌ အဟုတ်ရှိ၊ တကယ်ရှိသော သဘောအားဖြင့် ပုဂ္ဂိုလ်ကို မရရှိနိုင်ပေ။ ထို့ကြောင့်ပင် ဝဇိရာမည်သော ဘိက္ခုနီသည် ဘုရားရှင်၏ မျက်မှောက်တော်၌ –

'ရထားသန်၊ ဝင်ရိုး၊ ထမ်းပိုး စသော ရထား၏ အစိတ်အပိုင်းတို့ကြောင့် ရထားဟူသော အမည်နာမ ဖြစ်ပေါ်လာရဘိသကဲ့သို့ ဤအတူသာပင် ရူပက္ခန္ဓာ စသော ခန္ဓာငါးပါးတို့ ရှိကုန်လတ်သော် သတ္တဝါ ဟူသော အမည်နာမ ဖြစ်ပေါ်လာရ၏'ဟု ထုတ်ဖော် လျှောက်ထားခဲ့ပေသည်။

'အရှင် နာဂသေနဘုရား၊ အံ့ဖွယ်ရှိပါပေစွ။ မဖြစ်စဖူး ထူးကဲပါပေစွ။ အလွန်တရာ ဆန်းကြယ်လှစွာသော ပြဿနာတို့ကို ပြေလည်အောင် ဖြေဆိုတော်မူနိုင်ပါပေစွ။ အကယ်၍ ယခုအချိန်အထိ ဘုရားရှင်သည် သက်တော်ထင်ရှား ရှိတော်မူပါလျှင် 'နာဂသေန၊ ကောင်းပေစွ၊ ကောင်းပေစွ' ဟူ၍ ကောင်းချီးနှမော် သာဓုခေါ်တော်မူမည်သာ ဖြစ်ပါသည် ဘုရား'

## ၂။ ခုနစ်ဝါ ဟူသည် အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားသည် ဝါတော်မည်မျှ ရပြီနည်း'

'မင်းမြတ်၊ ခုနစ်ဝါ ရပေပြီ'

'ခုနစ်ဝါ ဟူသည် အဘယ်ပါနည်း။ အရှင်ဘုရားသည်ပင် ခုနစ်ဝါလော။ ဂဏန်းသည်ပင် ခုနစ်ဝါလော'

ထိုအချိန်၌ မိလိန္ဒမင်း၏ အရိပ်သည် မြေကြီးပေါ်မှာလည်း ထင်နေ၏။ ရေအိုးကြီးထဲက ရေပြင်ပေါ်မှာလည်း ထင်ဟပ်နေသည်။ အရှင်နာဂသေနသည် ထိုအရိပ်တို့ကိုပြ၍ တုံ့ပြန်မေးခွန်းထုတ်၏။

'မင်းမြတ်၊ သင် မင်းမြတ်၏ အရိပ်သည် မြေကြီးပေါ်မှာ လည်းကောင်း၊ ရေအိုးကြီးထဲက ရေပြင်ပေါ်မှာ လည်းကောင်း ထင်ဟပ်နေ၏။ သင်မင်းမြတ်သည်ပင် မိလိန္ဒမင်းလော။ ထင်ဟပ်နေသော အရိပ်သည်ပင် မိလိန္ဒမင်းလော'

'အရှင်ဘုရား၊ တပည့်တော်သည်သာလျှင် မိလိန္ဒမင်း ဖြစ်ပါသည်။ ထင်ဟပ်နေသော အရိပ်ကား မိလိန္ဒမင်း မဟုတ်ပါ။ အမှန်စင်စစ်အားဖြင့် တပည့်တော်ကို အမှီပြု၍သာလျှင် အရိပ်ထင်နေခြင်း ဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင်တည်း။ သိက္ခာဝါ အရေအတွက်တို့သည် ခုနစ်ဝါတို့ ဖြစ်ကုန်၏။ ငါသည်ကား ခုနစ်ဝါ မဟုတ်ပါ။ အမှန်စင်စစ်အားဖြင့် ငါ့ကို အမှီပြု၍သာလျှင် ခုနစ်ဝါဟူ၍ ရေတွက်ရပေသည်'

'အရှင်ဘုရားသည် ပြဿနာကို ပြေလည်စွာ ဖြေရှင်းနိုင်ပါပေ၏'

## ၃။ အရှင်ဘုရား ဘာကိုဖြေပါသနည်း

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားသည် တပည့်တော်နှင့်အတူ ပြောဆိုဆွေးနွေးပါမည်လော'

'မင်းမြတ်၊ ပညာရှိတို့၏သဘောဖြင့် ပြောဆိုဆွေးနွေးပါလျှင် ပြောဆိုဆွေးနွေးပါအံ့။ မင်းတို့၏ သဘောဖြင့် ပြောဆိုဆွေးနွေးပါလျှင်ကား မပြောဆို မဆွေးနွေးလိုပါ'

'အရှင်ဘုရား၊ ပညာရှိတို့သည် အဘယ်သို့ ပြောဆိုဆွေးနွေးကြပါကုန်သနည်း'

'မင်းမြတ်၊ ပညာရှိတို့သည် ပြောဆိုဆွေးနွေးကြရာတွင် တစ်ဖက်သားကို စကားဖြင့် ဖမ်း၍ ချုပ်နှောင်ကြပါကုန်၏။ ဖမ်းချုပ်ပြီးမှ ပြန်၍လည်း လွှတ်ပေးကြကုန်၏။ တစ်ဖက်သားကို နှိမ်ချသည်လည်း ရှိကုန်၏။ ချီးမြှောက်သည်လည်း ရှိကြကုန်၏။ အကျွမ်းတဝင် ပြုသည်လည်း ရှိကုန်၏။ တုံ့ပြန်၍ အကျွမ်းတဝင် ပြုသည်လည်း ရှိကုန်၏။ ထိုသို့ ပြုလုပ်သော်လည်း ပညာရှိတို့သည် အမျက်မထွက်ကြချေ။ ပညာရှိတို့သည် ဤသို့လျှင် ပြောဆိုဆွေးနွေးကြပါကုန်၏'

'အရှင်ဘုရား၊ မင်းတို့သည် အဘယ်သို့ ပြောဆိုဆွေးနွေးကြပါကုန်သနည်း'

'မင်းမြတ်၊ မင်းတို့ ပြောဆိုဆွေးနွေးကြသောအခါ တစ်စုံတစ်ခုသော အချက်အလက်ကို သဘောတူ အတည်ပြုထားကုန်၏။ ထိုအချက်အလက်ကို တစ်စုံတစ်ယောက်က ဖောက်ဖျက်၍ ပြန်လည်ငြင်းခုံလျှင် ထိုသူကို အပြစ်ဒဏ်ပေးကြကုန်၏။ မင်းတို့သည် ဤသို့လျှင် တိုင်ပင်ဆွေးနွေးကြပါကုန်၏'

'အရှင်ဘုရား၊ တပည့်တော်သည် ပညာရှိတို့၏ သဘောဖြင့် ပြောဆိုဆွေးနွေးပါအံ့၊ မင်းတို့၏ သဘောဖြင့် မပြောဆို မဆွေးနွေးပါ။ ရဟန်း၊ သာမဏေ၊ ဒါယကာ၊ အရံစောင့်တို့နှင့် ပြောဆို ဆွေးနွေးသကဲ့သို့ပင် ရဲရဲဝံ့ဝံ့ ဆွေးနွေးတော်မူပါ။ တပည့်တော်ကို မကြောက်ပါလင့်'

'မင်းမြတ်၊ ကောင်းပါပြီ'

'အရှင်ဘုရား၊ တပည့်တော် မေးပါအံ့'

'မင်းမြတ်၊ မေးပါလော့'

'တပည့်တော် မေးပြီးပါပြီ'

'ငါလည်း ဖြေပြီးပါပြီ'

'အရှင်ဘုရား ဘာကိုဖြေပါသနည်း'

'သင်မင်းကော ဘာကို မေးပါသနည်း'

## ၄။ လေသည် အသက်လော

အထက်ပါ ပြဿနာကို မေး၍ ဖြေ၍ ပြီးချိန်တွင် နေဝင်ခါနီးသွားသဖြင့် မိလိန္ဒမင်းသည် အရှင်နာဂသေနထံ ခွင့်ပန်ကာ နန်းတော်သို့ ပြန်သွား၏။ နာဂသေန၊ နာဂသေန ဟူ၍လည်း တစ်လမ်းလုံး ရွတ်ဆိုသွား၏။ မိလိန္ဒမင်းက အမိန့်ပေးထားသဖြင့် ဒေဝမန္တိယ အမတ်သည် အရှင်နာဂသေနအား နက်ဖြန်တွင် မိလိန္ဒမင်းနှင့် ပြောဆိုဆွေးနွေးတော်မူရန် ပင့်လျှောက်၏။ အရှင်နာဂသေနကလည်း လက်ခံလိုက်၏။

နောက်တစ်နေ့ နံနက်တွင် ဒေဝမန္တိယ၊ အနန္တကာယ၊ မင်္ကုရ၊ သဗ္ဗဒိန္န ဟူသော အမတ်လေးယောက်တို့သည် မိလိန္ဒမင်းထံ ချဉ်းကပ်လာကြကုန်၏။ ထိုတွင် သဗ္ဗဒိန္နအမတ်က 'အရှင်မင်းကြီး၊ အရှင် နာဂသေနကို ရဟန်းတစ်ကျိပ်နှင့် ကြွလာစေရန် လျှောက်ထားရမည်လော'ဟု လျှောက်တင်၏။ မိလိန္ဒမင်းက 'အလိုရှိသလောက် ရဟန်းများနှင့် ကြွလာတော်မူပါစေ'ဟု မိန့်ဆို၏။ ဤသို့ မိန့်ဆိုသည့်ကြားမှာပင် သဗ္ဗဒိန္နအမတ်က ယခင်အတိုင်း ထပ်မံ၍ သုံးကြိမ်သုံးခါ လျှောက်တင်လေရာ မိလိန္ဒမင်းက 'ငါတို့သည် ရဟန်းများစွာအား ဆွမ်းကပ်ခြင်းငှာ မစွမ်းကုန်သလော'ဟု ကြိမ်းမောင်း၏။ ဤတွင် သဗ္ဗဒိန္နအမတ်မျက်နှာ မသာမယာ ဖြစ်သွားရလေသည်။

ထို့နောက် အမတ်လေးယောက်တို့သည် အရှင်နာဂသေနထံ ချဉ်းကပ်ကာ 'အရှင်ဘုရား၊ အလိုရှိသမျှ ရဟန်းများနှင့်တကွ ကြွတော်မူပါ'ဟု လျှောက်ထားကြ၏။ အရှင်နာဂသေနသည် ရဟန်းရှစ်သောင်းနှင့်တကွ နန်းတော်သို့ ကြွလာ၏။ လမ်းခရီး၌ အနန္တကာယ အမတ်သည် အရှင်နာဂသေနထံ ချဉ်းကပ်၍ အောက်ပါ ပြဿနာကို မေးလျှောက်၏။

'အရှင်ဘုရား၊ နာဂသေန ဟူသော စကား၌ အဘယ်သည် နာဂသေန ဖြစ်ပါသနည်း'

'အဘယ်ကို နာဂသေန ဟူ၍ သင် မှတ်ထင်ပါသနည်း'

'အရှင်ဘုရား၊ ကိုယ်တွင်းလေဟု ဆိုအပ်သော အသက်သည် အတွင်းသို့လည်း ဝင်ပါ၏။ အပြင်သို့လည်း ထွက်ပါ၏။ ဝင်၍ ထွက်၍နေသော ထိုလေကို နာဂသေနဟု မှတ်ထင်ပါသည် ဘုရား'

'အသက်ခေါ်သော ဤလေသည် အပြင်သို့ထွက်ပြီးနောက် အတွင်းကို မဝင်ခဲ့ပါလျှင်၊ အတွင်းသို့ ဝင်ပြီးနောက် အပြင်သို့ မထွက်ခဲ့ပါလျှင် ထိုယောက်ျားသည် အသက်ရှင်ပါဦးမည်လော'

'အသက် မရှင်နိုင်တော့ပါဘုရား'

'ခရုသင်းမှုတ်သောသူတို့ ခရုသင်းကို မှုတ်သောအခါ သူတို့ကိုယ်တွင်းမှ ထုတ်လွှတ်လိုက်သော လေသည် သူတို့ကိုယ်တွင်းသို့ ပြန်၍ ဝင်ပါသေးသလော'

'ပြန်၍ မဝင်တော့ပါ ဘုရား'

ပလွေမှုတ်သောသူ၊ တံပိုးမှုတ်သောသူတို့နှင့် ပတ်သက်၍လည်း ဤသို့ပင် အမေး အဖြေ ပြုကြ၏။

'ထိုကဲ့သို့ ဖြစ်ပါလျက် ထိုသူတို့သည် အဘယ့်ကြောင့် အသက်မသေကြပါကုန်သနည်း'

'တပည့်တော်သည် စကားကတ်၍ ပြောဆိုတတ်သော အရှင်ဘုရားနှင့် စကား ဖက်ပြိုင် မပြောနိုင်တော့ပါ။ လိုအပ်သော အနက်အဓိပ္ပာယ်ကို ဟောကြားတော်မူပါရန် တောင်းပန်ပါ၏ ဘုရား'

'သင်ပြောဆိုသော လေသည် အသက် မဟုတ်ချေ။ ဤလေသည်ကား ကရဇကာယ တည်း ဟူသော စတုသမုဋ္ဌာနိက ရုပ်အပေါင်းက ပြုပြင် စီမံထားသော ထွက်သက် ဝင်သက်တို့သာတည်း'

ဤသို့ အရှင်နာဂသေနက သခ်ါရယမိုက် ပါဠိတော်မှာ လာရှိသော အဘိဓမ္မာ တရား သဘောတို့ကို မိန့်ကြားဖြေရှင်းလိုက်လေရာ အနန္တကာယ အမတ်သည် ရတနာ သုံးပါးကို ကိုးကွယ်ဆည်းကပ်သော ဉပါသကာ တစ်ယောက် ဖြစ်လာလေ၏။

## ၅။ ရဟန်းပြုရခြင်း၏ အကျိုးကား အဘယ်နည်း

ထို့နောက် အရှင် နာဂသေနသည် ရဟန်းရှင်သောင်းတို့နှင့် အတူတကွ နန်းတော်သို့ ဝင်ရောက် တော်မူ၏။ မိလိန္ဒမင်းသည် ရဟန်းအပေါင်းအား မြိန်မြတ်လှစွာသော ဆွမ်းခဲဖွယ်ဘောဇဉ်တို့ကို ဆက်ကပ်လှူဒါန်းပြီးလျှင် သင်္ကန်းတစ်စုံစီ ဆက်ကပ်၏။ အရှင် နာဂသေနကိုကား ဒုကုဋ်သင်္ကန်း ကြီးပါထည့်၍ (တိစီဝရိက်) သင်္ကန်းသုံးထည် လှူဒါန်း၏။ လှူဒါန်းရေးကိစ္စများ ပြီးစီးလတ် သော် မိလိန္ဒမင်းသည် အရှင်နာဂသေနနှင့် တကွ ရဟန်းဆယ်ပါးသာ နန်းတော်မှာ သီတင်း သုံးတော်မူရစ်ကြ၍ ကျန်သော ရဟန်းများ ပြန်ကြွတော်မူကြရန် လျှောက်ထား၏။ ရဟန်းများ ကြွသွားပြီးနောက် အရှင်နာဂသေနနှင့် ရဟန်းဆယ်ပါးသာ ကျန်ရစ်သောအခါ မိလိန္ဒမင်းက ဤသို့ လျှောက်ထား၏။

'အရှင် နာဂသေန ဘုရား၊ မည်ကဲ့သို့သော စကားမျိုးကို ပြောဆိုရပါအံ့နည်း'

'မင်းမြတ်၊ ငါတို့သည် အကျိုးစီးပွားကို အလိုရှိကြကုန်၏။ အကျိုးစီးပွားနှင့် ဆက်စပ်သော စကားကို ပြောဆိုကြပါကုန်အံ့'

'အရှင်ဘုရား၊ ရဟန်းပြုရခြင်းသည် အဘယ်အကျိုး ရှိပါသနည်း။ အရှင်ဘုရားတို့ တောင့်တ အပ်သော အကျိုးတရားကား အဘယ်ပါနည်း'

'မင်းမြတ်၊ သံသရာ ဝဋ်ဆင်းရဲ၏ ချုပ်ရာချုပ်ကြောင်း နည်းလမ်းကောင်းကို ရှာဖွေရန်၊ ယခုလက်ရှိ ခံစားနေရသော ဝဋ်ဒုက္ခမှတစ်ပါး အခြားသော ဝဋ်ဒုက္ခတို့ ဖြစ်ပေါ်မလာစေရန် ငါတို့ ရဟန်းပြုကြကုန်၏။ ထို့ကြောင့် ငါတို့ ရဟန်းပြုရခြင်းသည် သံသရာဝဋ်၏ ချုပ်ငြိမ်း

ခြင်း အကျိုးရှိ၏။ ယခုလက်ရှိ ခံစားနေရသော ဝဋ်ဒုက္ခမှတစ်ပါး အခြားသော ဝဋ်ဒုက္ခတို့ ဖြစ်ပေါ်မလာခြင်း အကျိုးရှိ၏။ ထို့ပြင် ငါတို့ တောင့်တအပ်သော အကျိုးတရားသည်ကား တဏှာဒိဋ္ဌိတို့ဖြင့် ကပ်ငြိစွဲလမ်းခြင်းမရှိဘဲ တဏှာကျော့ကွင်းမှ လွတ်ကင်းရခြင်းပင်တည်း'

'အရှင်ဘုရား၊ ရဟန်းအားလုံးတို့သည် ထိုကဲ့သို့သော အကျိုးတရားတို့ အလို့ငှာ ရဟန်းပြုကြပါကုန်သလော'

'မင်းမြတ်၊ အချို့သူတို့သည် ထိုအကျိုးတရားတို့ အလို့ငှာ ရဟန်းမပြုကြကုန်။ အချို့သူတို့သည် မင်း နှိပ်စက်ကုန်၍၊ အချို့သူတို့သည် ခိုးသူ နှိပ်စက်ကုန်၍၊ အချို့သူတို့သည် ကြွေးမြီ မဆပ်နိုင်ကုန်၍၊ အချို့သူတို့သည် အသက်မွေးဝမ်းကျောင်း ပြုလို၍ ရဟန်း ပြုလာကြကုန်၏။ သာသနာတော်ကို ကြည်ညိုစိတ်ဖြင့် ကောင်းမွန်စွာ ရဟန်းပြုလာသူတို့ကား ပြဆိုခဲ့ပြီးသော အကျိုးတရားတို့ အလို့ငှာ ဖြစ်ကြပေကုန်၏'

'အရှင်ဘုရား၊ အရှင်ဘုရားသည် ဤသို့သော် အကျိုးငှာ ရဟန်းပြုခဲ့ပါသလော'

'မင်းမြတ်၊ ငါသည် ငယ်စဉ်ကပင် ရှင်ရဟန်းပြုလာခဲ့၏။ နိဗ္ဗာန် အလို့ငှာ ရဟန်းပြုရသည်ဟု ငါမသိချေ။ သာကီနွယ်ဖွား ရဟန်းတော်များအထံမှ အတတ်ပညာ သင်ကြားလို၍သာ ရှင်ရဟန်း ပြုလာခဲ့၏။ ရှင်ရဟန်းအဖြစ် ရရှိပြီးခါမှ ရဟန်းအများက သင်ကြားပေးကြသဖြင့် ဤသို့သော နိဗ္ဗာန်အလို့ငှာ ရဟန်းပြုရ၏ဟု သိလည်း သိလာရပေတော့သည်။ မြင်လည်း မြင်လာရပေတော့သည်'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၆။ အရှင်ဘုရားသည် ပဋိသန္ဓေ နေဦးမည်လော

'အရှင် နာဂသေန ဘုရား၊ သေလွန်ပြီးနောက် တစ်ဖန် ပဋိသန္ဓေ မနေတော့သူ တစ်စုံတစ်ယောက် ရှိပါ၏လော'

'မင်းမြတ်၊ အချို့သောသူသည် တစ်ဖန် ပဋိသန္ဓေနေ၍ အချို့သောသူကား တစ်ဖန် ပဋိသန္ဓေ မနေတော့ချေ'

'အရှင်ဘုရား၊ အဘယ်သူသည် တစ်ဖန် ပဋိသန္ဓေနေ၍ အဘယ်သူသည် တစ်ဖန် ပဋိသန္ဓေ မနေတော့ပါသနည်း'

'မင်းမြတ်၊ ကိလေသာရှိနေသူသည် တစ်ဖန် ပဋိသန္ဓေနေ၍ ကိလေသာ မရှိသောသူကား တစ်ဖန် ပဋိသန္ဓေ မနေတော့ချေ'

'အရှင်ဘုရား၊ အရှင်ဘုရားသည် တစ်ဖန် ပဋိသန္ဓေနေပါဦးမည်လော'

'မင်းမြတ်၊ အကယ်၍ ငါ့မှာ ဥပါဒါန် ကပ်ငြိနေသေးလျှင် ပဋိသန္ဓေ နေရပေဦးမည်။ ငါ့မှာ ဥပါဒါန် ကင်းကွာသွားပြီးလျှင်ကား နောက်ထပ် တစ်ဖန် ပဋိသန္ဓေနေရန် မရှိတော့ပြီ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဥပါဒါန် ကင်းကွာ၍ တစ်ဖန် ပဋိသန္ဓေမနေတော့သူမှာ ရဟန္တာပုဂ္ဂိုလ် ဖြစ်၏။ ရဟန်းများ အဖို့ မိမိမှာ အဟုတ်တကယ် ထင်ရှားရှိနေသော ဈာန်မဂ်ဖိုလ်တရားကို လူတို့အား ပြောကြားလျှင် ပါစိတ် အာပတ်သင့်၏။ ထို့ကြောင့် အရှင်နာဂသေနက ပုဂ္ဂလဓိဋ္ဌာန်လွတ်အောင် ပြောကြားခြင်း ဖြစ်ပေ၏။]

## ၇။ ယောနိသော မနသိကာရသည် ပညာလော

'အရှင် နာဂသေန ဘုရား၊ ယောနိသော မနသိကာရ ဟူသော အသင့်အတင့် နှလုံးသွင်းခြင်းကြောင့် တစ်ဖန် ပဋိသန္ဓေမနေရခြင်း မဟုတ်ပါလော'

'မင်းမြတ်၊ ယောနိသော မနသိကာရကြောင့် လည်းကောင်း၊ ပညာကြောင့်လည်းကောင်း၊ သဒ္ဓါ စသော အခြားကုသိုလ်တရားတို့ကြောင့် လည်းကောင်း တစ်ဖန် ပဋိသန္ဓေ မနေရခြင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ ယောနိသော မနသိကာရသည်လျှင် ပညာ မဟုတ်ပါလော'

'မင်းမြတ်၊ ယောနိသော မနသိကာရသည် ပညာမဟုတ်ပေ။ ယောနိသော မနသိကာရက တခြား၊ ပညာက တခြားသာတည်း။ အမှန်အားဖြင့် ဆိတ်၊ သိုး၊ နွား၊ ကျွဲ၊ ကုလားအုတ်၊ မြည်း ဟူသော သတ္တဝါတို့မှာလည်း နှလုံးသွင်းမှု ဟူသော မနသိကာရ ရှိသည်သာတည်း။ သို့ရာတွင် ထိုသတ္တဝါတို့မှာ ပညာကား မရှိပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၈။ မနသိကာရနှင့် ပညာတို့ မည်သို့ထူးသနည်း

'အရှင် နာဂသေနဘုရား၊ မနသိကာရသည် အဘယ်လက္ခဏာ ရှိပါသနည်း။ ပညာသည် အဘယ် လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ မနသိကာရသည် စုစည်းခြင်း လက္ခဏာ ရှိ၏။ ပညာသည် ပိုင်းဖြတ်ခြင်း လက္ခဏာရှိ၏'

'အရှင်ဘုရား၊ မနသိကာရသည် အဘယ်ကဲ့သို့ စုစည်းခြင်း လက္ခဏာ ရှိပါသနည်း။ ပညာ သည် အဘယ်ကဲ့သို့ ပိုင်းဖြတ်ခြင်း လက္ခဏာ ရှိပါသနည်း။ ဥပမာ ပြတော်မူပါဦး'

'မင်းမြတ်၊ မုယောစပါးရိတ်သူတို့သည် အဘယ်သို့ ရိတ်ကြပါကုန်သနည်း'

'အရှင်ဘုရား၊ မုယောစပါးရိတ်သူတို့သည် လက်ဝဲလက်ဖြင့် မုယောစပါးပင်တို့ကို စုစည်း ဆုပ်ကိုင်၍ လက်ယာလက်မှ တံစဉ်ဖြင့် ပိုင်းဖြတ် ရိတ်လှီးကြပါသည်'

'မင်းမြတ်၊ ထို့အတူပင် ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်တို့သည် မနသိကာရဖြင့် မိမိ စိတ်ကို ဖမ်းယူစုစည်း၍ ပညာဖြင့် ကိလေသာတို့ကို ဖြတ်ကြပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၉။ သီလသည် အဘယ်လက္ခဏာရှိသနည်း

'အရှင် နာဂသေနဘုရား၊ 'ယောနိသော မနသိကာရ၊ ပညာတို့မှတစ်ပါး အခြား ကုသိုလ်တရားတို့ကြောင့် လည်းကောင်း'ဟု အရှင်ဘုရား မိန့်ဆိုခဲ့ပါ၏။ ထိုကုသိုလ်တရားတို့ကား အဘယ်ပါနည်း'

'မင်းမြတ်၊ သီလ၊ သဒ္ဓါ၊ သတိ၊ သမာဓိ တရားတို့ပေတည်း'

'အရှင်ဘုရား၊ သီလသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သီလသည် ကုသိုလ်တရား အားလုံးတို့၏ တည်ရာ မှီရာ လက္ခဏာရှိ၏။ သီလသည် ဣန္ဒြေ၊ ဗိုလ်၊ ဗောဇ္ဈင်၊ မဂ္ဂင်၊ သတိပဋ္ဌာန်၊ သမ္မပ္ပဓာန်၊ ဣဒ္ဓိပါဒ်၊ ဈာန်၊ ဝိမောက္ခ၊ သမာဓိ၊ သမာပတ် ဟူသော ဗောဓိပက္ခိယတရားတို့၏ တည်ရာမှီရာ လက္ခဏာရှိ၏။ ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် သီလ၌ တည်၍ သီလ၌ မှီ၍ သဒ္ဓိန္ဒြေ၊ ဝီရိယိန္ဒြေ၊ သတိန္ဒြေ၊ သမာဓိန္ဒြေ၊ ပညိန္ဒြေ ဟူသော ဣန္ဒြေငါးပါးတို့ကို ပွားများ၏။ ကုသိုလ်တရားတို့ တိုးပွားကြကုန်၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါ'

'မင်းမြတ်၊ အလုံးစုံသော သစ်ပင် ချုံနွယ်တို့သည် မြေ၌တည်၍ မြေ၌ မှီ၍ ကြီးထွားကြရ၊ ရှင်သန်ကြရ၊ ပြန့်ပွားကြရသကဲ့သို့ပင် ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည်လည်း သီလ၌ တည်၍၊ သီလ၌ မှီ၍ ဣန္ဒြေငါးပါးတို့ကို ပွားများရပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျွမ်းရင်း၌ မြေပေါ်မှာရပ်၍ အားစိုက်ခွန်စိုက် အလုပ်များ လုပ်ရပုံ၊ မြေပေါ်မှာပင် သုတ်သင်ရှင်းလင်း၍ အကွက်ရိုက်ကာ မြို့ပြတည်ထောင်ရပုံ၊ မြေကို တူးဆွ၍ နူးညံ့အောင် ပြုပြင်ထားပြီးမှ ကျွမ်းသမားများ ကျွမ်းကစားပြရပုံတို့ကိုလည်း ဥပမာ ပြုသေး၏။]

## ၁၀။ သဒ္ဓါသည် အဘယ်လက္ခဏာရှိသနည်း

'အရှင် နာဂသေနဘုရား၊ သဒ္ဓါသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သဒ္ဓါသည် ကြည်လင်စေခြင်း လက္ခဏာရှိ၏။ ကုသိုလ်အဖို့သို့ ပြေးဝင်ခြင်း လက္ခဏာလည်း ရှိ၏'

'အရှင်ဘုရား၊ သဒ္ဓါသည် အဘယ်ကဲ့သို့ ကြည်လင်စေခြင်း လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သဒ္ဓါတရား ဖြစ်ပေါ်လာလတ်သော် နီဝရဏတို့ ကင်းကွာကုန်၏။ နီဝရဏ ကင်းကွာသည် ဖြစ်၍ စိတ်သည် ကြည်လင်သန့်ရှင်း၏။ ဤသို့လျှင် သဒ္ဓါသည် ကြည်လင်စေခြင်း လက္ခဏာရှိ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ စကြဝတေး မင်းကြီးသည် စစ်အင်္ဂါ လေးပါးနှင့်တကွ ချောင်းငယ်ကို ဖြတ်ကူးပြီးနောက် 'အချင်းတို့၊ သောက်ရေကို ဆောင်ယူခဲ့ကြလော့။ ရေသောက်လို၏'ဟု မိန့်ဆိုရာ၏။

ထိုအခါ ထိုချောင်းငယ်အတွင်းရှိ အနည်းငယ်မျှသော ရေသည် စစ်သည်ဗိုလ်ပါတို့ ဖြတ်ကူး ထားသဖြင့် ရွှံ့နှစ်သဖွယ် နောက်ကျုနေရာ၏။ မင်းချင်းတို့သည် အခြားရေကို ရှာဖွေ၍ မရ ကြသဖြင့် ရွှံ့နှစ်သဖွယ် နောက်ကျုနေသော ထိုရေကိုပင် ခပ်ယူလာကြကာ စကြဝတေးမင်း၏ ရေကို ကြည် လင်စေတတ်သော ပတ္တမြား ရတနာကို ရေထဲသို့ ထည့်ကုန်၏။ ထိုအခါ ရေသည် မှော်ကြီး၊ မှော်သေးတို့ ကင်းစင်လာကာ နောက်ကျုခြင်းများ ပျောက်ကွယ်သွား၏။ ထိုအခါကျမှ မင်းချင်း တို့သည် စကြဝတေးမင်းကြီးအား သောက်တော်ရေ ဆက်ကပ်ကြကုန်ရာ၏။

'မင်းမြတ်၊ စိတ်ကို ရေကဲ့သို့ မှတ်ယူအပ်၏။ ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်ကို မင်းချင်းတို့ကဲ့သို့ မှတ်ယူအပ်၏။ ကိလေသာတို့ကို မှော်ကြီး၊ မှော်သေးတို့ကဲ့သို့ မှတ်ယူအပ်၏။ သဒ္ဓါတရားကို ပတ္တမြားရတနာကဲ့သို့ မှတ်ယူအပ်၏။ ပတ္တမြားရတနာကို ရေထဲမှာ ထည့်ကာမျှ ဖြင့်ပင် မှော်ကြီး၊ မှော်သေးတို့ ကင်းစင်လာကာ နောက်ကျုခြင်းများ ပျောက်ကွယ်သွားကြဘိ သကဲ့သို့ သဒ္ဓါတရား ဖြစ်ပေါ်လာလတ်သော် နီဝရဏတို့ ကင်းကွာကြကုန်၏။ နီဝရဏတို့ ကင်းကွာသည်ဖြစ်၍ စိတ်သည် ကြည်လင်သန့်ရှင်း၏။ ဤသို့လျှင် သဒ္ဓါသည် ကြည်လင်စေ ခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၁။ သဒ္ဓါ၏ လက္ခဏာ (၁)

'အရှင် နာဂသေနဘုရား၊ အဘယ်သို့လျှင် သဒ္ဓါသည် အကုသိုလ်အဖို့သို့ ပြေးဝင်ခြင်း လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် သူတစ်ပါးတို့၏ ကိလေသာမှ လွတ် မြောက်ပုံကို ရှုမြင်၍ သဒ္ဓါတရားဖြင့် အားကျကာ ဆတက်ထမ်းပိုး တိုး၍ စီးဖြန်းသဖြင့် သောတာပတ္တိဖိုလ်၌လည်းကောင်း၊ သကဒါဂါမိဖိုလ်၌ လည်းကောင်း၊ အနာဂါမိဖိုလ်၌ လည်း ကောင်း၊ အရဟတ္တဖိုလ်၌ လည်းကောင်း ပြေးဝင်၏။ မရသေးသော မဂ်ဖိုလ်ကို ရခြင်းငှာ အား ထုတ်၏။ ဤသို့လျှင် သဒ္ဓါသည် ကုသိုလ်အဖို့သို့ ပြေးဝင်ခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ တောင်ကျရေများဖြင့် ပြည့်လျှံနေသော မြစ်ထဲသို့ အစွမ်းသတ္တိနှင့် ပြည့်စုံသော ယောကျ်ားတစ်ယောက်သည် ခါးတောင်းကို မြဲမြဲစွာကျိုက်ကာ မြစ်ရေထဲသို့ ရဲဝံ့စွာ ဆင်းသက် ၍ ကူးခတ်သွား၏။ ထိုအခါ စောစောက မကူးဝံ့၍ ကမ်းပေါ်မှာ ရပ်နေကြသော သူတို့သည် လည်း ထိုယောကျ်ားကို အားကျကာ ရေထဲသို့ ဆင်း၍ ကူးခတ်ကြကုန်၏။

'မင်းမြတ်၊ ဤအတူသာပင် ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် သူတစ်ပါးတို့၏ ကိလေသာမှ လွတ်မြောက်ပုံကို ရှုမြင်၍ သဒ္ဓါတရားဖြင့် အားကျကာ ဖိုလ်လေးပါးတို့၌ ပြေး

ဝင်၏။ မရသေးသော မဂ်ဖိုလ်ကို ရခြင်းငှာ အားထုတ်၏။ ဤသို့လျှင် သဒ္ဓါသည် ကုသိုလ် အဖို့သို့ ပြေးဝင်ခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၂။ ဝီရိယသည် အဘယ်လက္ခဏာရှိသနည်း

'အရှင် နာဂသေနဘုရား၊ သတိသည် အဘယ် လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ ဝီရိယသည် ထောက်ပံ့နိုင်မာစေခြင်း လက္ခဏာ ရှိ၏။ ကုသိုလ်တရားတို့သည် ဝီရိယ၏ ထောက်ပံ့ခြင်းကို ရရှိကုန်၍ မဆုတ်ယုတ်ကြခြင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ အိမ်တစ်ဆောင် ပြိုကျမည် ပြုသောအခါ အိမ်ရှင်ယောကျ်ားသည် အခြားသစ်သား တစ်ခုဖြင့် ထောက်ပံ့ထားရာ၏။ သစ်သားဖြင့် ထောက်ပံ့ထားသဖြင့် ထိုအိမ်သည် မပြိုတော့ဘဲ တည်မြဲခိုင်ခံ့နေရာ၏။ ဤအတူပင် ဝီရိယသည် ထောက်ပံ့နိုင်မာစေခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ အားနည်းနေသော စစ်သည်ကို ပြည့်ရှင်မင်းက စစ်ကူထပ်၍ ဖြည့်ပေးသဖြင့် အားပြည့်လာကာ တစ်ဖက် စစ်တပ်များအား ဖျက်ဆီးနိုင်ပုံကိုလည်း ဥပမာ ပြုသေး၏။]

## ၁၃။ သတိသည် အဘယ်လက္ခဏာရှိသနည်း

'အရှင်နာဂသေနဘုရား၊ ဝီရိယသည် အဘယ် လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သတိသည် မမေ့ပျောက်စေခြင်း လက္ခဏာရှိ၏။ သိမ်းဆည်းခြင်း လက္ခဏာ လည်း ရှိပေ၏'

'အရှင်ဘုရား၊ သတိသည် အဘယ်သို့လျှင် မပျောက်ပျက်စေခြင်း လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သတိတရား ဖြစ်ပေါ်လာလတ်သော် ကုသိုလ်၊ အကုသိုလ်တရားတို့ကို မမေ့ ပျောက်စေဘဲ သိသိမှတ်မှတ် ရှုမြင်သုံးသပ်ကာ မှီဝဲသင့်သော ကုသိုလ်တရားတို့ကို မှီဝဲ၏။ မမှီဝဲ သင့်သော အကုသိုလ်တရားတို့ကို မမှီဝဲပေ။ ဤသို့လျှင် သတိသည် မမေ့ပျောက်စေခြင်း လက္ခဏာရှိပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ စကြဝတေးမင်း၏ ဘဏ္ဍာစိုးသည် ဆင်၊ မြင်း၊ စစ်သည်များနှင့်တကွ ရွှေ ငွေ ဘဏ္ဍာ ဥစ္စာ အားလုံးကို ရေတွက်ကာ နံနက်ခင်းမှာလည်းကောင်း၊ ညနေခင်းမှာ လည်းကောင်း စကြဝတေးမင်းထံ လျှောက်တင်ကာ စည်းစိမ်ဥစ္စာတို့ကို မမေ့မပျောက်အောင် ဆောင်ရွက်ရာ၏။

'မင်းမြတ်၊ ဤအတူပင် သတိတရား ဖြစ်ပေါ်လာလတ်သော် ကုသိုလ် အကုသိုလ်တရားတို့ကို မမေ့ပျောက်စေဘဲ သိသိမှတ်မှတ် ရှုမြင်သုံးသပ်ကာ မှီဝဲသင့်သော ကုသိုလ်တရားတို့ကို မှီဝဲ၏။ မမှီဝဲသင့်သော အကုသိုလ်တရားတို့ကို မမှီဝဲပေ'

'အရှင်ဘုရား၊ သတိသည် အဘယ်သို့လျှင် သိမ်းဆည်းခြင်း လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သတိတရား ဖြစ်ပေါ်လာလတ်သော် ဤတရားတို့ကား အကျိုးစီးပွားဖြစ် ရှိကုန်၏။ ဤတရားတို့ကား အကျိုးစီးပွား မရှိကုန်ဟု စူးစမ်းဆင်ခြင် သုံးသပ်ကာ အကျိုးစီးပွား မရှိသော တရားတို့ကို စွန့်ပယ်၍ အကျိုးစီးပွားရှိသော တရားတို့ကို သိမ်းဆည်း၏။ ဤသို့လျှင် သတိသည် သိမ်းဆည်းခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ စကြဝတေးမင်းကြီး၏ သားကြီး ဩရသသည် 'ဤသူတို့ကား မင်းအပေါ် ကျေးဇူးပြုကုန်၏။ ဤသူတို့ကား မင်းအပေါ် ကျေးဇူးမပြုကုန်ဟု စူးစမ်းဆင်ခြင်ကာ ကျေးဇူးမပြုသော သူတို့ကို ထုတ်ပယ်ပစ်၏။ ကျေးဇူးပြုသော သူတို့ကို သိမ်းသွင်း၍ ချီးမြှောက်ထောက်ပံ့၏။ ဤသို့လျှင် သတိသည် သိမ်းဆည်းခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၄။ သမာဓိသည် အဘယ်လက္ခဏာရှိသနည်း

'အရှင် နာဂသေနဘုရား၊ သမာဓိသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သမာဓိသည် အကြီးအမှူး ဖြစ်ခြင်း လက္ခဏာ ရှိ၏။ သမာဓိသည် ကုသိုလ်တရား အားလုံး၏ အကြီးအမှူး ဖြစ်၏။ ကုသိုလ် တရားအားလုံးတို့သည် သမာဓိ၌ ညွတ်ကုန်၏။ ကိုင်းကုန်၏။ ရှိုင်းကုန်၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ အထွတ်တပ်သော အိမ်၏ အခြင် ရနယ် ဟူသမျှသည် အထွတ်မှာ စုပေါင်းဆုံကြရကုန်၏။ အထွတ်သည် အခြင် ရနယ် ဟူသမျှတို့ထက် အချက်အချာကျ၍ မြင့်မြတ်၏။ ဤအတူပင် သမာဓိသည် ကုသိုလ်တရားအားလုံးတို့၏ အကြီးအမှူး ဖြစ်၏။ ကုသိုလ်တရားအားလုံးတို့သည် သမာဓိ၌ ညွတ်ကုန်၏။ ကိုင်းကုန်၏။ ရှိုင်းကုန်၏။

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ စစ်မြေပြင်၌ စစ်အင်္ဂါလေးပါးတို့က ပြည့်ရှင်မင်းထံ ဦးညွတ်ကြရပုံကိုလည်း ဥပမာ ပြုသေး၏။]

## ၁၅။ ပညာသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင်နာဂသေနဘုရား၊ ပညာသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ မနသိကာရ ပြဿနာ၌ပင် 'ပညာသည် ပိုင်းဖြတ်ခြင်း လက္ခဏာရှိ၏'ဟု ဖြေဆိုခဲ့ပေပြီ။ ယခုတစ်ဖန် တစ်နည်းအားဖြင့် ဖြေရသော်ကား ပညာသည် ထွန်းလင်းတောက်ပခြင်း လက္ခဏာရှိ၏'

'အရှင်ဘုရား၊ ပညာသည် အဘယ်ကဲ့သို့ ထွန်းလင်းတောက်ပခြင်း လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ ပညာ ဖြစ်ပေါ်လာလတ်သော် အဝိဇ္ဇာအမိုက်တိုက်ကို တိုက်ထုတ်ဖျက်ဆီး၏။ ဝိဇ္ဇာဉာဏ် အလင်းရောင် ထွန်းပြောင်လာ၏။ အရိယာ သစ္စာတို့ကို ထင်ထင်ရှားရှား သိမြင်လာ၏။ ထို့ကြောင့်ပင် ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် အနိစ္စ၊ ဒုက္ခ၊ အနတ္တသဘောတို့ကို ဖြောင့်ဖြောင့်မှန်မှန် ဉာဏ်ဖြင့် ရှုမြင်နိုင်ပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် မိုက်မှောင်သော အိမ်ထဲ၌ ဆီမီးညှိထွန်းလိုက်ရာ ဆီမီးသည် အမိုက်မှောင်ကို တိုက်ထုတ်၏။ အလင်းရောင်ကို တောက်ပြောင်စေ၏။ ထိုအလင်းရောင်ဖြင့် အိမ်ခန်းထဲရှိ အရာဝတ္ထုတို့၏ အဆင်း အရောင်တို့ကို ထင်ထင်ရှားရှား သိမြင်လာရ၏။ ဤအတူသာပင် ပညာ ဖြစ်ပေါ်လာလတ်သော် အဝိဇ္ဇာအမိုက်တိုက်ကို တိုက်ထုတ်ဖျက်ဆီး၏။ ဝိဇ္ဇာဉာဏ်အလင်းရောင် ထွန်းပြောင်လာ၏။ အရိယာ သစ္စာတို့ကို ထင်ရှားစွာ သိမြင်လာ၏။ ထို့ကြောင့်ပင် ကမ္မဋ္ဌာန်းစီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် အနိစ္စ၊ ဒုက္ခ၊ အနတ္တ သဘောတို့ကို ဖြောင့်ဖြောင့်မှန်မှန် ဉာဏ်ဖြင့် ရှုမြင်နိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၆။ အကြောင်းများစွာ အကျိုးတစ်ပါးသာလော

'အရှင် နာဂသေနဘုရား၊ ဆိုခဲ့ပြီးသော တရားတို့သည် တစ်သီးတခြား ကွဲပြားလျက် တစ်ပါးသော အကျိုးကိုသာ ပြီးစေပါသလော'

'မင်းမြတ်၊ မှန်ပေ၏။ ထိုတရားတို့သည် ကိလေသာကို သတ်နိုင်ကြပေကုန်၏'

'ထိုတရားတို့သည် အဘယ်သို့လျှင် တစ်ပါးတည်းသော အကျိုးကို ပြီးစေပါကုန်သနည်း။ အဘယ်သို့လျှင် ကိလေသာကို သတ်ကြပါကုန်သနည်း။ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ ဆင်တပ်၊ မြင်းတပ်၊ ရထားတပ်၊ ခြေလျင်တပ် တို့သည် တစ်သီးတခြား ကွဲပြားကြပါလျက် စစ်မြေပြင်၌ တစ်ဖက်မှ စစ်သည်များကို နှိမ်နင်းအောင်မြင်ခြင်း ဟူသော အကျိုးသရား တစ်ပါးတည်းကိုသာ ပြီးစေကြကုန်၏။ ဤအတူပင် ထိုအရာတို့သည်လည်း တစ်သီးတခြား ကွဲပြားကြပါလျက် တစ်ပါးတည်းသော အကျိုးကိုသာ ပြီးစေကြပေကုန်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

# အဒ္ဓါနဝဂ်

## ၁။ ရှေ့တရားနှင့် နောက်တရား မည်သို့ ဆက်စပ်သနည်း

'အရှင်နာဂသေနဘုရား၊ တစ်စုံတစ်ယောက်သော သူသည် ပဋိသန္ဓေ တည်နေလာ၏။ ထိုသူသည် ရှေးဘဝကသူပင် ဖြစ်သလော။ သို့မဟုတ် အခြားသူပင် ဖြစ်ပါသလော'

'မင်းမြတ်၊ ရှေးဘဝကသူလည်း မဟုတ်၊ အခြားသူလည်း မဟုတ်ပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ရှေးယခင်က သင်မင်းမြတ်သည် ပက်လက်မျှသာ အိပ်တတ်သေးသော ကလေးငယ် ဖြစ်ခဲ့၏။ ယခု လူကြီးဖြစ်လာသော သင် မင်းမြတ်သည် ထိုကလေးငယ်ပင် ဖြစ်ပါသလော'

'အရှင်ဘုရား၊ ထိုကလေးငယ်သည် တခြားဖြစ်၍ ယခု လူကြီးဖြစ်လာသော တပည့်တော်ကား တခြားဖြစ်ပါသည်'

'မင်းမြတ်၊ ဤသို့ဖြစ်လျှင် အမိ အဖ၊ ဆရာသမား၊ အတတ်ပညာ တတ်ကျွမ်းသူ၊ သီလရှိသူ၊ ပညာရှိသူ ဟူ၍ ရှိနိုင်ကြတော့မည် မဟုတ်ပေ။ မင်းမြတ်၊ အသို့ပေနည်း။ ကလလ ရေကြည် တည်စဉ်က အမိသည် အခြားတစ်ယောက်ဖြစ်ကာ အမြှုပ်ဖြစ်စဉ်က အမိသည် အခြားတစ်ယောက် ဖြစ်လေသလော'

'အရှင်ဘုရား၊ ဤသို့ မဟုတ်ပါ'

သားတစ် ဖြစ်စဉ်၊ အတုံးအခဲ ဖြစ်စဉ်၊ သူငယ် ဖြစ်စဉ်၊ လူကြီး ဖြစ်စဉ် အခါများနှင့် ပတ်သက်၍လည်း ဤသို့ပင် မေးမြန်းကြ၏။

'အခြားတစ်ယောက်သည် အတတ်ပညာ သင်ယူ၍ အခြားတစ်ယောက်က အတတ်ပညာ တတ်မြောက်နေပါသလော'

'အရှင်ဘုရား၊ ဤသို့ မဟုတ်ပါ'

'အခြားတစ်ယောက်က မကောင်းမှုကို ကျူးလွန်၍ အခြားတစ်ယောက်က လက်ဖြတ် ခြေဖြတ် ခံရပါသလော'

'အရှင်ဘုရား၊ ဤသို့မဟုတ်ပါ။ ဤပြဿနာအတိုင်း အခြားသူက အရှင်ဘုရားအား မေးမြန်းကြပါလျှင် အရှင်ဘုရားက မည်သို့ဖြေကြားပါမည်နည်း'

'မင်းမြတ်၊ ငါသည် ပက်လက်မျှသာ အိပ်တတ်သေးသော ကလေးငယ် ဖြစ်ခဲ့ပြီးလျှင် ယခုအခါ ကြီးရင့်လာ၏။ ဤကိုယ်ခန္ဓာကို အမှီပြု၍သာလျှင် အရွယ်သုံးပါးလုံးကို သိမ်းကျုံး၍ ရထားပေ၏'

'အရှင်ဘုရား၊ ထပ်မံ၍ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ တစ်စုံတစ်ယောက်သော သူသည် မီးတိုင်ကို ထွန်းညှိပေးရာ၏။ ထိုမီးတိုင်သည် တစ်ညဉ့်ပတ်လုံး ထွန်းလင်းပါမည်လော'

'အရှင်ဘုရား၊ ထွန်းလင်းပါလိမ့်မည်'

'မင်းမြတ်၊ အသို့ပါနည်း။ သန်းခေါင်ယံမှ မီးတောက်သည် ညဉ့်ဦးယံမှ မီးတောက်ပေလော'

'အရှင်ဘုရား၊ မဟုတ်ပါ'

'မိုးသောက်ယံမှ မီးတောက်သည် သန်းခေါင်ယံမှ မီးတောက်ပေလော'

'အရှင်ဘုရား၊ မဟုတ်ပါ'

'မင်းမြတ်၊ အသို့နည်း။ ညဉ့်ဦးယံက မီးတောက်သည် တခြားဖြစ်၍ သန်းခေါင်ယံက မီးတောက်သည် တခြားပေလော'

'အရှင်ဘုရား၊ မဟုတ်ပါ'

'သန်းခေါင်ယံမှ မီးတောက်သည် တခြားဖြစ်၍ မိုးသောက်ယံမှ မီးတောက်သည် တခြားပေလော'

'အရှင်ဘုရား၊ မဟုတ်ပါ။ ညဉ့်ဦးယံ၌ ရှိခဲ့သော မီးတောက်ကို အမှီပြု၍သာလျှင် တစ်ညလုံး ထွန်းလင်းနေခြင်း ဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင် ဖြစ်ပေါ်လာသော တရားတို့သည် ရှေ့တရားနှင့် နောက်တရား ဆက်စပ်နေကြကုန်၏။ တရားတစ်ခုသည် ဖြစ်ပေါ်၍ တရားတစ်ခုသည် ချုပ်ပျောက်၏။ မရှေးမနှောင်း တစ်ပြိုင်နက် ဖြစ်ပေါ်နေသကဲ့သို့ ရှေ့တရားနှင့် နောက်တရား ဆက်စပ်နေ၏။ ထို့ကြောင့်ပင် ရှေးဘဝကသူလည်း မဟုတ်။ ရှေးဘဝကသူမှတစ်ပါး အခြားသူလည်း မဟုတ်။ ရှေးဘဝနှင့် နောက်ဘဝမှ စိတ်ဝိညာဉ်သည် တစ်ပေါင်းတည်း ဆက်စပ်နေပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ နို့ရည်မှ နို့ဓမ်းဖြစ်လာပုံကိုလည်း ဥပမာပြုသေး၏။]

## ၂။ ပဋိသန္ဓေ မနေရတော့ကြောင်း ကိုယ်တိုင်သိနိုင်သလော

'အရှင် နာဂသေနဘုရား၊ ပဋိသန္ဓေ မနေရတော့သော ပုဂ္ဂိုလ်သည် ငါ ပဋိသန္ဓေ နေရတော့မည် မဟုတ်ဟု သိနိုင်ပါသလော'

'မင်းမြတ်၊ သိနိုင်ပေ၏'

'အရှင်ဘုရား၊ အဘယ်သို့ သိနိုင်ပါသနည်း'

'မင်းမြတ်၊ ပဋိသန္ဓေ နေရခြင်း၏ အကြောင်းဖြစ်သော အဝိဇ္ဇာနှင့် တဏှာ ကင်းပြတ်ခြင်းကြောင့် ထိုသူသည် ငါ ပဋိသန္ဓေ နေရတော့မည်မဟုတ်ဟု သိနိုင်ပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ လယ်သမားသည် လယ်ကို ထွန်ယက်စိုက်ပျိုးပါမှ စပါးကျီ ပြည့်အောင် စပါးများ ရပေရာ၏။ ထိုလယ်သမားသည် ထွန်ယက်စိုက်ပျိုးမှု မပြုဘဲ နေရာ၏။ ကျီမှာ ထည့်ထားသော စပါးတို့ကိုလည်း စားသောက်၊ ပေးကမ်း၊ သုံးစွဲ၍ ကုန်လေရာ၏။ ထိုအခါ ထိုလယ်သမားသည် ငါ့ကျီ၌ စပါးပြည့်တော့မည် မဟုတ်ဟု မသိနိုင်ပါသလော'

'အရှင်ဘုရား၊ သိနိုင်ပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ပဋိသန္ဓေ နေရခြင်း၏ အကြောင်းဖြစ်သော အဝိဇ္ဇာနှင့် တဏှာ ကင်းပြတ်ခြင်းကြောင့် ထိုသူသည် ငါ ပဋိသန္ဓေနေရတော့မည် မဟုတ်ဟု သိနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ပဋိသန္ဓေနေရန် မရှိသော ပုဂ္ဂိုလ်ကား ရဟန္တာပုဂ္ဂိုလ်ဖြစ်၏။]

## ၃။ ဉာဏ်ရှိသူသည် တွေဝေသေးသလော

'အရှင် နာဂသေန ဘုရား၊ ဉာဏ်သည်ပင် ပညာဖြစ်ပါသလော'

'မင်းမြတ်၊ ဉာဏ်သည်ပင် ပညာဖြစ်ပေ၏'

'အရှင်ဘုရား၊ ထိုဉာဏ်ပညာ ဖြစ်ပေါ်သောသူသည် တွေဝေပါသေးသလော။ မတွေဝေတော့ပြီလော'

'မင်းမြတ်၊ အချို့သောအရာ၌ တွေဝေရာ၏။ အချို့သောအရာ၌ မတွေဝေပေ'

'အရှင်ဘုရား၊ အဘယ်အရာ၌ တွေဝေပါသနည်း'

'မင်းမြတ်၊ မတတ်ကျွမ်းသေးသော အတတ်ပညာ၌သော်လည်းကောင်း၊ မရောက်ဖူးသေးသော အရပ်ဒေသ၌သော်လည်းကောင်း၊ မကြားဖူးသေးသော အမည်ပညတ်၌သော်လည်းကောင်း တွေဝေရာ၏'

'အရှင်ဘုရား၊ အဘယ်အရာ၌ မတွေဝေပါသနည်း'

'မင်းမြတ်၊ ထိုပညာဖြင့် ပြုလုပ်အပ်သော အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဟူသော ဘာဝနာလုပ်ငန်း၌ကား မတွေဝေပေ'

'အရှင်ဘုရား၊ ထိုဘာဝနာလုပ်ငန်း ပြုလုပ်သော ပညာရှိအား မောဟ ဟူသော တွေဝေခြင်းသည် အဘယ်သို့ ရောက်သွားပါသနည်း'

'ဉာဏ်ဖြစ်ပေါ်လာကာမျှပင် မောဟသည် ချုပ်ပျောက်သွားပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် မိုက်မှောင်နေသော အိမ်ခန်းထဲ၌ ဆီမီးညှိထွန်းလိုက်ရာ၏။ ဆီမီး ညှိထွန်းခြင်းကြောင့် အမိုက်မှောင် ချုပ်ပျောက်ကာ အလင်းရောင် တောက်ပလာရာ၏။ ဤအတူသာပင် ဉာဏ်ဖြစ်ပေါ်လာကာမျှ၌ပင် မောဟသည် ချုပ်ပျောက်သွားပေ၏'

'မောဟကို ချုပ်ပျောက်စေသော ပညာသည်ကား အဘယ်သို့ ရောက်သွားပါသနည်း'

'ပညာသည်လည်း မိမိ၏ ပြုဖွယ်ကိစ္စဖြစ်သော သိခြင်းကိစ္စကို ပြုပြီးလျှင် ပြုပြီးကာမျှ ထိုခဏမှာပင် ချုပ်ပျောက်သွားပေ၏။ အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဟူသော ဘာဝနာလုပ်ငန်းကား ချုပ်ပျောက်မသွားပေ'

'အရှင်ဘုရား၊ ဤစကားကို သိသာထင်ရှားစေရန် ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် ညဉ့်အခါတွင် မီးထွန်း၍ စာရေးတစ်ယောက်အား သဝဏ်စာကို ရေးသားစေ၏။ သဝဏ်စာ ရေးသား၍ ပြီးသွားသောအခါ မီးကို ငြိမ်းစေ၏။ မီးငြိမ်း၍ သွားသော်လည်း ရေးသားထားသော သဝဏ်စာကား ပျောက်ကွယ်၍ မသွားပေ။ ဤအတူသာပင် ပညာသည် မိမိ၏ ပြုဖွယ်ကိစ္စဖြစ်သော သီးခြားကိစ္စကို ပြုပြီးကာမျှ ထိုခဏမှာပင် ချုပ်ပျောက်သွားပေ၏။ အနိစ္စ၊ ဒုက္ခ၊ အနတ္တ ဟူသော ဘာဝနာလုပ်ငန်းကား ချုပ်ပျောက်မသွားပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ ရေအိုးငါးလုံးတို့ဖြင့် မီးကိုငြိမ်းပြီးနောက် ရေအိုးကို တစ်ဖန်ပြန်၍ အသုံးပြုရန် မလိုတော့ပုံ၊ ဆေးမြစ် ငါးမျိုးတို့ဖြင့် အနာရောဂါကို ကုသပြီးနောက် ဆေးမြစ်ငါးမျိုးတို့ကို တစ်ဖန်ပြန်၍ အသုံးပြုရန် မလိုတော့ပုံ၊ မြားငါးစင်းတို့ဖြင့် တစ်ဖက်စစ်သည်တို့ကို ပစ်ခွင်းသတ်ဖြတ်ပြီးနောက် မြားငါးစင်းတို့ကို တစ်ဖန်ပြန်၍ အသုံးပြုရန် မလိုတော့ပုံတို့ကိုလည်း ဥပမာ ပြုပါသေး၏။ ရေအိုး ငါးလုံး၊ ဆေးမြစ် ငါးမျိုးနှင့် မြားငါးစင်းတို့၏ ဥပမေယျကား သဒ္ဓါ စသော ဣန္ဒြေငါးမျိုးတို့တည်း။]

## ၄။ ရဟန္တာပုဂ္ဂိုလ်သည် အဘယ်ဝေဒနာကို ခံစားသနည်း

'အရှင် နာဂသေနဘုရား၊ ပဋိသန္ဓေ မနေရတော့သော ရဟန္တာပုဂ္ဂိုလ်သည် ဝေဒနာတစ်စုံတစ်ခုကို ခံစားရပါသေးသလော'

'မင်းမြတ်၊ အချို့သော ဝေဒနာကို ခံစားရ၏။ အချို့သော ဝေဒနာကို မခံစားပေ'

'အရှင်ဘုရား၊ အဘယ်ဝေဒနာကို ခံစားရ၍ အဘယ်ဝေဒနာကို မခံစားရပါသနည်း'

'မင်းမြတ်၊ ကိုယ်၌ဖြစ်သော ဒုက္ခဝေဒနာကို ခံစားရ၏။ စိတ်၌ဖြစ်သော ဒုက္ခဝေဒနာကို မခံစားရပေ'

'အရှင်ဘုရား၊ ကိုယ်၌ဖြစ်သော ဒုက္ခဝေဒနာကို အဘယ်သို့ ခံစားရ၍ စိတ်၌ဖြစ်သော ဒုက္ခဝေဒနာကို အဘယ်သို့ မခံစားရပါသနည်း'

'မင်းမြတ်၊ ကိုယ်၌ ဒုက္ခဝေဒနာ ဖြစ်ပေါ်ခြင်း၏ အကြောင်းဖြစ်သော ခန္ဓာငါးပါးနှင့် မကင်းသေးသောကြောင့် ရဟန္တာပုဂ္ဂိုလ်သည် ဒုက္ခဝေဒနာကို ခံစားရ၏။ စိတ်၌ဖြစ်သော ဒုက္ခဝေဒနာ ဖြစ်ပေါ်ခြင်း၏ အကြောင်း မကောင်းသော ကိလေသာ တရားတို့ကို ပယ်ပြီးဖြစ်၍ ရဟန္တာပုဂ္ဂိုလ်သည် စိတ်၌ဖြစ်သော ဒုက္ခဝေဒနာကို မခံစားရပေ'

'အရှင်ဘုရား၊ ရဟန္တာပုဂ္ဂိုလ်သည် ဒုက္ခဝေဒနာကို ခံစားနေရပါလျက် အဘယ်ကြောင့် ပရိနိဗ္ဗာန် မစံပါသနည်း'

'မင်းမြတ်၊ ရဟန္တာပုဂ္ဂိုလ်တို့၌ ချစ်ခြင်း၊ မုန်းခြင်းတို့ မရှိတော့ပေ။ ရဟန္တာပုဂ္ဂိုလ်တို့သည် ပညာဖြင့် ဆင်ခြင်ကုန်၍ သေချိန်မကျသေးသော ကိုယ်ခန္ဓာကိုသေအောင် မပြုလုပ်ကြချေ။ သေရမည့်အချိန်ကိုသာ စောင့်ဆိုင်း၍ နေကြကုန်၏'

'မင်းမြတ်၊ တရားစစ်သူကြီး ဖြစ်သော အရှင်သာရိပုတ္တရာသည် 'သေဆုံးခြင်းကို ငါ မတောင့်တ။ အသက်မသေ တည်နေရခြင်းကိုလည်း ငါ မတောင့်တ။ စင်စစ်သော်ကား အခစား အလုပ်သမားသည် လုပ်ခရမည့်အချိန်ကို စောင့်မျှော်၍ နေဘိသကဲ့သို့ သေဆုံးရမည့် အချိန်ကို စောင့်မျှော်၍ နေပါ၏။

'သေဆုံးခြင်းကို ငါ မတောင့်တ။ အသက်မသေ တည်နေရခြင်းကိုလည်း ငါ မတောင့်တ။ စင်စစ်သော်ကား ဉာဏ်ပညာဖြင့် ကောင်းစွာ ယုဉ်စပ်၍ သတိနှင့် ပြည့်စုံသည်ဖြစ်၍ သေဆုံးရမည့် အချိန်ကိုသာ ငါစောင့်မျှော်၍ နေပါ၏'ဟု မိန့်ကြားတော်မူခဲ့ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၉။ သုခဝေဒနာသည် ဆင်းရဲသေးသလော

'အရှင် နာဂသေနဘုရား၊ သုခဝေဒနာသည် ကုသိုလ်လော။ အကုသိုလ်လော။ အဗျာကတပင် ဖြစ်ပါသလော'

'မင်းမြတ်၊ အချို့သော သုခ ဝေဒနာသည် ကုသိုလ်ဖြစ်၏။ အချို့သော သုခ ဝေဒနာသည် အကုသိုလ် ဖြစ်၏။ အချို့သော သုခ ဝေဒနာသည် အဗျာကတ ဖြစ်၏'

'အရှင်ဘုရား၊ သုခဝေဒနာသည် ကုသိုလ်ဖြစ်ခဲ့ပါလျှင် ဒုက္ခမဖြစ်ပေရာ။ ဒုက္ခဖြစ်နေပြန်လျှင်လည်း ကုသိုလ် မဖြစ်ပေရာ။ ကုသိုလ်မည်သည် ဒုက္ခဟူ၍ မဖြစ်သင့်ပါ'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်၏ လက်ထဲ၌ လောလောပူသော သံတွေခဲကို ကိုင်ထားရာ၏။ အခြား လက်တစ်ဖက်၌ အေးစက်လှသော ဆီးနှင်းခဲကို ကိုင်ထားရာ၏။ မင်းမြတ် အသို့ပါနည်း။ ထိုအပူ အအေးနှစ်မျိုးလုံးတို့သည် လောင်မြိုက်ကြပါမည်လော'

'အရှင်ဘုရား၊ မှန်လှပါ၏။ နှစ်မျိုးလုံးပင် လောင်မြိုက်ကြပါလိမ့်မည်'

'ထိုနှစ်မျိုးလုံးသည် အပူချည်းလော'

'အပူချည်း မဟုတ်ပါ'

'ထိုနှစ်မျိုးလုံးသည် အအေးချည်းလော'

'အအေးချည်းလည်း မဟုတ်ပါ'

'မင်းမြတ်၊ လောလော ပူသော သံတွေခဲက လောင်သည်ဖြစ်အံ့။ နှစ်မျိုးလုံးသည် အပူ ချည်း မဟုတ်သောကြောင့် အပူက လောင်သည် ဟူသော စကားသည် မမှန်ပေရာ။ အကယ်၍ အအေးက လောင်သည်ဖြစ်အံ့။ နှစ်မျိုးလုံးသည် အအေးချည်း မဟုတ်သောကြောင့် အအေးက လောင်သည် ဟူသော စကားသည် မမှန်ပေရာ'

'အရှင်ဘုရား၊ စကားကတ်၍ ပြောဆိုတတ်သော အရှင်ဘုရားနှင့် တပည့်တော် ယှဉ်ပြိုင်၍ မပြောနိုင်တော့ပါ။ ဆိုလိုသော အနက်အဓိပ္ပာယ်ကိုသာ မိန့်ကြားတော်မူပါ'

'မင်းမြတ်၊ ဝေဒနာသည် အမျိုးမျိုး အစားစား များပြားလှစွာ ကုန်၏။ ပင်ရင်း မူလာအား ဖြင့် သောမနဿ၊ ဒေါမနဿ၊ ဥပေက္ခာ ဟူ၍ ဝေဒနာသုံးမျိုး ရှိကုန်၏။ ထိုဝေဒနာ သုံးမျိုး ကို ကာမဂုဏ်ခံစားမှုနှင့် သက်ဆိုင်သော ဂေဟာဿိတ၊ ကာမဂုဏ်မှ ထွက်မြောက်ကြောင်းနှင့် ဈာန် မဂ်ဖိုလ်တို့နှင့် ပတ်သက်သော နေက္ခမ္မဿိတ အားဖြင့် မြှောက်ပွားလိုက်သော် ဝေဒနာ ခြောက်မျိုး ဖြစ်ကုန်၏။ ထိုဝေဒနာခြောက်မျိုးတို့ကို ရူပါရုံ စသော အာရုံခြောက်ပါးနှင့် မြှောက် ပွားလိုက်သော် ဝေဒနာ သုံးဆယ့်ခြောက်မျိုး ရှိကုန်၏။ ထိုဝေဒနာ သုံးဆယ့်ခြောက်မျိုးတို့ကို အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်ကာလသုံးတန်နှင့် မြှောက်ပွားပြန်သော် ဝေဒနာ တစ်ရာ့ရှစ်မျိုးတို့ ဖြစ်လာကြပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[သုခဝေဒနာဟူသော ခံစားမှုသဘော သက်သက်ကိုသာ ရှု၍ မိလိန္ဒမင်းက ဒုက္ခမဖြစ်နိုင်ကြောင်း အဆိုပြု၏။ အရှင်နာဂသေနက ကုသိုလ်ပင် ဖြစ်သော်လည်း ဖြစ်ခြင်းပျက်ခြင်းနှင့် မကင်းနိုင်၍ ဒုက္ခ သာ ဖြစ်ကြောင်း သစ္စာနည်းအားဖြင့် ဖြေဆို၏။ ကုသိုလ်ပင် ဖြစ်သော်လည်း ဖြစ်ခြင်း ပျက်ခြင်း မကင်းသဖြင့် ဒုက္ခဖြစ်ပုံကို အေးစက်သော ဆီးနှင်းခဲ၏ လောင်ကျွမ်းပုံနှင့် ဥပမာပြုထား၏။ ထို့နောက် တစ်နေရာ တစ်ဌာနမှာ ဟောကြားထားသော ဝေဒနာတစ်မျိုးမျိုးကိုသာ တရားသေ စွဲမှတ်မထားစေ ရန် အရာဌာနအားလျော်စွာ အမျိုးမျိုးအဖုံဖုံ ဟောကြားထားသော ဝေဒနာများကို ထုတ်ဖော်မိန့်ကြား ပေ၏။]

## ၆။ ပဋိသန္ဓေတည်နေသော နာမ်ရုပ်တား အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ အဘယ်တရားသည် ပဋိသန္ဓေတည်နေပါသနည်း'

'မင်းမြတ်၊ နာမ်ရုပ်သည် ပဋိသန္ဓေတည်နေ၏'

'အရှင်ဘုရား၊ ဤပစ္စုပ္ပန် နာမ်ရုပ်သည် ပဋိသန္ဓေ တည်နေပါသလော'

'မင်းမြတ်၊ ဤပဋိသန္ဓေနာမ်ရုပ်သည် ပဋိသန္ဓေ မတည်နေပါ။ စင်စစ်အားဖြင့် ဤပဋိသန္ဓေ နာမ်ရုပ်ကို အမှီပြု၍ ပြုလုပ်ကြရသော ကုသိုလ်ကံ၊ အကုသိုလ်ကံကြောင့် အခြားသော နာမ်ရုပ်က ပဋိသန္ဓေ တည်နေလာပေ၏'

'အရှင်ဘုရား၊ ဤပဋိသန္ဓေနာမ်ရုပ်သည် ပဋိသန္ဓေ မတည်နေပါလျှင် ယုတ်ညံ့သော အကုသိုလ် ကံတို့မှ လွတ်မြောက်ရမည်သာ မဟုတ်ပါလော'

'မင်းမြတ်၊ အကယ်၍ နောက်ထပ်တစ်ဖန် ပဋိသန္ဓေ မတည်နေရပါလျှင် ယုတ်ညံ့သော အကုသိုလ်ကံတို့မှ လွတ်မြောက်ရာ၏။ ပဋိသန္ဓေ တည်နေရသေးလျှင်ကား အကုသိုလ်ကံတို့မှ မလွတ်မြောက်နိုင်ပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် သရက်သီးကို ခိုးယူလေရာ ပိုင်ရှင်ဖြစ်သူက ခိုးသူ ကို ဖမ်းယူ၍ မင်းကြီးထံ ပြသရာ၏။ ထိုအခါ ခိုးသူက 'မင်းကြီး၊ ကျွန်ုပ်သည် ဤသူ၏ သရက် သီးကို မခိုးယူပါ။ ဤသူ စိုက်ပျိုးခဲ့သော သရက်ပင်သည် အခြားဖြစ်၍ ကျွန်ုပ်ခိုးယူသော သရက်သီးကား တခြား ဖြစ်ပါသည်။ သို့ဖြစ်၍ ကျွန်ုပ်ကို အပြစ်ဒဏ် မပေးသင့်ပါ'ဟု လျှောက် ရာ၏။ ဤတွင် သင်မင်းမြတ်သည် ထိုခိုးသူကို အပြစ်ပေးပါမည်လော'

'အရှင်ဘုရား၊ ထိုခိုးသူကို တပည့်တော် အပြစ်ဒဏ်ပေးရမည်သာ ဖြစ်ပါသည်။ ပိုင်ရှင် စိုက်ပျိုးခဲ့သော သရက်ပင်က တခြား၊ ခိုးယူသော သရက်သီးက တခြားဟု ဆိုပါသော်လည်း ရှေးက စိုက်ပျိုးခဲ့သော သရက်ပင်နှင့် အကြောင်းအကျိုး ဆက်စပ်သောကြောင့်ပင် ဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင် ဤရုပ်နာမ်ကို အမှီပြု၍ ပြုလုပ်ကြရသော ကုသိုလ်ကံ၊အကုသိုလ် ကံ အကြောင်းအကျိုး ဆက်စပ်နေသောကြောင့် ပဋိသန္ဓေတည်နေရန် ရှိသေးလျှင် အကုသိုလ်ကံ တို့မှ မလွတ်မြောက်နိုင်ပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ သလေးစပါးကို ခိုးယူပုံ၊ အိမ်ပေါ်မှာ မီးထွန်း၍ ထမင်းစားရာမှ အိမ်အမိုးကို မီး လောင်ကာ တစ်ရွာလုံး မီးလောင်ရပုံ။ ငယ်ရွယ်စဉ်က စေ့စပ်ထားသော လုံမငယ် အရွယ်ရောက်ခါမှ အခြားတစ်ယောက်က လက်ထပ်ယူပုံ၊ နွားနို့မှ နို့ဓမ်းဖြစ်လာပုံတို့ကိုလည်း ဥပမာပြုပါသေး၏။]

## ၇။ အရှင်ဘုရား ပဋိသန္ဓေနေဦးမည်လော

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားသည် ပဋိသန္ဓေ တည်နေပါဦးမည်လော'

'မင်းမြတ်၊ ဤပြဿနာ မမေးပါလင့်။ ဤပြဿနာကို မေးခြင်းဖြင့် သင် မင်းမြတ်မှာ ဘာ အကျိုးရှိပါမည်နည်း။ 'ဥပါဒါန် ရှိနေသေးလျှင် ပဋိသန္ဓေ တည်နေရဦးအံ့။ ဥပါဒါန် မရှိတော လျှင် ပဋိသန္ဓေ မတည်နေတော့ပြီ'ဟု စောစောကပင် ငါ ဖြေကြားခဲ့ပြီ မဟုတ်လော'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ မိမိအား ကျေးဇူးပြုတတ်သော မင်းခစား တစ်ယောက်ကို မင်းသည် နှစ်သက်လှသဖြင့် ကာမဂုဏ်ငါးပါးတို့ဖြင့် ချီးမြှောက်၍ထားရာ၏။ ထိုမင်းခစား ယောက်ျားသည် 'ဤမင်းကား ငါ့အပေါ် တစ်စုံတစ်ရာမျှ ကျေးဇူးမပြု'ဟု ဆိုချေသော် ထိုမင်းခစား ယောက်ျား၏ အမှုသည် သင့်လျော်ပါမည်လော'

'အရှင်ဘုရား၊ မသင့်လျော်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဤပြဿနာကို မေးခြင်းဖြင့် သင်မင်းမြတ်မှာ ဘာအကျိုးရှိပါမည်နည်း။ ဥပါဒါန် ရှိနေသေးလျှင် ပဋိသန္ဓေတည်နေရဦးအံ့။ ဥပါဒါန် မရှိတော့လျှင် ပဋိသန္ဓေမတည်နေရတော့ပြီဟု စောစောကပင် ငါဖြေကြားခဲ့ပြီ မဟုတ်ပါလော'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၈။ နာမ်ရုပ်တို့၏ သဘောတား အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ အဘယ် တရားသည် နာမ် ဖြစ်ပါသနည်း။ အဘယ်တရားသည် ရုပ်ဖြစ်ပါသနည်း'

'မင်းမြတ်၊ ထင်ရှားသော၊ ကြမ်းတမ်းသော သဘောသည် ရုပ်ပေတည်း။ နူးညံ့သိမ်မွေ့သော စိတ်စေတသိက်တို့ကား နာမ်ပေတည်း'

'အရှင်ဘုရား၊ အဘယ့်ကြောင့် ရုပ်ချည်းသက်သက် ပဋိသန္ဓေ မတည်နေပါသနည်း။ အဘယ့်ကြောင့် နာမ်ချည်းသက်သက် ပဋိသန္ဓေ မတည်နေပါသနည်း'

'မင်းမြတ်၊ နာမ်တရား၊ ရုပ်တရားတို့သည် တစ်ပါးအပေါ် တစ်ပါးက မှီတွယ်နေကြကုန်သည်ဖြစ်၍ တစ်ပေါင်းတည်းသာလျှင် ပဋိသန္ဓေ တည်နေကြကုန်၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ကြက်မအား ကလလ ရေကြည် မဖြစ်လာလျှင် ကြက်ဥ ဟူ၍ ဖြစ်ပေါ်မလာနိုင်ရာ။ကလလ ရေကြည်နှင့် ကြက်ဥတို့သည် တစ်ခုအပေါ်တစ်ခုက မှီတွယ်နေကြကုန်၏။ ကလလ ရေကြည်နှင့် ကြက်ဥတို့ တစ်ပေါင်းတည်း တည်နေကြပုံ ထင်ရှား၏။ ဤအတူသာပင် နာမ်တရားနှင့် ရုပ်တရားတို့သည် တစ်ပါးအပေါ် တစ်ပါးက မှီတွယ်နေကြကုန်သည် ဖြစ်၍ တစ်ပေါင်းတည်းသာလျှင် ပဋိသန္ဓေ တည်နေကြကုန်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ပဉ္စဝေါကာရ ပဋိသန္ဓေကို ရည်ရွယ်၍ အရှင်နာဂသေန ဖြေကြားတော်မူခြင်း ဖြစ်၏။ အသညသတ် ဘုံသားတို့သည် ရုပ်ချည်းသက်သက် ပဋိသန္ဓေ တည်နေကြ၍ အရူပဗြဟ္မာတို့ကား နာမ်ချည်းသက်သက် ပဋိသန္ဓေ တည်နေကြပေ၏။]

## ၉။ အချိန်ကာလသည် တကယ်ရှိသလော

'အရှင်နာဂသေနဘုရား၊ အချိန်ကာလဟူသည် အဘယ်နည်း'

'မင်းမြတ်၊ အတိတ်သည် အချိန်ကာလ မည်၏။ အနာဂတ်သည် အချိန်ကာလ မည်၏။ ပစ္စုပ္ပန်သည် အချိန်ကာလ မည်၏'

'အရှင်ဘုရား၊ အချိန်ကာလ သုံးမျိုးလုံးသည် ရှိနေကြပါသလော'

'မင်းမြတ်၊ အချို့သော အချိန်ကာလသည် ရှိ၍ အချို့သော အချိန်ကာလသည် မရှိပေ'

'အရှင်ဘုရား၊ အဘယ် အချိန်ကာလသည် ရှိ၍ အဘယ်အချိန်ကာလကား မရှိပါသနည်း'

'မင်းမြတ်၊ ချုပ်ငြိမ်းပျက်စီးခဲ့လေပြီးသော အတိတ် သင်္ခါရ တရားတို့၏ ထိုအတိတ် အချိန်ကာလသည် မရှိတော့ပြီ။ ရှေးရှေးက အကြောင်းတရားကြောင့် ယခု ဖြစ်ပေါ်နေသော အကျိုးတရား၊ အနာဂတ် အကျိုးကို ပေးကြမည့် ယခုရှိနေသော အကြောင်းတရား၊ တစ်ပါးသော ဘဝ၌ ပဋိသန္ဓေကို ဖြစ်စေသောတရား၊ ထိုတရားတို့၏ အချိန်ကာလ သုံးမျိုးတို့ ရှိကြကုန်၏။ ဘဝတစ်ခုမှ သေဆုံးခဲ့ပြီးနောက် ဘဝသစ်၌ ပဋိသန္ဓေ တည်နေဆဲ သတ္တဝါ၏ ထိုအချိန်ကာလသည်လည်း ရှိ၏။ ဘုံဘဝတစ်ခုခုသို့ ပဋိသန္ဓေ မတည်နေကြကုန်၍ ဘုံဘဝမှ လွတ်မြောက်သော ရဟန္တာပုဂ္ဂိုလ်တို့၏ ထိုအချိန်ကာလသည်လည်း မရှိပေ။ ရဟန္တာပုဂ္ဂိုလ်တို့သည် ပရိနိဗ္ဗာန်စံဝင်ကာ ခန္ဓာဇာတ်သိမ်းသွားကြသောကြောင့်ပေတည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

❀ ❀ ❀

# မိတ်ဆက်

## ၁။ အချိန်ကာလ၏ အရင်းအမြစ်ကား အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ အတိတ်ကာလ၏ အရင်းအမြစ်သည် အဘယ်ပါနည်း။ အနာဂတ်ကာလ၏ အရင်းအမြစ်သည် အဘယ်ပါနည်း။ ပစ္စုပ္ပန်ကာလ၏ အရင်းအမြစ်သည် အဘယ်ပါနည်း'

'မင်းမြတ်၊ ကာလသုံးတန်လုံး၏ အရင်းအမြစ်ကား သစ္စာလေးပါးကို မသိမြင်သော အဝိဇ္ဇာပင်တည်း။ အဝိဇ္ဇာ အကြောင်းကြောင့် သင်္ခါရတို့ ဖြစ်ကုန်၏။ သင်္ခါရ အကြောင်းကြောင့် ဝိညာဉ်ဖြစ်၏။ ဝိညာဉ်အကြောင်းကြောင့် နာမ်ရုပ်ဖြစ်၏။ နာမ်ရုပ် အကြောင်းကြောင့် အဇ္ဈတ္တိကာယတန ခြောက်ပါး ဖြစ်၏။ အဇ္ဈတ္တိကာယတန ခြောက်ပါး အကြောင်းကြောင့် ဖဿဖြစ်၏။ ဖဿအကြောင်းကြောင့် ဝေဒနာဖြစ်၏။ ဝေဒနာအကြောင်းကြောင့် တဏှာဖြစ်၏။ တဏှာ အကြောင်းကြောင့် ဥပါဒါန် ဖြစ်၏။ ဥပါဒါန် အကြောင်းကြောင့် ဘဝဖြစ်၏။ ဘဝ အကြောင်းကြောင့် ဇာတိ ဖြစ်၏။ ဇာတိအကြောင်းကြောင့် ဇရာမရဏသည် လည်းကောင်း၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသ တို့သည် လည်းကောင်း ဖြစ်ပေါ်လာကြကုန်၏။ ဤသို့အားဖြင့် အချိန်ကာလအားလုံး၏ ရှေ့အစွန်းကား မထင်ရှားပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၂။ ရှေ့အစွန်းကို သိနိုင်သလော

'အရှင် နာဂသေနဘုရား၊ 'ရှေ့အစွန်းကား မထင်'ဟူ၍ အရှင်ဘုရား မိန့်ကြားခဲ့ပါ၏။ ထိုစကားကို ထင်ရှားစွာ သိရှိနိုင်ရန် ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် မျိုးစေ့တစ်ခုကို မြေချစိုက်ပျိုးရာ၏။ ထိုမျိုးစေ့မှ အပင်ပေါက်လာကာ အချိန်တန်သောအခါ အသီးသီးရာ၏။ ထိုအသီးမှ မျိုးစေ့ကို အခြားတစ်ယောက်က မြေချစိုက်ပျိုးပြန်ရာ၏။ ထိုမျိုးစေ့မှ အပင်ပေါက်ကာ အသီး သီးပြန်၏။ ဤသို့လျှင် မျိုးစေ့၏ ရှေ့အစွန်းသည် ရှိပါသေးသလော'

'အရှင်ဘုရား၊ မရှိတော့ပါ'

'မင်းမြတ်၊ ဤအတူသာပင် ရှည်လျားလှစွာသော အချိန်ကာလ၏ ရှေ့အစွန်းသည် မထင်ပါပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ ကြက်မမှ ကြက်ဥ ဥကာ ထိုကြက်ဥမှ ကြက်ငယ်ပေါက်လာပုံ၊ စက်ဝိုင်းတစ်ခုတွင် အစဟူ၍ ရှာမတွေ့ပုံတို့ကိုလည်း ဥပမာပြုပါသေး၏။ စက္ခုပသာဒရူပါရုံနှင့် စက္ခုဝိညာဉ်စိတ်တို့ ပေါင်းဆုံမှုကြောင့် ဖဿ ဖြစ်ပေါ်လာပုံမှ စ၍ နိဒါနသံယုတ်လာ ပဋိစ္စသမုပ္ပါဒ် ဒေသနာတော်များကိုလည်း ဟောကြားသေး၏။]

## ၃။ မသိနိုင်သော ရှေ့အစွန်းဟူ၍ ရှိသလော

'အရှင် နာဂသေနဘုရား၊ 'ရှေ့အစွန်းသည် မထင်' ဟူ၍ အရှင်ဘုရား မိန့်ဆိုခဲ့ပါ၏။ ထိုစကား၌ ရှေ့အစွန်းဆိုသည်ကား အဘယ်ပါနည်း'

'မင်းမြတ်၊ အတိတ်အချိန်ကာလသည်ပင် ရှေ့အစွန်း မည်၏'

'အရှင်ဘုရား၊ ရှေ့အစွန်းသည် မထင်ဟူ၍ အရှင်ဘုရား မိန့်ဆိုခဲ့ပါ၏။ ရှေ့အစွန်းအားလုံးသည်ပင် မထင်လေသလော'

'မင်းမြတ်၊ အချို့သော ရှေ့အစွန်းကား ထင်၏။ အချို့သော ရှေ့အစွန်းကား မထင်ပေ'

'အရှင်ဘုရား၊ အဘယ်သို့သော ရှေ့အစွန်းသည် ထင်၍ အဘယ်သို့သော ရှေ့အစွန်းသည် မထင်ပါသနည်း'

'မင်းမြတ်၊ ဤအချိန်မှ ရှေးကာလ၌ အဝိဇ္ဇာသည် အခါခပ်သိမ်း၊ အချင်းခပ်သိမ်း မဖြစ်။ ထိုကဲ့သို့သော ရှေ့အစွန်းသည် မထင်ပေ။ ရှေးက ထင်ရှား မရှိသေးသော တရားတစ်ခုသည် ထင်ရှားစွာ ဖြစ်ပေါ်လာ၏။ ဖြစ်ပေါ်ပြီးနောက် ချုပ်ပျောက်သွား၏။ ဤရှေ့အစွန်းကား ရှိပေ၏'

'အရှင်ဘုရား၊ ရှေးက ထင်ရှားမရှိသေးသော တရားတစ်ခုသည် ထင်ရှားစွာ ဖြစ်ပေါ်လာ၏။ ဖြစ်ပေါ်ပြီးနောက် ချုပ်ပျောက်သွား၏။ ထိုတရားသည် ဖြစ်ခြင်းဟူသော ရှေ့အစွန်းနှင့် ချုပ်ခြင်းဟူသော နောက်အစွန်းအားဖြင့် ကင်းပြတ်သွားမည် မဟုတ်ပါလော'

'မင်းမြတ်၊ ဤသို့ ဖြစ်လျှင် ရှေ့အစွန်း နောက်အစွန်းအားဖြင့် ပြတ်သွားပြီးသည်တို့ ဆက်ပွားခြင်းငှာ စွမ်းနိုင်မည်လော'

'အရှင်ဘုရား၊ ဆက်ပွားခြင်းငှာ စွမ်းနိုင်သင့်ပါ၏။ သို့ရာတွင် ဤသို့ နှစ်ပါးစုံသော အစွန်းအားဖြင့် ပြတ်သည်ကို မမေးပါ။ ရှေ့အစွန်း နောက်အစွန်းအားဖြင့် ဆက်ပွားခြင်းငှာ စွမ်းနိုင်ပါသလော ဟူ၍သာ မေးမြန်းပါသည်'

'မင်းမြတ်၊ ဆက်ပွားခြင်းငှာ စွမ်းနိုင်ပါ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယခင်ပြခဲ့ပြီးသော သစ်ပင် ဥပမာအတိုင်းပင်တည်း။ ခန္ဓာငါးပါးတို့သည် ဒုက္ခ အားလုံးတို့၏ မျိုးစေ့တို့ပေတည်း'

အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၄။ သင်္ခါရတရားတို့သည် အဘယ်သို့ရှိနေကြသနည်း

'အရှင် နာဂသေနဘုရား၊ ဖြစ်ဆဲ ဖြစ်သော သင်္ခါရတရားအချို့ ရှိပါသလော'

'မင်းမြတ်၊ ရှိပေ၏'

'အရှင်ဘုရား၊ ထိုသင်္ခါရတရားတို့သည် အဘယ်သို့ ထင်ရှားရှိနေကြပါကုန်သနည်း'

'မင်းမြတ်၊ စက္ခုပသာဒနှင့် ရူပါရုံတို့ရှိလျှင် စက္ခုဝိညာဉ်စိတ် ဖြစ်ပေါ်လာ၏။ စက္ခုဝိညာဉ်စိတ် ဖြစ်ပေါ်လျှင် စက္ခုသမ္ဖဿ ဖြစ်ပေါ်လာ၏။ စက္ခုသမ္ဖဿ ဖြစ်ပေါ်လျှင် ဝေဒနာ ဖြစ်ပေါ်လာ၏။ ဝေဒနာ ဖြစ်ပေါ်လာလျှင် တဏှာဖြစ်ပေါ်လာ၏။ တဏှာ ဖြစ်ပေါ်လျှင် ဥပါဒါန် ဖြစ်ပေါ်လာ၏။ ဥပါဒါန် ဖြစ်ပေါ်လျှင် ဘဝဖြစ်ပေါ်လာ၏။ ဘဝ ဖြစ်ပေါ်လျှင် ဇာတိ ဖြစ်ပေါ်လာ၏။ ဇာတိဖြစ်ပေါ်လျှင် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့ ဖြစ်ပေါ် လာကြကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲဒုက္ခတို့၏ ဖြစ်ပေါ်လာပုံသည် ထင်ရှား၏'

'မင်းမြတ်၊ စက္ခုပသာဒနှင့် ရူပါရုံတို့ မရှိကြလျှင် စက္ခုဝိညာဉ်စိတ် ဖြစ်ပေါ်မလာနိုင်။ စက္ခု ဝိညာဉ်စိတ် မဖြစ်ပေါ်လျှင် စက္ခုသမ္ဖဿ ဖြစ်ပေါ်မလာနိုင်။ စက္ခုသမ္ဖဿ မဖြစ်ပေါ်လျှင် ဝေဒနာ ဖြစ်ပေါ်မလာနိုင်။ ဝေဒနာ မဖြစ်ပေါ်လျှင် တဏှာဖြစ်ပေါ်မလာနိုင်။ တဏှာ မဖြစ်ပေါ်လျှင် ဥပါဒါန် ဖြစ်ပေါ်မလာနိုင်။ ဥပါဒါန် မဖြစ်ပေါ်လျှင် ဘဝ ဖြစ်ပေါ်မလာနိုင်။ ဘဝ မဖြစ်ပေါ် လျှင် ဇာတိ ဖြစ်ပေါ်မလာနိုင်။ ဇာတိမဖြစ်ပေါ်လျှင် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့ ဖြစ်ပေါ်မလာနိုင်ကြကုန်။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲဒုက္ခတို့ ၏ ဖြစ်ပေါ်လာရပုံသည် ထင်ရှား၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၅။ သင်္ခါရ တရားတို့၏ ဖြစ်ပေါ်ရာကား အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ ဖြစ်ရာမရှိဘဲ ဖြစ်ပေါ်လာကြရသော သင်္ခါတရားတို့ ရှိကြပါသလော'

'မင်းမြတ်၊ ဖြစ်ရာဘဝမရှိဘဲ ဖြစ်ပေါ်လာကြသော သင်္ခါရတရားတို့ မရှိကြပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ဤနန်းတော်သည် ဖြစ်ရာမရှိဘဲ ဖြစ်ပေါ်လာပါမည်လော'

'အရှင်ဘုရား၊ ဤနန်းတော်သည် ဖြစ်ရာမရှိဘဲ ဖြစ်ပေါ်မလာနိုင်ပါ။ ဖြစ်ရာရှိနေ၍သာ ဖြစ် ပေါ်လာပါ၏။ တပည့်တော်တို့ ထိုင်နေသော သစ်သားတို့သည် တော၌ ဖြစ်ကြပါကုန်၏။ နံရံ၌ လိမ်းကျံထားသော မြေညက်သည် မြေကြီး၌ ဖြစ်ပါ၏။ မိန်းမ၊ ယောကျ်ား လုပ်သားများစွာ တို့က လုံ့လပြုကာ ဆောက်လုပ်ပေးကြသဖြင့် ဤနန်းတော် ဖြစ်ပေါ်လာပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ဖြစ်စရာ ထင်ရှားမရှိဘဲ သင်္ခါရတို့ ဖြစ်ပေါ်မလာကြကုန်။ ဖြစ်စရာ ထင်ရှားရှိ၍သာလျှင် သင်္ခါရသို့ ဖြစ်ပေါ်လာကြပေကုန်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ သစ်ပင်အားလုံးတို့ မြေကြီး၌ တည်၍ မှီ၍ ပေါက်ရောက် ရှင်သန် သီးပွင့်ကြရပုံ၊ အိုးထိန်းသည်တို့သည် မြေကြီးမှ မြေညက်ကို တူးယူ၍ အိုးလုပ်ယူရပုံ၊ စောင်း၏ အစိတ်အပိုင်းများ ရှိနေပါမှ၊ စောင်းသမားကလည်း တီးခတ်ပါမှ စောင်းသံ ထွက်ပေါ်လာပုံ၊ ပွတ်ခုံ၊ ပွတ်ကျည်၊ မီးပွတ်ကြိုးနှင့် မီးပွတ်သော အမှုတို့ ရှိပါမှ မီးထွက်လာပုံ၊ သူရကန်ကျောက်၊ နေပူနှင့် မီးစာတို့ ရှိနေပါမှ မီးတောက်လာပုံ၊ မှန်၊ အလင်းရောင်နှင့် မျက်နှာတို့ ရှိနေပါမှ မျက်နှာရိပ် ထင်ဟပ်လာပုံကိုလည်း ဥပမာပြုသေး၏။]

# ၆။ ဝေဒဂူ ဟူသော အတ္တသည် တကယ်ရှိသလော

'အရှင် နာဂသေနဘုရား၊ ဝေဒဂူ ဟူသော အရာသည် ပရမတ္ထအားဖြင့် ထင်ရှားရှိပါ၏လော'

'မင်းမြတ်၊ သင် မင်းမြတ် ပြောဆိုသော ဝေဒဂူ ဟူသည် အဘယ်သို့ပါနည်း'

'အရှင်ဘုရား၊ ကိုယ်တွင်း၌ ရှိသော ဇီဝ မည်သော အတ္တသည် စက္ခုဒွါရဖြင့် ရူပါရုံကို မြင်နိုင်၏။ သောတဒွါရဖြင့် သဒ္ဒါရုံကို ကြားနိုင်၏။ ဃာနဒွါရဖြင့် ဂန္ဓာရုံကို နမ်းရှုနိုင်၏။ ဇိဝှာဒွါရဖြင့် ရသာရုံကို စားသောက်နိုင်၏။ ကာယဒွါရဖြင့် ဖောဋ္ဌဗ္ဗာရုံကို တွေ့ထိနိုင်၏။ မနောဒွါရဖြင့် ဓမ္မာရုံဆိုင်ရာ အာရုံတရားတို့ကို သိနိုင်၏။ ဥပမာအားဖြင့် တပည့်တော်တို့သည် ဤနန်းပြာသာဒ်မှာ ထိုင်နေကုန်လျက် အရှေ့၊ အနောက်၊ တောင်၊ မြောက် ပြတင်းပေါက်တို့တွင် အလိုရှိရာ ပြတင်းပေါက်ဖြင့် ကြည့်ရှုနိုင်ကြကုန်၏။ ဤအတူပင် ကိုယ်တွင်း၌ရှိသော ဇီဝ မည်သော အတ္တသည် အလိုရှိရာ ဒွါရဖြင့် မြင်နိုင်ပါ၏။ ထိုအတ္တသည်ပင် ဝေဒဂူ မည်ပါ၏'

'မင်းမြတ်၊ စက္ခု စသော ဒွါရ ငါးပေါက်ကို ပြဆိုပေအံ့။ နားထောင်လော့။ ကောင်းစွာ နှလုံးသွင်းလော့။ သင် မင်းမြတ် ပြောဆိုသော အတ္တသည် အလိုရှိရာ ဒွါရဖြင့် မြင်နိုင်ပါလျှင် သောတဒွါရဖြင့်လည်း ရူပါရုံကို မြင်ပေရာ၏။ ဃာနဒွါရဖြင့်လည်း ရူပါရုံကို မြင်နိုင်ပေရာ၏။ ဇိဝှာဒွါရဖြင့်လည်း ရူပါရုံကို မြင်နိုင်ပေရာ၏။ ကာယဒွါရဖြင့်လည်း ရူပါရုံကို မြင်နိုင်ပေရာ၏။ မနောဒွါရဖြင့်လည်း ရူပါရုံကို မြင်နိုင်ပေရာ၏။ စက္ခုဒွါရ၊ ဃာနဒွါရ၊ ဇိဝှာဒွါရ၊ ကာယဒွါရ၊ မနောဒွါရ တို့ဖြင့်လည်း သဒ္ဒါရုံကို ကြားနိုင်ရာပေ၏။ စက္ခုဒွါရ၊ သောတဒွါရ၊ ဇိဝှာဒွါရ၊ ကာယဒွါရ၊ မနောဒွါရတို့ဖြင့်လည်း ဂန္ဓာရုံကို နမ်းရှုနိုင်ပေရာ၏။ စက္ခုဒွါရ၊ သောတဒွါရ၊ ဃာနဒွါရ၊ ကာယဒွါရ၊ မနောဒွါရတို့ဖြင့်လည်း ရသာရုံကို စားသောက်နိုင်ပေရာ၏။ စက္ခုဒွါရ၊ သောတဒွါရ၊ ဃာနဒွါရ၊ ဇိဝှာဒွါရ၊ မနောဒွါရ တို့ဖြင့်လည်း ဖောဋ္ဌဗ္ဗာရုံကို တွေ့ထိနိုင်ကုန်ရာ၏။ စက္ခုဒွါရ၊ သောတဒွါရ၊ ဃာနဒွါရ၊ ဇိဝှာဒွါရ၊ ကာယဒွါရ တို့ဖြင့်လည်း ဓမ္မာရုံကို သိနိုင်ကုန်ရာ၏'

'အရှင်ဘုရား၊ ဤသို့ကား မဟုတ်ပါ'

'မင်းမြတ်၊ သင် မင်းမြတ်၏ ယခင်စကားနှင့် ယခုစကားသည် မညီညွတ်ချေတကား။ မင်းမြတ်၊ ဥပမာ တစ်နည်းအားဖြင့် ဇာကွန်ရက် တပ်ဆင်ထားသော လေသာပြတင်းတို့ကို

ဟင်းလင်းဖွင့်လျက် အပြင်ဘက်သို့ မျက်နှာမူ၍ ကြည့်လိုက်သောအခါ ရူပါရုံတို့ကို ပိုမို၍ ထင်ရှားစွာ ရှုမြင်နိုင်ကုန်၏။ ဤအတိုင်းသာပင် ဇီဝ ဟူသော အတ္တသည်လည်း စက္ခုဒွါရတည်း ဟူသော စက္ခုပသာဒရုပ်ကို ဖောက်ထုတ်လိုက်လျှင် ရူပါရုံတို့ကို ပိုမို၍ ထင်ရှားစွာ မြင်နိုင်ကုန်ရာ၏။ သောတဒွါရ တည်းဟူသော သောတပသာဒရုပ်ကို ဖောက်ထုတ်လိုက်လျှင် သဒ္ဒါရုံကို ပိုမို၍ ကြားနိုင်ပေရာ၏။ ဃာနဒွါရ တည်းဟူသော ဃာနပသာဒရုပ်ကို ဖောက်ထုတ်လိုက်လျှင် ဂန္ဓာရုံကို ပိုမို၍ နမ်းရှူနိုင်ပေရာ၏။ ဇိဝှာဒွါရ တည်းဟူသော ဇိဝှာပသာဒရုပ်ကို ဖောက်ထုတ်လိုက်လျှင် ရသာရုံကို ပိုမို၍ စားသောက်နိုင်ပေရာ၏။ ကာယဒွါရ တည်းဟူသော ကာယပသာဒရုပ်ကို လှီးဖြတ်ထုတ်ပယ်လိုက်လျှင် ဖောဋ္ဌဗ္ဗာရုံကို ပိုမို၍ ထိတွေ့နိုင်ပေရာ၏'

'အရှင်ဘုရား၊ ဤသို့ကား မဟုတ်ပါ'

'မင်းမြတ်၊ သင်မင်းမြတ်၏ ယခင်စကားနှင့် ယခုစကားသည် မညီညွတ်ချေတကား။ မင်းမြတ်၊ ဥပမာ တစ်နည်းအားဖြင့် ဤဒိန္နအမတ်သည် တံခါးအပြင်သို့ ထွက်၍ ရပ်နေလျှင် ဤသို့ ရပ်နေကြောင်းကို သင်မင်းမြတ် သိနိုင်ပါမည်လော'

'အရှင်ဘုရား၊ သိနိုင်ပါ၏'

'မင်းမြတ်၊ ဤဒိန္နအမတ်သည် တံခါးမှ ပြန်ဝင်လာ၍ သင် မင်းမြတ်ရှေ့မှာ ရပ်နေပါလျှင် ဤသို့ ရပ်နေကြောင်းကို သင် မင်းမြတ် သိနိုင်ပါမည်လော'

'အရှင်ဘုရား၊ သိနိုင်ပါ၏'

'မင်းမြတ်၊ ဤအတူသာပင် သင်မင်းမြတ် ပြောဆိုသော အတ္တသည် လျှာပေါ်၌ အရသာ တစ်ခုခုကို တင်ထားသောအခါ ချဉ်သော၊ ငန်သော၊ ခါးသော၊ စပ်သော၊ ဖန်သော၊ ချိုသော အရသာကို သိနိုင်ပေမည်လော'

'အရှင်ဘုရား၊ သိနိုင်ပါ၏'

'မင်းမြတ်၊ ဝမ်းတွင်းသို့ ဝင်ပြီးသော အရသာတို့ကိုကော သိနိုင်ပါမည်လော'

'အရှင်ဘုရား၊ မသိနိုင်ပါ'

'မင်းမြတ်၊ သင်မင်းမြတ်၏ ယခင်စကားနှင့် ယခုစကားသည် မညီညွတ်ချေတကား။ မင်းမြတ်၊ ဥပမာ တစ်နည်းအားဖြင့် ယောကျ်ားတစ်ယောက်သည် ဇလားထဲ၌ ပြာရည်အိုး တစ်ရာကို လောင်းထည့်ပြီးလျှင် အခြား ယောကျ်ားတစ်ယောက်ကို ပါးစပ်မှ အဝတ်စည်းလျက် ပျားရည်ဇလားထဲသို့ ချထားငြားအံ့၊ ထိုယောကျ်ားသည် ပျားရည်အရသာကို သိပါမည်လော'

'မသိနိုင်ပါ အရှင်ဘုရား'

'အဘယ်ကြောင့် မသိနိုင်ပါသနည်း'

'အရှင်ဘုရား၊ ထိုယောကျ်ား၏ ခံတွင်းသို့ ပျားရည် မဝင်သောကြောင့် ဖြစ်ပါသည်'

'မင်းမြတ်၊ သင် မင်းမြတ်၏ ရှေ့စကားနှင့် နောက်စကားသည် မညီညွတ်ချေတကား'

'အရှင်ဘုရား၊ အရှင်ဘုရားကဲ့သို့ စကားကတ်၍ ပြောနိုင်သော ပုဂ္ဂိုလ်နှင့် တပည့်တော် စကားဖက်ပြိုင် မပြောနိုင်တော့ပါ။ ဆိုလိုသော အနက်အဓိပ္ပာယ်ကိုသာ မိန့်ကြားတော်မူပါဘုရား'

'မင်းမြတ်၊ ဤလောက၌ စက္ခုပသာဒကိုလည်းကောင်း၊ ရူပါရုံကိုလည်းကောင်း အမှီပြု၍ စက္ခုဝိညာဉ် ဖြစ်ပေါ်လာ၏။ ထိုစက္ခုဝိညာဉ်နှင့်အတူ ထိတွေ့ခြင်း လက္ခဏာရှိသော ဖဿ၊ ခံစားခြင်း လက္ခဏာရှိသော ဝေဒနာ၊ မှတ်သားခြင်း လက္ခဏာရှိသော သညာ၊ စေ့ဆော်ခြင်း လက္ခဏာရှိသော စေတနာ၊ တည်ကြည်ခြင်း လက္ခဏာရှိသော ဧကဂ္ဂတာ၊ သဟဇာတ်တရားတို့ကို စောင့်ရှောက်ခြင်း လက္ခဏာရှိသော ဇီဝိတိန္ဒြေ၊ နှလုံးသွင်းခြင်း လက္ခဏာရှိသော မနသိကာရ တည်းဟူသော ဤတရားရှစ်ပါးတို့သည် စက္ခုပသာဒနှင့် ရူပါရုံ ပေါင်းဆုံခြင်းအကြောင်းကြောင့် ဖြစ်ပေါ်လာကုန်၏။ စင်စစ်အားဖြင့် ဤတရားတို့တွင် ဝေဒဂူ ဟူသော အတ္တမပါ၊ မရှိပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[အဘိဓမ္မာ ဒေသနာတော်နည်းအရ သောတပသာဒနှင့် သဒ္ဒါရုံ၊ ဃာနပသာဒနှင့် ဂန္ဓာရုံ၊ ဇိဝှာပသာဒနှင့် ရသာရုံ၊ ကာယပသာဒနှင့် ဖောဋ္ဌဗ္ဗာရုံ၊ မနောပသာဒနှင့် ဓမ္မာရုံတို့ ပေါင်းဆုံရာမှ ဖြစ်ပေါ်လာသော တရားတို့ကိုလည်း ဤသို့ပင် ရှင်းလင်းဖြေဆိုပေ၏။]

## ၇။ စက္ခုဝိညာဉ်ပြီးမှ အဘယ်ကြောင့် မနောဝိညာဉ် ဖြစ်ရသနည်း

'အရှင် နာဂသေနဘုရား၊ စက္ခုဝိညာဉ် ဖြစ်ရာ စက္ခုဒွါရ၌ပင် မနောဝိညာဉ် ဖြစ်နိုင်ပါသလော'

'မင်းမြတ်၊ ဖြစ်နိုင်ပေ၏'

'စက္ခုဝိညာဉ် ဖြစ်ပြီးမှ မနောဝိညာဉ် ဖြစ်ပါသလော။ မနောဝိညာဉ် ဖြစ်ပြီးမှ စက္ခုဝိညာဉ် ဖြစ်ပါသလော'

'စက္ခုဝိညာဉ် ဖြစ်ပြီးမှ မနောဝိညာဉ် ဖြစ်ပေ၏'

'စက္ခုဝိညာဉ်က မနောဝိညာဉ်ကို 'ငါဖြစ်ရာ ဒွါရ၌ သင်လည်း ဖြစ်လေလော့'ဟု စေခိုင်းပါသလော။ မနောဝိညာဉ်ကလည်း စက္ခုဝိညာဉ်ကို 'သင်ဖြစ်မည့် စက္ခုဒွါရ၌ပင် ငါလည်း ဖြစ်ပါအံ့'ဟု တိုင်ပင် ညှိနှိုင်းထားပါသလော'

'မစေခိုင်းပါ။ တိုင်းပင်ညှိနှိုင်း၍လည်း မထားပါ'

'စက္ခုဝိညာဉ် ဖြစ်ပေါ်ရာ စက္ခုဒွါရ၌ပင် မနောဝိညာဉ်သည် အဘယ်အကြောင်းကြောင့်များ ဖြစ်ပေါ်ပါသနည်း'

'မင်းမြတ်၊ ကိုင်းညွတ်ခြင်းကြောင့်၊ ဝင်ရာ ထွက်ရာ တံခါးသဖွယ် ဖြစ်ခြင်းကြောင့် အလေ့အလာ ဖြစ်ခြင်းကြောင့် အလွန်တရာ လေ့ကျက်ရာ ဖြစ်ခြင်းကြောင့် ဖြစ်ပေါ်လာ၏'

'အရှင်ဘုရား၊ ကိုင်းညွတ်ခြင်းကြောင့် ဖြစ်ပေါ်လာပုံကို ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ မိုးရွာသွန်းသောအခါ ရေသည် အဘယ်အရပ်သို့ စီးဆင်းသွားပါသနည်း'

'အရှင်ဘုရား၊ နိမ့်ဝှမ်းရာသို့ စီးဆင်းသွားပါသည်'

'မင်းမြတ်၊ နောက်တစ်ကြိမ် မိုးရွာလျှင်ကော အဘယ်အရပ်သို့ စီးဆင်းပါမည်နည်း'

'အရှင်ဘုရား၊ နိမ့်ဝှမ်းရာသို့သာ စီးဆင်းသွားပါလိမ့်မည်'

'မင်းမြတ်၊ ယခင်ရေက နောက်ရေကို 'ငါ စီးဆင်းရာ အရပ်သို့သာ သင်လည်း စီးဆင်းပါလော့'ဟု စေခိုင်းပါသလော။ နောက်ရေကလည်း ယခင်ရေကို 'သင်စီးဆင်းမည့် အရပ်သို့ပင် ငါလည်း စီးဆင်းပါအံ့'ဟု တိုင်ပင်ညှိနှိုင်းထားပါသလော'

'အရှင်ဘုရား၊ မစေခိုင်းပါ။ တိုင်ပင် ညှိနှိုင်း၍လည်း မထားပါ၊ နိမ့်ဝှမ်းရာသို့ စီးဆင်းခြင်းဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင် စက္ခုဝိညာဉ်ဖြစ်ရာ ဒွါရ၌ပင် မနောဝိညာဉ်သည်လည်း ကိုင်းညွတ်ခြင်းကြောင့် ဖြစ်ပေါ်လာပေသည်'

'အရှင်ဘုရား၊ ဝင်ရာ ထွက်ရာ တံခါးသဖွယ် ဖြစ်ခြင်းကြောင့် ဖြစ်ပေါ်လာပုံကို ဥပမာပြတော်မူပါဦး'

'မင်းမြတ်၊ နယ်ခြားစောင့် မြို့တစ်မြို့တွင် မြဲမြံ ခိုင်ခံ့သော မြို့ရိုးနှင့် တံခါးတိုင် ရှိ၏။ ဝင်ပေါက် ထွက်ပေါက် တစ်ခုတည်းသာ ရှိ၏။ ထိုမြို့မှ ထွက်လိုသော ယောကျ်ားတစ်ယောက်သည် အဘယ်တံခါးမှ ထွက်ပါမည်နည်း'

'အရှင်ဘုရား၊ တစ်ခုတည်းသော ထိုတံခါးပေါက်ဖြင့်ပင် ထွက်ရပါလိမ့်မည်'

'မင်းမြတ်၊ ထိုသူ့နောက် အခြားယောကျ်ားတစ်ယောက် ထွက်လျှင်ကော အဘယ်အပေါက်မှ ထွက်ပါမည်နည်း'

'အရှင်ဘုရား၊ တစ်ခုတည်းသော ထိုအပေါက်မှပင် ထွက်ပါလိမ့်မည်'

'မင်းမြတ်၊ ရှေးဦးစွာထွက်သော ယောကျ်ားက နောက်မှထွက်သော ယောကျ်ားကို 'ငါထွက်ရာ တံခါးမှ သင်လည်း ထွက်ခဲ့ပါ'ဟု စေခိုင်းပါသလော၊ နောက်မှ ထွက်သော ယောကျ်ားကလည်း ရှေးဦးစွာထွက်သော ယောကျ်ားကို 'သင်ထွက်မည့် တံခါးပေါက်မှ ငါလည်း ထွက်ပါအံ့'ဟု တိုင်ပင်၍ ညှိနှိုင်း၍ ထားပါသလော'

'အရှင်ဘုရား၊ မစေခိုင်းပါ။ တိုင်ပင်ညှိနှိုင်း၍ မထားပါ။ ထွက်ရာ တံခါးပေါက် ဖြစ်နေခြင်းကြောင့်သာ ထိုတံခါးမှ ထွက်ခြင်း ဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင် ဝင်ရာ ထွက်ရာ တံခါးသဖွယ် ဖြစ်ခြင်းကြောင့် စက္ခုဝိညာဉ်ဖြစ်ရာ ဒွါရ၌ပင် မနောဝိညာဉ် ဖြစ်ပေါ်လာရပေ၏'

'အရှင်ဘုရား၊ အလေ့အလာ ဖြစ်ခြင်းကြောင့် ဖြစ်ပေါ်လာရပုံကို ဥပမာပြတော်မူပါဦး'

'မင်းမြတ်၊ ရှေ့က လှည်းတစ်စီး သွားနေ၏။ နောက်လှည်း တစ်စီးသည် အဘယ်လမ်းအတိုင်း လိုက်ရပါမည်နည်း'

'အရှင်ဘုရား၊ ရှေ့ကသွားသော လှည်း၏ လမ်းအတိုင်းသာ လိုက်ရပါလိမ့်မည်'

'မင်းမြတ်၊ ရှေ့က သွားသော လှည်းသည် နောက်မှလိုက်လာသော လှည်းကို ငါသွားသည့် လမ်းအတိုင်း လိုက်ခဲ့ပါ'ဟု စေခိုင်းပါသလော။ နောက်မှ လိုက်လာသော လှည်းကလည်း ရှေ့

က သွားသော လှည်းကို 'သင်သွားမည့် လမ်းအတိုင်း ငါလိုက်ခဲ့ပါမည်'ဟု တိုင်ပင် ညှိနှိုင်း၍ ထားပါသလော'

'အရှင်ဘုရား၊ မစေခိုင်းပါ။ တိုင်ပင်ညှိနှိုင်း၍ မထားပါ။ ထိုလမ်းအတိုင်း သွားခဲ့ဖူးသော အလေ့အထ ရှိနေခြင်းကြောင့်သာ ထိုလမ်းအတိုင်း လိုက်ပါခြင်း ဖြစ်ပါသည်'

'မင်းမြတ်၊ ဤအတူသာပင် အလေ့အလာ ဖြစ်နေခြင်းကြောင့်ပင် စက္ခုဝိညာဉ် ဖြစ်ပေါ်ရာ တံခါး၌ပင် မနောဝိညာဉ် ဖြစ်ပေါ်လာပေ၏'

'အရှင်ဘုရား၊ အလွန်တရာ လေ့ကျက်ရာ ဖြစ်ခြင်းကြောင့် ဖြစ်ပေါ်လာပုံကို ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ဂဏန်းသင်္ချာအတတ်၊ စာရေးခြင်းအတတ်တို့၌ ပထမဦးစွာ လေ့လာသူမှာ အသိဉာဏ် နှေးကွေး၏။ ထို့နောက် ထပ်ကာ ထပ်ကာ လေ့လာလျက် ဆင်ခြင် စူးစမ်း၍ သင်ကြားသောအခါ အသိဉာဏ် သွက်လက်လာ၏။ ဤအတူသာပင် အလွန်တရာ လေ့ကျက်ရာ ဖြစ်ခြင်းကြောင့် စက္ခုဝိညာဉ် ဖြစ်ပေါ်လာရာ ဒွါရ၌ပင် မနောဝိညာဉ် ဖြစ်ပေါ်လာလေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ သောတဒွါရ စသော ဒွါရခြောက်ပါးလုံးတွင်လည်း ဤသို့ပင် အမေးအဖြေ ပြုကြပေ၏။]

## ၀။ ဖဿသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ ဖဿသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ ဖဿသည် တွေ့ထိခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ ဆိတ်နှစ်ကောင် ဝှေ့ကြရာတွင် တစ်ကောင်သော ဆိတ်ကဲ့သို့ စက္ခုဝိညာဉ်ကို မှတ်ယူအပ်၏။ အခြားသော ဆိတ်ကဲ့သို့ ရူပါရုံကို မှတ်ယူအပ်၏။ ထို ဆိတ်နှစ်ကောင် ထိတွေ့ခြင်းကဲ့သို့ ဖဿကို မှတ်ယူအပ်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ လက်ဝါးနှစ်ဖက် တီးခတ်ခြင်း၊ လင်းကွင်းနှစ်ချပ် တီးခတ်ခြင်းတို့နှင့်လည်း ဥပမာ ပြုပါသေး၏။]

## ၆။ ဝေဒနာသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ ဝေဒနာသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ ဝေဒနာသည် ခံစားခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ မင်းထံမှ စည်းစိမ်ဥစ္စာ ရရှိထားသော သူတစ်ယောက်သည် မိမိ စည်းစိမ်ဥစ္စာ ရရှိလာပုံကို တွေးတောခံစားသကဲ့သို့ပင် ဝေဒနာသည် ခံစားခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ ပြုခဲ့ဖူးသော ကုသိုလ်ကံကြောင့် နတ်ပြည်၌ နတ်စည်းစိမ်ခံစားရသူ၏ ခံစားခြင်းကိုလည်း ဥပမာပြုသေး၏။]

## ၁၀။ သညာသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ သညာသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ သညာသည် အမှတ်ပြု၍ သိခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ မင်း၏ ဘဏ္ဍာစိုးသည် ဘဏ္ဍာတိုက်သို့ ဝင်ပြီးလျှင် အဆင်းအရောင် အမျိုးမျိုး ရှိကုန်သော မင်း၏ အသုံးအဆောင် အဝတ်အထည်တို့ကို အမှတ်ပြုကာ သိသကဲ့သို့ သညာသည် အမှတ်ပြု၍ သိခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၁။ စေတနာသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ စေတနာသည် အဘယ်လက္ခဏာ ရှိပါသနည်း'

'မင်းမြတ်၊ စေတနာသည် စေ့ဆော် တိုက်တွန်းခြင်း လက္ခဏာရှိ၏။ ပြုပြင်စီရင်ခြင်း လက္ခဏာလည်း ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် အဆိပ်ကို ပြုပြင်စီရင်၍ မိမိလည်း သောက်ရာ၏။ သူတစ်ပါးကိုလည်း သောက်စေရာ၏။ ထိုယောကျ်ားသည် မိမိလည်း ဆင်းရဲရာ၏။ သူတစ်ပါးကိုလည်း ဆင်းရဲစေရာ၏။ ဤအတူသာပင် ဤလောက၌ အချို့သောသူသည် စေတနာဖြင့် စေ့ဆော်တိုက်တွန်းကာ အကုသိုလ်ကံကို ပြုလုပ်မိ၍ သေပြီးသည်မှ နောက်ကာလ၌ အပါယ်ငရဲသို့ ကျရောက်ကြရကုန်၏'

'မင်းမြတ်၊ ဥပမာတစ်မျိုးကား ယောကျ်ားတစ်ယောက်သည် ထောပတ်၊ ဆီဦး၊ ဆီ၊ ပျားနှင့် တင်လဲတို့ကို တစ်ပေါင်းတည်း ရောနှောကာ ပြုပြင်စီရင်၍ မိမိလည်း သောက်ရာ၏။ သူတစ်ပါးကိုလည်း သောက်စေရာ၏။ ထိုယောကျ်ားသည် မိမိလည်း ချမ်းသာရာ၏။ သူတစ်ပါးကိုလည်း ချမ်းသာစေရာ၏။ ဤအတူသာပင် ဤလောက၌ အချို့သောသူသည် စေတနာဖြင့် စေ့ဆော်တိုက်တွန်း၍ ကုသိုလ်ကံ ပြုလုပ်မိ၍ သေပြီးသည်မှ နောက်ကာလ၌ နတ်ရွာသုဂတိသို့ လားရောက်ရ၏။ ထိုသူကို အတုလိုက်၍ ကုသိုလ်ကံ ပြုလုပ်မိသူတို့သည်လည်း သေပြီးသည်မှ

နောက်ကာလ၌ ထို့အတူပင် နတ်ရွာသုဂတိသို့ လားရောက်ရကုန်၏။ ဤသို့လျှင် စေတနာသည် စေ့ဆော်တိုက်တွန်းခြင်း လက္ခဏာ ရှိ၏။ ပြုပြင်စီရင်ခြင်း လက္ခဏာလည်း ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၂။ ဝိညာဉ်သည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ ဝိညာဉ်သည် အဘယ်လက္ခဏာ ရှိသနည်း:'

'မင်းမြတ်၊ ဝိညာဉ်သည် အာရုံကို သိခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး:'

'မင်းမြတ်၊ မြို့စောင့်အမှုထမ်းသည် လမ်းလေးခွဆုံရာမှ ကြည့်ရှုလိုက်သောအခါ အရှေ့၊ အနောက်၊ တောင်၊ မြောက်အရပ်တို့မှ လာနေသောသူတို့ကို သိရာ၏။ ဤအတူသာပင် စက္ခုဒွါရဖြင့် မြင်ရသော ရူပါရုံ၊ သောတဒွါရဖြင့် ကြားရသော သဒ္ဒါရုံ၊ ဃာနဒွါရဖြင့် နမ်းရှူရသော ဂန္ဓာရုံ၊ ကာယဒွါရဖြင့် တွေ့ထိရသော ဖောဋ္ဌဗ္ဗာရုံ၊ စိတ်တို့ဖြင့် သိရသော ဓမ္မာရုံတို့ကို သိ၏။ ဤသို့လျှင် ဝိညာဉ်သည် အာရုံကို သိခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၃။ ဝိတက်သည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ ဝိတက်သည် အဘယ်လက္ခဏာ ရှိပါသနည်း:'

'မင်းမြတ်၊ ဝိတက်သည် အာရုံသို့ စိတ်ကို သွတ်သွင်းပေးခြင်းလက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး:'

'မင်းမြတ်၊ လက်သမားသည် သစ်သားတစ်ခုကို ချောမွေ့ ပြေပြစ်အောင် ပြုပြင်၍ အဆက်အစပ်ထဲ၌ သွတ်သွင်းရာ၏။ ဤအတူသာပင် ဝိတက်သည် စိတ်ကို အာရုံသို့ သွတ်သွင်းပေးခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၄။ ဝိစာရသည် အဘယ်လက္ခဏာ ရှိသနည်း

'အရှင် နာဂသေနဘုရား၊ ဝိစာရသည် အဘယ်လက္ခဏာ ရှိပါသနည်း:'

'မင်းမြတ်၊ ဝိစာရသည် ဆက်ကာ ဆက်ကာ သုံးသပ်ခြင်း လက္ခဏာ ရှိပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး:'

'မင်းမြတ်၊ ကြေးခွက်ကို လက်ဖြင့် တီးခတ်လိုက်သောအခါ အသံမြည်၏။ ထိုအသံ နောက်တွင် ဆက်ကာ ဆက်ကာ မြည်နေ၏။ လက်ဖြင့် တီးခေါက်လိုက်သကဲ့သို့ ဝိတက်ကို မှတ်အပ်၏။ ဆက်ကာ ဆက်ကာ မြည်နေသကဲ့သို့ ဝိစာရကို မှတ်အပ်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

# နိဗ္ဗာနဝဂ်

## ၁။ ဖဿ စသည်ကို သီးခြားကောက်ယူ ပြနိုင်သလော

'အရှင် နာဂသေနဘုရား၊ တစ်ပေါင်းတည်း ဖြစ်ပေါ်လာကြကုန်သော ဖဿ စသော ဤတရားတို့ကို ဤကား ဖဿတည်း၊ ဤကား ဝေဒနာတည်း၊ ဤကား သညာတည်း၊ ဤကား စေတနာတည်း၊ ဤကား ဝိညာဉ်တည်းဟု တစ်ခုချင်း တစ်ခုချင်း သီးခြားကောက်နုတ်၍ ထင်ရှားစွာ ပြနိုင်ပါမည်လော'

'မင်းမြတ်၊ မပြနိုင်ပါ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ဘုရင်၏ စားဖိုမှူးသည် ဟင်းချက်ရာ၌ နို့ဓမ်း၊ ဆား၊ ချင်း၊ ဇီယာ၊ ငရုတ်နှင့် အခြား ဟင်းခတ်ပစ္စည်းတို့ကို ထည့်ရာ၏။ ထိုစားဖိုမှူးကို ဘုရင်က အချင်း၊ နို့ဓမ်း၏ အရသာကို သီးခြားထုတ်ဆောင်၍ ပေးလော့။ ဆား၏ အရသာကို သီးခြားထုတ်ဆောင်၍ ပေးလော့ စသည်ဖြင့် စေခိုင်းလျှင် စားဖိုမှူးသည် ထုတ်ဆောင်၍ ပေးနိုင်ပါမည်လော'

'အရှင်ဘုရား၊ အရသာတစ်ခုချင်းကို သီးခြားထုတ်ဆောင်၍ မပေးနိုင်ပါ။ ထိုအရသာတို့မှာ မိမိတို့၏ သဘောလက္ခဏာအားဖြင့်သာ တည်နေကြကုန်၏'

'မင်းမြတ်၊ ဤအတူသာပင် တစ်ပေါင်းတည်း ဖြစ်ပေါ်လာကြကုန်သော ဖဿ စသော တရားတို့ကို တစ်ခုချင်း တစ်ခုချင်း သီးခြားကောက်နုတ်၍ ထင်ရှားစွာ မပြနိုင်ပါ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဖဿ စသော စိတ်စေတသိက်တို့သည် ဧကုပ္ပာဒ = တစ်ပြိုင်နက် ဖြစ်ခြင်း၊ ဧကနိရောဓ = တစ်ပြိုင်နက် ချုပ်ခြင်း၊ ဧကာလမ္ဗဏ = တစ်ခုတည်းသော အာရုံကို အာရုံပြုခြင်း၊ ဧကဝတ္ထုက = တစ်ခုတည်းသော ဝတ္ထုကို မှီခြင်း ဟူသော လက္ခဏာလေးပါးတို့ဖြင့် အတူတကွ ဖြစ်ပေါ်လာကြ၏။ ထိုသို့ ဖြစ်ပေါ်လာခြင်းမှာလည်း မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက်တို့ထက် အဆများစွာ တိုတောင်းလှသော စိတ္တက္ခဏ တစ်ချက်မျှသာ ကြာ၏။ ရှေးရှေး စိတ်စေတသိက်များ ချုပ်၍ ချုပ်၍ သွားကြရာတွင် နောက်နောက် စိတ်စေတသိက်တို့က ဆက်ကာ ဆက်ကာ ဖြစ်ပေါ်လာကြ၏။ ထို့ကြောင့် အထက်ပါ လက္ခဏာ လေးခုဖြင့် တစ်ပေါင်းတည်း ဖြစ်ပေါ်လာကြသော

ဖဿ စသော တရားများကို တစ်ခုချင်း တစ်ခုချင်း သီးခြားရွေးကောက်၍ မရနိုင်ချေ။ စိတ္တက္ခဏ တစ်ချက်မျှ ဖြစ်ခွင့်ရသော အခိုက်ကလေးတွင် သူ့သဘောလက္ခဏာအားဖြင့် ထင်ရှားစွာ ဖြစ်ပေါ်လာပုံကိုသာ ထောက်ရှု၍ သိနိုင်ကြပေ၏။]

## ၂။ ဆားနှင့် ငန်သောအရသာကို ခွဲခြားနိုင်သလော

'မင်းမြတ်၊ ဆားကို မျက်စိဖြင့် မြင်နိုင်ပါမည်လော'

'အရှင်နာဂသေနဘုရား၊ ဆားကို မျက်စိဖြင့် မြင်နိုင်ပါ၏'

'မင်းမြတ်၊ ဆား၏ အရသာကို သိနိုင်ပါသလော'

'အရှင်ဘုရား၊ လျှာဖြင့် သိနိုင်ပါ၏'

'မင်းမြတ်၊ ဟုတ်ပေ၏။ လျှာဖြင့် သိအပ်ပေ၏'

'အရှင်ဘုရား၊ ဆား အားလုံးကို လျှာဖြင့် သိအပ်ပါသလော'

'မင်းမြတ်၊ ဟုတ်ပေ၏။ ဆားအားလုံးကို လျှာဖြင့် သိအပ်ပေ၏'

'အရှင်ဘုရား၊ ဆားအားလုံးကို လျှာဖြင့် သိအပ်ပါလျှင် အဘယ်ကြောင့် ဆားကို နွားလှည်းတို့ဖြင့် တိုက်ယူရပါသေးသနည်း။ ဆားကို မသယ်ဘဲ အငန်အရသာ သက်သက်ကိုသာ ဆောင်ယူသင့်သည် မဟုတ်ပါလော'

'မင်းမြတ်၊ အငန်အရသာသက်သက်ကို ဆောင်ယူ၍ မရနိုင်ချေ။ ဆား၏ ငန်သော အရသာနှင့် အလေးချိန်တို့သည် တစ်ပေါင်းတည်း ဖြစ်နေကြကုန်၏။ အငန်ဟူသော ရသာရုံနှင့် အလေးချိန် ဟူသော ဖောဋ္ဌဗ္ဗာရုံအားဖြင့်သာ ကွဲပြားကြကုန်၏။ မင်းမြတ်၊ ဆားကို ချိန်ခွင်ဖြင့် ချိန်စက်၍ ရနိုင်ပါမည်လော'

'အရှင်ဘုရား၊ ရနိုင်ပါ၏'

'မင်းမြတ်၊ ဆား၏ ငန်သောအရသာကို ချိန်စက်၍ မရနိုင်ပါ။ ဆား၏ အလေးချိန်ကိုသာ ချိန်စက်၍ ရနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[အရှင်နာဂသေနက ငန်သော အရသာသက်သက်ကိုသာ ဆားဟု ဆိုလို၏။ မိလိန္ဒမင်းကား ဆားဒြပ်ကို ဆားဟု ဆိုလို၏။ ငန်သော အရသာနှင့် ဆားဒြပ်၏ အလေးချိန်တို့ မကွဲမပြား တစ်သားတည်း ဖြစ်ပုံနှင့် အာရုံအားဖြင့် ကွဲပြားနေပုံတို့ကို သိရှိရန် အမေး အဖြေ ပြုထားခြင်း ဖြစ်ပေ၏။]

## ၃။ ကံတစ်ခုတည်းကြောင့် အာယတနငါးပါး ဖြစ်နိုင်သလော

'အရှင်နာဂသေနဘုရား၊ စက္ခု၊ သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ ဟူသော အာယတန ငါးပါးတို့သည် ကံတစ်ခုတည်းကြောင့် ဖြစ်ကြပါသလော။ သို့မဟုတ် ကံအမျိုးမျိုးတို့ကြောင့် ဖြစ်ကြပါသလော'

'မင်းမြတ်၊ အာယတန ငါးပါးတို့သည် ကံအမျိုးမျိုးကြောင့် ဖြစ်ကြကုန်၏။ ကံတစ်ခုတည်း ကြောင့် ဖြစ်ကြသည် မဟုတ်ပေ'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ လယ်ကွက်တစ်ခုတည်း၌ မျိုးစေ့အမျိုးမျိုး ကြဲချရာတွင် အပင်အမျိုးမျိုး ပေါက် လာကာ အသီးအမျိုးမျိုး သီးလာကြပါသလော'

'အရှင်ဘုရား၊ ဟုတ်ပါ၏။ သီးလာကြပါပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ထိုအာယတန ငါးပါးတို့သည် အမျိုးမျိုးသော ကံတို့ကြောင့် ဖြစ်ပေါ်လာကြကုန်၏။ ကံတစ်ခုတည်းကြောင့် ဖြစ်ပေါ်လာကြသည် မဟုတ်ပေ'

[ဥပမာန၊ ဥပမေယျ ဆက်စပ်၍ယူသော် အာယတန တစ်ခုခုသည် တစ်ခုတစ်ခုသော ကံကြောင့် ဖြစ်ပေါ်လာကြရကုန်၏။ အာယတန ငါးပါးလုံးကို ကံတစ်ခုတည်းက ဖြစ်စေရန် မစွမ်းနိုင်ပါ။ ထို့ကြောင့်ပင် ဤလောက၌ မျက်စိကောင်းပါလျက် နားထိုင်းသူ၊ နားပင်းသူ၊ နားကောင်းပါလျက် မျက်စိမှုန်သူ၊ မျက်စိကန်းသူ စသည်ဖြင့် ကွဲပြားစွာ ရှိနေကြကုန်၏။ ပုဂ္ဂိုလ်တစ်ယောက်တည်းမှာပင် ကံအမျိုးမျိုး အားလျော်စွာ ကောင်းသော၊ ဆိုးသော အာယတနတို့ ဖြစ်ပေါ်လာကြရ၏။ အချို့ကား ကောင်းသော ကံများ၏ အကျိုးပေးကိုချည်း ခံယူရသဖြင့် အာယတန ငါးပါးလုံး ကောင်းမွန်ကြ ကုန်၏။ အချို့ကား မကောင်းသော ကံတို့၏ အကျိုးပေးကိုချည်း ခံယူရသဖြင့် အာယတန ငါးပါး လုံး ချို့တဲ့ကာ လူ့တန်းမစေ့သူ ဖြစ်ကြရကုန်၏။]

## ၄။ လူအားလုံးတို့ အဘယ်ကြောင့် မတူညီကြသနည်း

'အရှင်နာဂသေနဘုရား၊ အချို့သောသူတို့သည် အသက်တိုကုန်၏။ အချို့သူတို့သည် အသက် ရှည်ကုန်၏။ အချို့သူတို့သည် အနာများကုန်၏။ အချို့သူတို့သည် အနာနည်းကုန်၏။ အချို့ သူတို့သည် အရုပ်ဆိုးကုန်၏။ အချို့သူတို့သည် အဆင်းလှကုန်၏။ အချို့သူတို့သည် တန်ခိုး သေးနုပ်ကုန်၏။ အချို့သူတို့သည် တန်ခိုးကြီးကုန်၏။ အချို့သူတို့သည် ပစ္စည်းဥစ္စာ ရှားပါး ကုန်၏။ အချို့သူတို့သည် ပစ္စည်းဥစ္စာ ပေါများကုန်၏။ အချို့သူတို့သည် အမျိုးယုတ်ကုန်၏။ အချို့သူတို့သည် အမျိုးမြတ်ကုန်၏။ အချို့သူတို့သည် ပညာမဲ့ကုန်၏။ အချို့သူတို့သည် ပညာရှိ ကုန်၏။ လူအားလုံးတို့သည် အဘယ့်ကြောင့် မတူညီကြပါကုန်သနည်း'

'မင်းမြတ်၊ အချို့သစ်ပင်တို့သည် ချဉ်ကုန်၏။ အချို့သစ်ပင်တို့သည် ငန်ကုန်၏။ အချို့ သစ်ပင်တို့သည် ခါးကုန်၏။ အချို့သစ်ပင်တို့သည် စပ်ကုန်၏။ အချို့သစ်ပင်တို့သည် ဖန်ကုန် ၏။ အချို့သစ်ပင်တို့သည် ချိုကုန်၏။ သစ်ပင်အားလုံးတို့သည် အဘယ့်ကြောင့် မတူညီကြပါ ကုန်သနည်း'

'အရှင်ဘုရား၊ မျိုးစေ့ချင်း ကွာခြားခြင်းကြောင့် မတူညီဟု ထင်မှတ်မိပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏ ကွာခြားခြင်းကြောင့် လူ အားလုံးတို့သည် မတူညီကြကုန်။ ဘုရားရှင်ကလည်း လုလင်၊ သတ္တဝါတို့သည် ကံသာလျှင် မိမိ

ဥစ္စာ ရှိကြကုန်၏။ ကံ၏ အမွေခံ ဖြစ်ကြကုန်၏။ ကံသာလျှင် အကြောင်းရှိကုန်၏။ ကံသာလျှင် ဆွေမျိုးရှိကုန်၏။ ကံသာလျှင် ကိုးစားစရာ ရှိကုန်၏။ သတ္တဝါတို့ ပြုလုပ်ခဲ့သော ကံသာလျှင် ထိုသတ္တဝါတို့ကို အယုတ် အမြတ် ဖြစ်စေရန် စီမံခန့်ခွဲ၏ဟု ဟောကြားတော်မူပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကုသိုလ်ကံကြောင့် အသက်ရှည်ခြင်း စသော ကောင်းကျိုးများ ခံစားရ၍ အကုသိုလ်ကံကြောင့် အသက်တိုခြင်း စသော မကောင်းကျိုးများ ခံစားရပေ၏။]

## ၅။ ကြိုတင်၍ လုံ့လပြုထိုက်သလော

'အရှင်နာဂသေနဘုရား၊ 'သံသရာ ဝဋ်ဆင်းရဲ၏ ချုပ်ရာချုပ်ကြောင်း နည်းလမ်းကောင်းကို ရှာဖွေရန် လက်ရှိခံစားနေရသော ဝဋ်ဒုက္ခမှတစ်ပါး အခြားသော ဝဋ်ဒုက္ခတို့ ဖြစ်ပေါ်မလာစေရန် ငါတို့ ရဟန်းပြုခဲ့ကြကုန်၏'ဟု စောစောက အရှင်ဘုရား ဖြေကြားခဲ့ဖူးပါ၏။ အချိန်မကျမီ စောစောစီးစီး ကြိုတင်၍ လုံ့လပြုခြင်းဖြင့် အဘယ်အကျိုးရှိပါမည်နည်း။ အချိန်ရောက်မှသာ လုံ့လပြုသင့်သည် မဟုတ်ပါလော'

'အချိန်ကျမှ လုံ့လပြုခြင်းသည် လိုအပ်သော အမှုကိစ္စကို မပြီးစီးစေနိုင်ပေ။ အချိန်မကျမီ စောစောစီးစီး ကြိုတင်၍ လုံ့လပြုခြင်းသည်သာ လိုအပ်သော အမှုကိစ္စကို ပြီးစီးစေနိုင်ပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ သင်မင်းမြတ်သည် ရေဆာသောအချိန်ကျမှ ရေတွင်း၊ ရေကန်ကို တူးစေရာသလော'

'အရှင်ဘုရား၊ ဤသို့ မဟုတ်ပါ။ ရေမဆာမီက စောစောစီးစီး ကြိုတင်၍ ရေတွင်း ရေကန် တူးစေရပါသည်'

'မင်းမြတ်၊ ဤအတူသာပင် အချိန်ကျမှ လုံ့လပြုခြင်းသည် လိုအပ်သော အမှုကိစ္စကို မပြီးစီးစေနိုင်ပေ။ အချိန်မကျမီ စောစောစီးစီး ကြိုတင်၍ လုံ့လပြုခြင်းသည်သာ လိုအပ်သော အမှုကိစ္စကို ပြီးစီးစေနိုင်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျွမ်းရင်း၌ ထမင်းဆာမှ စပါးစိုက်ရန် လယ်ထွန်ခြင်း၊ စစ်ပွဲကြီး ဖြစ်ပွားလာခါမှ ကျုံး၊ မြို့ရိုး၊ တံခါးမုခ် စသည် ပြုလုပ်ခြင်းတို့နှင့်လည်း ဥပမာပြုပါသေး၏။]

## ၆။ ငရဲသားသည် ငရဲမီးထဲ၌ အဘယ်ကြောင့် ကျွမ်းမသွားသနည်း

'အရှင်နာဂသေနဘုရား၊ 'ပကတိ မီးထက် ငရဲမီးသည် လွန်လွန်မင်းမင်း အပူရှိန် ပြင်းလှ၏။ ပကတိ မီးထဲ၌ ပစ်ချထားသော ကျောက်ခဲကလေးသည် တစ်နေ့လုံး ပူလောင်နေသော်လည်း ကြေညက်မသွားနိုင်ပေ။ အိမ်လုံးလောက်ရှိသော ကျောက်တုံးကြီးကို ငရဲမီးထဲ ပစ်ချလိုက်ပါမူ ကား တစ်ခဏချင်းပင် ကြေညက်သွားနိုင်၏'ဟု အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကား

ကို တပည့်တော် မယုံနိုင်ပါ။ ထို့ပြင်လည်း 'ငရဲသို့ ကျရောက်ကုန်သော သတ္တဝါတို့သည် နှစ်ပေါင်း ထောင်ပေါင်းများစွာ ငရဲမီး၌ အလောင်အကျွမ်း ခံနေကြရသော်လည်း ကြေညက် မသွားကြကုန်'ဟုလည်း အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကားကိုလည်း တပည့်တော် မယုံနိုင်ပါ'

'မင်းမြတ်၊ မကန်းမ၊ မိကျောင်းမ၊ လိပ်မ၊ ဥဒေါင်းမ၊ ခိုမတို့သည် ကျောက်ခဲ၊ ကျောက်စရစ်ခဲ စသော ကြမ်းတမ်းသော အစာတို့ကို စားမျိုကြကုန်၏လော'

'အရှင်ဘုရား၊ စားမျိုကြပါကုန်၏'

'မင်းမြတ်၊ ထိုကျောက်ခဲသည် မကန်းမ စသည်တို့၏ ဝမ်းတွင်းသို့ ရောက်သွားသောအခါ ကြေညက်သွားကြသည် မဟုတ်ပါလော'

'အရှင်ဘုရား၊ ကြေညက်သွားကြပါ၏'

'မင်းမြတ်၊ ဤသို့ဆိုလျှင် မကန်းမ စသည်တို့၏ ဝမ်းတွင်း၌ရှိသော ကိုယ်ဝန်သည်လည်း ကြေညက်သွားပါသလော'

'အရှင်ဘုရား၊ ကိုယ်ဝန်သည်ကား ကြေညက်၍ မသွားပါ'

'မင်းမြတ်၊ အဘယ့်ကြောင့် ကြေညက်မသွားပါသနည်း'

'အရှင်ဘုရား၊ ထိုသတ္တဝါတို့ ပြုခဲ့သော ကံကြောင့် ကြေညက်မသွားခြင်းဟု ထင်မှတ်မိပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ငရဲသားတို့သည် မိမိတို့ ပြုခဲ့မိသော အကုသိုလ်ကံကြောင့် နှစ်ပေါင်း ထောင်ပေါင်းများစွာ ငရဲမီး၌ အလောင်အကျွမ်း ခံနေကြရသော်လည်း ကြေညက်မသွားကြကုန်'

'မင်းမြတ်၊ မြတ်စွာဘုရားကလည်း 'ငရဲသားတို့သည် ပစ်ချလိုက်သော ကံအဟုန် မကုန်သေးသမျှ မသေနိုင်ကြကုန်'ဟု ဟောကြားတော်မူခဲ့ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ ခြင်္သေ့မ၊ ကျားမ စသော တိရစ္ဆာန်များ၊ အမျိုးသမီးများ စားသောက်သော အစာကြမ်းများနှင့် ထိုသူတို့၏ ဝမ်းတွင်းရှိ ကိုယ်ဝန်တို့ကို နှိုင်းယှဉ်၍လည်း ဥပမာပြုပါသေး၏။]

## ၇။ ကမ္ဘာမြေကြီးသည် ရေပေါ်မှာ မည်သို့ တည်နေနိုင်သနည်း

'အရှင်နာဂသေနဘုရား၊ ဤကမ္ဘာမြေကြီးသည် ရေပေါ်၌ တည်နေ၏။ ရေသည် လေပေါ်၌ တည်နေ၏။ လေသည် ကောင်းကင်၌ တည်နေ၏ဟု အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကားကို တပည့်တော် မယုံနိုင်ပါ'

အရှင်နာဂသေနသည် ရေစစ်ဖြင့် ရေကို စုပ်ယူ၍ မိလိန္ဒမင်းအား ပြသကာ –

'မင်းမြတ်၊ ဤရေကို လေက ဆောင်ယူထားသကဲ့သို့ပင် ကမ္ဘာမြေကြီးကို ခံထားသော ရေကိုလည်း လေက ဆောင်ယူထားပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၈။ နိဗ္ဗာန်၏ ချုပ်ငြိမ်းခြင်းသဘောတား မည်သို့နည်း

'အရှင် နာဂသေနဘုရား၊ ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန်မည်ပါသလော'

'မင်းမြတ်၊ ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန် မည်ပေ၏'

'အရှင်ဘုရား၊ အဘယ်သို့ ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန်မည်ပါသနည်း'

'မင်းမြတ်၊ 'ပုထုဇဉ် အမိုက်အမဲ အားလုံးတို့သည် ကိုယ်တွင်းကိုယ်ပမှာ ရှိနေကြသော အာယတနတို့ကို အလွန်နှစ်သက်ကြကုန်၏။ အလွန်စွဲလမ်း၍ ပြောဆိုကြကုန်၏။ အဆုံးတိုင် သက်ဝင်၍ တည်ကုန်၏။ ထိုပုထုဇဉ်တို့သည် ထိုတဏှာရေအလျဉ်ဖြင့် မျောပါကြကုန်၏။ ပဋိသန္ဓေနေရခြင်း၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေး ငိုကြွေးရခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာခြင်း၊ ပြင်းထန်စွာ ပင်ပန်းခြင်း ဘေးတို့မှ မလွတ်ကုန်။ ဆင်းရဲအပေါင်းမှ မလွတ်ကုန်'ဟု ဘုရားဟော ဒေသနာတော်နှင့်အညီ ငါတို့ ဆိုကုန်၏။

'မင်းမြတ်၊ ထိုမှ ပြောင်းပြန်ယူသောနည်းဖြင့် အကြားအမြင်ရှိပြီးသော အရိယာသာဝက သည်ကား ကိုယ်တွင်းကိုယ်ပမှာ ရှိနေကြသော အာယတနတို့ကို အလွန် မနှစ်သက်ကြကုန်။ အလွန် စွဲလမ်း၍ မပြောဆိုကြကုန်။ အဆုံးတိုင် သက်ဝင်၍ မတည်ကြကုန်။ ထို အရိယာသာဝက အား တဏှာသည် ချုပ်ငြိမ်း၏။ တဏှာ ချုပ်ငြိမ်းခြင်းကြောင့် ဥပါဒါန်သည် ချုပ်ငြိမ်း၏။ ဥပါဒါန် ချုပ်ငြိမ်းခြင်းကြောင့် ဘဝ ချုပ်ငြိမ်း၏။ ဘဝ ချုပ်ငြိမ်းခြင်းကြောင့် ပဋိသန္ဓေ နေခြင်း ချုပ်ငြိမ်း၏။ ပဋိသန္ဓေချုပ်ငြိမ်းခြင်းကြောင့် အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေး ငိုကြွေးခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာခြင်း၊ ပြင်းထန်စွာ ပင်ပန်းခြင်းတို့သည် ချုပ်ငြိမ်းကုန်၏။ ဤသို့လျှင် အလုံးစုံသော ဆင်းရဲအစုသည် ချုပ်ငြိမ်း၏။ မင်းမြတ်၊ ဤသို့ ချုပ်ငြိမ်းခြင်းသည် နိဗ္ဗာန် မည်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၉။ သတ္တဝါအားလုံးသည် နိဗ္ဗာန်ရမည်လော

'အရှင် နာဂသေနဘုရား၊ အလုံးစုံသော သူတို့သည် နိဗ္ဗာန်ကို ရကြပါသလော'

'မင်းမြတ်၊ အလုံးစုံသော သူတို့သည် နိဗ္ဗာန်ကို မရကြကုန်။ စင်စစ်မူကား အကြင်သူသည် ဝိပဿနာ ဘာဝနာအကျင့်ကို ကောင်းစွာ ကျင့်သုံးသည်ဖြစ်၍ ဒုက္ခသစ္စာတရားတို့ကို ဉာဏ်ဖြင့် ရှေးရှုသိ၏။ ပိုင်းခြား၍ သိ၏။ သမုဒယ သစ္စာတရားကို ပယ်၏။ မဂ္ဂသစ္စာကို ပွားများ၏။ နိရောဓသစ္စာတရားများကို မျက်မှောက်ပြု၏။ ထိုသူသည်သာ နိဗ္ဗာန်ကို ရပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၀။ နိဗ္ဗာန် မရသေးဘဲ နိဗ္ဗာန်ချမ်းသာကို သိနိုင်သလော

'အရှင် နာဂသေန ဘုရား၊ နိဗ္ဗာန်မရသေးသူ ဟူ၍ နိဗ္ဗာန်၏ ချမ်းသာပုံကို သိနိုင်ပါ၏လော'

'မင်းမြတ်၊ သိနိုင်ပါပေ၏'

'အရှင်ဘုရား၊ မရသေးပါဘဲလျက် နိဗ္ဗာန်ချမ်းသာပုံကို အဘယ်သို့ သိနိုင်ပါသနည်း'

'မင်းမြတ်၊ ခြေလက် မပြတ်သော သူတို့သည် ခြေလက်ပြတ်ခြင်းသည် ဆင်းရဲ၏ဟု သိနိုင်ကြပါကုန်သလော'

'အရှင်ဘုရား၊ သိနိုင်ကြပါ၏'

'မင်းမြတ်၊ အဘယ်သို့ သိနိုင်ကြပါသနည်း'

'အရှင်ဘုရား၊ ခြေပြတ်သော အခြားသူတို့၏ ငိုကြွေးသံကိုကြား၍ သိနိုင်ပါ၏'

'မင်းမြတ်၊ ဤအတူသာပင် နိဗ္ဗာန်ကို မျက်မှောက်ပြုပြီး သူတို့ ဟောကြားသံကို ကြားရ၍ နိဗ္ဗာန်ချမ်းသာပုံကို သိနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'




## ၁။ ဘုရားရှင် တကယ်ရှိခဲ့သလော

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားသည် ဘုရားရှင်ကို ဖူးမြင်ရဖူးပါသလော'

'မင်းမြတ်၊ မဖူးမြင်ရဖူးပါ'

'အရှင်ဘုရား၏ ဆရာကော ဘုရားရှင်ကို ဖူးမြင်ရဖူးပါသလော'

'မင်းမြတ်၊ ငါ၏ဆရာလည်း မဖူးမြင်ရဖူးပါ'

'အရှင်ဘုရား၊ ဤသို့ဖြစ်လျှင် ဘုရားရှင် မရှိခဲ့ချေတကား'

'မင်းမြတ်၊ ဟိမဝန္တာ တောတောင်၌ ရှိသော ဦဟာမြစ်ကို သင်မင်းမြတ် မြင်ဖူးပါသလော'

'အရှင်ဘုရား၊ တပည့်တော် မမြင်ဖူးပါ'

'သင်မင်းမြတ်၏ ခမည်းတော်ကော ဦဟာမြစ်ကို မြင်ဖူးပါသလော'

'အရှင်ဘုရား၊ တပည့်တော်၏ ခမည်းတော်လည်း မမြင်ဖူးပါ'

'မင်းမြတ်၊ ဤသို့ဖြစ်လျှင် ဦဟာမြစ်သည် မရှိတော့ချေတကား'

'အရှင်ဘုရား၊ တပည့်တော်နှင့် တပည့်တော်၏ ခမည်းတော်တို့ မမြင်ဖူးသော်လည်း ဦဟာမြစ်သည်ကား ရှိနေပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ငါနှင့် ငါ၏ဆရာတို့ မဖူးခဲ့ရဖူးသော်လည်း ဘုရားရှင်ကား ရှိတော်မူခဲ့ပါပေ၏'

## ၂။ ဘုရားရှင်၏ မြင့်မြတ်ပုံကို မည်သို့သိနိုင်သနည်း

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်သည် အတုမရှိ မြင့်မြတ်တော်မူပါသလော'

'မင်းမြတ်၊ မှန်ပေ၏'

'အရှင်ဘုရား၊ အရှင်ဘုရားတို့ မဖူးမမြင်ရပါလျက် ဘုရားရှင်၏ အတုမရှိ မြင့်မြတ်ပုံကို အဘယ်သို့ သိနိုင်ပါသနည်း'

'မင်းမြတ်၊ မဟာသမုဒ္ဒရာကို မမြင်ဖူးသေးသော သူတို့သည် မဟာသမုဒ္ဒရာ၏ ကျယ်ဝန်းပုံ၊ နက်ရှိုင်းပုံ၊ တိုင်းတာ၍ မရနိုင်ပုံ၊ ကူးခတ်ကျော်လွှားရန် ခဲယဉ်းပုံ၊ ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီ၊

မဟီ၊ သရဘူ ဟူသော မြစ်ကြီးငါးသွယ်တို့ စီးဝင်ကြပုံ၊ လျော့သွားသည်၊ ပြည့်လျှံသွားသည် မရှိနိုင်ပုံတို့ကို သိနိုင်ပါသလော'

'အရှင်ဘုရား၊ သိနိုင်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ကြီးမြတ်တော်မူကုန်သော၊ ပရိနိဗ္ဗာန် စံဝင်တော်မူကြကုန်သော တပည့်သာဝကတို့ကို ဖူးမြင်ရသောကြောင့် ထိုတပည့်သာဝကတို့၏ ဆရာသခင်ဘုရားရှင်၏ အတုမရှိ မြင့်မြတ်တော်မူပုံကို သိနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၃။ ဘုရားရှင်၏ မြင့်မြတ်ပုံကို မည်သို့သိနိုင်သနည်း

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်၏ အတုမရှိ မြင့်မြတ်ပုံကို သိနိုင်ပါမည်လော'

'မင်းမြတ်၊ သိနိုင်ပေ၏'

'အရှင်ဘုရား၊ အဘယ်သို့ သိနိုင်ပါသနည်း'

'မင်းမြတ်၊ တိဿထေရ မည်သော စာဆိုတော်ကြီးသည် ရှေးက ရှိခဲ့ဖူး၏။ ထိုစာဆိုတော်ကြီး ကွယ်လွန်ခဲ့သည်မှာ နှစ်ပေါင်းများစွာ ကြာပြီ ဖြစ်သော်လည်း ထိုစာဆိုတော်ကြီးကို ယခုလူတို့ သိနေကြသေး၏။ သူတို့သည် ဘယ်သို့ သိနိုင်ကြပါသနည်း'

'အရှင်ဘုရား၊ ထိုစာဆိုတော်ကြီး စပ်ဆိုသီကုံးထားခဲ့သော စာဖြင့် သိနိုင်ကြပါ၏'

'မင်းမြတ်၊ ဤအတူသာပင် တရားကို သိမြင်သောသူသည် ဘုရားရှင်ကိုလည်း ဖူးမြင်ရ၏။ ဘုရားရှင်သည် တရားတော်ကို ဟောကြားတော်မူခဲ့ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဤပုစ္ဆာနှစ်ခုနှင့် ပတ်သက်သော အဖြေအကျယ်ကို အနုမာနဝဂ်၊ ဘုရားရှင် ရှိတော်မူကြောင်း မှန်းဆနိုင်ပုံ ဖြေရှင်းချက်၌ ဆက်လက်ဖတ်ရှုပါ။]

## ၄။ အရှင်ဘုရား တရားကို သိမြင်ပါသလော

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားသည် တရားတော်ကို သိမြင်ပါသလော'

'မင်းမြတ်၊ ဘုရားရှင် ညွှန်ကြားတော်မူသော နည်းဖြင့်သာလျှင် ဘုရားရှင်၏ ပညတ်တော်ဖြင့်သာလျှင် တပည့်တို့သည် အသက်ထက်ဆုံး လိုက်နာကျင့်သုံးအပ်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[တရားတော်ကို သိမြင်ခြင်းဟူသည်မှာ အရိယသစ္စာတရားကို သိမြင်သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် ဖြစ်၏။ ထိုတရားတို့မှာ ဥတ္တရိမနုဿဓမ္မတို့ ဖြစ်ကြ၍ ထိုတရားကို ရရှိကြောင်းကို လူတို့အား ရဟန်းတို့က မပြောကြားကောင်းပေ။ ထို့ကြောင့် အရှင်နာဂသေနက စကားလှည့်လွှဲ၍ ဖြေတော်မူရ၏။ ရှေ့နှစ်နေရာတွင်လည်း ဤအမေးမျိုး ပါခဲ့ဖူးပြီ။]

## ၅။ ဘဝဟောင်းမှ မပြောင်းရွှေ့ဘဲ ပဋိသန္ဓေ နေနိုင်သလော

'အရှင်နာဂသေန ဘုရား၊ ဤဘဝမှ တစ်စုံတစ်ရာ ပြောင်းရွှေ့၍ ပါမသွားဘဲ ဘဝသစ်၌ ပဋိသန္ဓေ နေပါသလော'

'မင်းမြတ်၊ မှန်ပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် မီးတိုင်တစ်ခုမှ မီးတိုင်တစ်ခုသို့ မီးညှိပေးရာ၏။ ထိုမီးသည် ပထမ မီးတိုင်မှ ပြောင်းရွှေ့၍ ပါသွားပါသလော'

'အရှင်ဘုရား၊ ပြောင်းရွှေ့၍ ပါမသွားပါ'

'မင်းမြတ်၊ ဤအတူသာပင် ဤဘဝမှ တစ်စုံတစ်ရာ ပြောင်းရွှေ့၍ ပါမသွားဘဲ ဘဝသစ်၌ ပဋိသန္ဓေနေရပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[စိတ်၊ စေတသိက်၊ ရုပ် ဟူသော ပရမတ္ထတရားတို့သည် ဤနေရာမှာဖြစ်လျှင် ဤနေရာမှာပင် ချုပ်ကုန်၏။ နောက်တစ်နေရာသို့ ဆံခြည်တစ်ခြမ်းမျှ မရွေ့လျားကြကုန်။ ဤအချိန်မှာဖြစ်လျှင် ဤအချိန်မှာပင် ချုပ်ကုန်၏။ နောက်တစ်ချိန်သို့ တစ်ခဏလေးမျှ မရွေ့လျားကြကုန်။ ထို့ကြောင့် ဤဘဝမှာ ဖြစ်ပျက်ခဲ့ကြသော စိတ်၊ စေတသိက်၊ ရုပ်တို့သည် ဤဘဝမှာပင် ချုပ်ကြရကုန်၏။ ဤဘဝနှင့်တကွ ရှေးရှေးဘဝက ဆည်းပူးခဲ့ကြသော ကံ စသော အကြောင်းတရားများ အားလျော်စွာ ဘဝသစ်၌ ရုပ်သစ်၊ နာမ်သစ်တို့ ဖြစ်ပေါ်လာကြရပေ၏။ ကျမ်းရင်း၌ ကဗျာသင်ယူရာတွင် သင်ပေးသော ဆရာ့ထံမှ ကဗျာက တပည့်ထံ ပါမသွားပုံကိုလည်း ဥပမာပြုသေး၏။]

## ၆။ ဝေဒဂူသည် ထင်ရှားသလော

'အရှင် နာဂသေနဘုရား၊ ဝေဒဂူသည် ပရမတ္ထတရားအားဖြင့် ထင်ရှားရှိပါသလော'

'မင်းမြတ်၊ မရှိနိုင်ပါ'

[ဝိစာရဝဂ်မှာလည်း ဤပုစ္ဆာကို မေးခဲ့ဖူး၏။]

## ၇။ အခြားကိုယ်သို့ ပြောင်းရွှေ့သူရှိသလော

'အရှင် နာဂသေနဘုရား၊ ဤကိုယ်ကောင်မှ အခြား ကိုယ်ကောင်သို့ ပြောင်းရွှေ့သော သတ္တဝါ ရှိပါသလော'

'မင်းမြတ်၊ မရှိပေ'

'အရှင်ဘုရား၊ အကယ်၍ မရှိခဲ့ပါသော် ယုတ်ညံ့သော အကုသိုလ်ကံတို့မှ လွတ်မြောက်သူ ဖြစ်ပါဦးမည်လော'

'မင်းမြတ်၊ မှန်ပေ၏။ ထိုသူသည် ပဋိသန္ဓေ မနေတော့လျှင် ယုတ်ညံ့သော အကုသိုလ်ကံတို့မှ လွတ်မြောက်သူ ဖြစ်လတ္တံ့။ ပဋိသန္ဓေနေရသေးလျှင်ကား ယုတ်ညံ့သော အကုသိုလ်ကံတို့မှ မလွတ်မြောက်နိုင်ပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် အခြားသူ၏ သရက်သီးကို ခိုးယူရာ၏။ ထိုသရက်သီး ခိုးသူသည် အပြစ်ဒဏ် ကျခံရပါသလော'

'အရှင်ဘုရား၊ မှန်ပေ၏။ အပြစ်ဒဏ် ကျခံရပေ၏'

'မင်းမြတ်၊ ထိုသူသည် အခြားသူ စိုက်ပျိုးသော သရက်သီးကို ခိုးယူသည် မဟုတ်ပါဘဲလျက် အဘယ့်ကြောင့် အပြစ်ဒဏ်ကျခံရပါသနည်း'

'အရှင်ဘုရား၊ ခိုးယူအပ်သော ထိုသရက်သီးသည် အခြားသူ စိုက်ပျိုးခဲ့သော သရက်သီးကို အမှီပြု၍ သီးလာရသောကြောင့် အပြစ်ဒဏ်ကျခံရပါသည်'

'မင်းမြတ်၊ ဤပစ္စုပ္ပန်နာမ်ဖြင့် ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ကို ပြုလုပ်၏။ ထိုကံကြောင့် အခြားသော နာမ်ရုပ်သည် ပဋိသန္ဓေ တည်နေလာ၏။ ထို့ကြောင့် ယုတ်ညံ့သော အကုသိုလ်ကံတို့မှ မလွတ်နိုင်ပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဤပုစ္ဆာနှင့်ပတ်သက်သော အကျယ် ဖြေကြားချက်ကို အဒ္ဓါနမဂ်မှ ရှေ့တရား နောက်တရား ဆက်စပ်ပုံ၊ ရှေ့ရုပ်နာမ် နောက်ရုပ်နာမ် ဆက်စပ်ပုံနှင့် ဤဘဝမှ မပြောင်းရွှေ့ဘဲ ပဋိသန္ဓေနေပုံ ဖြေကြားချက်တို့၌ ဖတ်ရှုနိုင်ပေ၏။]

## ၈။ ကံတရား မည်သို့ တည်ရှိနေသနည်း

'အရှင် နာဂသေနဘုရား၊ ဤနာမ်ရုပ်ဖြင့် ပြုလုပ်သော ကုသိုလ်ကံ၊ အကုသိုလ်ကံတို့သည် အဘယ်တရား၌ တည်နေကြပါသနည်း'

'မင်းမြတ်၊ ထိုကံတို့သည် ပြုသူ၏နောက်သို့ အရိပ်ကဲ့သို့ အစဉ်တစိုက် လိုက်ပါနေကြကုန်၏'

'အရှင်ဘုရား၊ ထိုကံတို့ တည်ရှိနေသော နေရာကို ပြနိုင်ပါသလော'

'မင်းမြတ်၊ မပြနိုင်ပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ အသီးမသီးသေးသော သစ်ပင်တို့၌ အချိန်ကျလျှင် သီးလာကြမည့် အသီးတို့၏ တည်ရှိသော နေရာကို ပြနိုင်ပါသလော'

'အရှင်ဘုရား၊ မပြနိုင်ပေ'

'မင်းမြတ်၊ ဤအတူသာလျှင် အစဉ်မပြတ် ဖြစ်ပျက်နေသော ရုပ်နာမ်တရားတို့၌ ကံ၏ တည်နေရာကို မပြနိုင်ပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကံဟူသည် ပြုနေဆဲအခိုက်တွင်သာ ပရမတ္ထအားဖြင့် ထင်ရှားရှိလျက် ပြီး၍ ချုပ်သွားသည်နှင့် တစ်ပြိုင်နက် ပရမတ္ထအားဖြင့် မရှိတော့ပေ။ သို့ရာတွင် ကံ၏ အကျိုးပေးနိုင်သော ဂုဏ်သတ္တိကား ထိုရုပ်နာမ် သံသရာ မပြတ်သေးသမျှ အစဉ်တစိုက် လိုက်ပါနေသည်သာ ဖြစ်၏။ အခါအခွင့်ကြုံလျှင် အကျိုးပေးလာ၏။ ထိုသို့ အကျိုးပေးလာခြင်းကို ထောက်ကာ ကံကြွေးမှာရှိနေကြောင်းကို သိကြရပေ၏။]

## ၉။ ပဋိသန္ဓေနေရဦးမည်ကို ကိုယ်တိုင်သိနိုင်သလော

'အရှင်နာဂသေနဘုရား၊ ပဋိသန္ဓေ နေရဦးမည့်သူသည် ငါ ပဋိသန္ဓေနေရဦးမည်ဟု သိနိုင်ပါသလော'

'မင်းမြတ်၊ သိနိုင်ပေ၏'

'အရှင်ဘုရား၊ ဥပမာ ပြုတော်မူပါဦး'

'မင်းမြတ်၊ လယ်ထွန်ယောကျ်ားသည် မျိုးစေ့ကို လယ်မြေ၌ ကြဲချပြီး၍ မိုးကောင်းကောင်း ရွာလာသောအခါ ကောက်ပင်များ ပေါက်လာလိမ့်မည်ဟု သိနိုင်ပါသလော'

'အရှင်ဘုရား၊ သိနိုင်ပေ၏'

'မင်းမြတ်၊ ဤအတူပင် ပဋိသန္ဓေ နေရဦးမည့်သူသည် ငါ ပဋိသန္ဓေနေရဦးမည်ဟု သိနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၀။ ဘုရားရှင် အဘယ်အရပ်မှာ ရှိနေတော်မူသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် အကယ်ထင်ရှား ရှိပါ၏လော'

'မင်းမြတ်၊ အကယ်ထင်ရှား ရှိပေ၏'

'အရှင်ဘုရား၊ ဘုရားရှင် ရှိတော်မူရာအရပ်ကို ညွှန်ပြနိုင်ပါမည်လော'

'မင်းမြတ်၊ ဘုရားရှင်၏ ခန္ဓာ ရုပ် နာမ် အကြွင်းအကျန် မရှိသော အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ပရိနိဗ္ဗာန် ပြုတော်မူပေပြီ။ သို့ဖြစ်၍ ဘုရားရှင် ရှိတော်မူရာအရပ်ကို မညွှန်ပြနိုင်ပေ'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ မီးပုံကြီးတစ်ခုသည် အလျှံပြောင်ပြောင် တောက်လောင်နေခဲ့၏။ ထိုမီးတောက် မီးလျှံ ငြိမ်းသွားသောအခါ ထို မီးတောက်မီးလျှံ ရှိရာအရပ်ကို ညွှန်ပြနိုင်ပါမည်လော'

'အရှင်ဘုရား၊ မညွှန်ပြနိုင်ပေ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် ခန္ဓာ ရုပ် နာမ် အကြွင်းအကျန်မရှိသော အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ပရိနိဗ္ဗာန်ပြုတော်မူပေပြီ။ သို့ဖြစ်၍ ဘုရားရှင်ရှိတော်မူရာ အရပ်ကို မညွှန်ပြနိုင်ပေ။ မင်းမြတ်၊ တရားဒေသနာတော်အပေါင်းဖြင့်သာလျှင် ဘုရားရှင် အကယ်ထင်ရှား ရှိကြောင်း ညွှန်ပြနိုင်ပေ၏။ ဘုရားရှင်သည် တရားဒေသနာတော်များကို ဟောကြားတော်မူခဲ့ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[သက်ရှိထင်ရှား ရှိတော်မူနေကြသော ဘုရား၊ ရဟန္တာ အရှင်မြတ်တို့သည် အရဟတ္တမဂ် အရဟတ္တဖိုလ် ဆိုက်ရောက်စဉ်က စတင်၍ ကိလေသာအားလုံး ချုပ်ငြိမ်းသွား၏။ ဤသို့ ကိလေသာ ချုပ်ငြိမ်းခြင်းကို ကိလေသပရိနိဗ္ဗာန်ဟု ဆိုရ၏။ ဘုရား၊ ရဟန္တာတို့ သက်ရှိထင်ရှား ရှိနေတော်

မှုစဉ်တွင် ထိုအရှင်မြတ်တို့၏ ရုပ်တရားနှင့် လောကီနာမ်တရားတို့သည် ကိလေသာ မစင်သေးသူများ၏ တဏှာ ဥပါဒါန်ဖြင့် အာရုံပြု၍ သာယာတပ်မက်ခြင်း၊ စွပ်စွဲပုတ်ခတ်ခြင်း၊ ကိုယ်ထိလက်ရောက် ပြစ်မှားခြင်းတို့ကို ခံယူရသေး၏။ ထို့ကြောင့် ထိုလောကီ ရုပ်နာမ်တို့ကို ဥပါဒိဟု ဆိုရ၏။ ထို ဥပါဒိ တို့ ကြွင်းကျန်နေသေးလျက် ကိလေသာများ ချုပ်ငြိမ်းသွားခြင်းကို သဉပါဒိသေသ ပရိနိဗ္ဗာန်ဟု ဆို ရပေသည်။

ဘုရား၊ ရဟန္တာ အရှင်မြတ်တို့ စုတိ ကမ္မဇရုပ် ချုပ်ငြိမ်းသွားသည်တွင်ကား ဥပါဒိဟု ခေါ်ဆို ရသော လောကီရုပ်နာမ်တရားတို့ အကြွင်းအကျန် မရှိဘဲ လက်စသတ် ချုပ်ငြိမ်းသွားကြခြင်းကြောင့် အနုပါဒိသေသ ပရိနိဗ္ဗာန်ဟု ခေါ်ဆိုရ၏။ ပါဠိတော် နေရာများစွာတို့၌ ဤသို့ ပရိနိဗ္ဗာန် ပြုခြင်းကို ထိုကဲ့သို့ပင် မီးပုံကြီး ငြိမ်းသွားပုံနှင့် ဉပမာပြုထား၏။

အလျှံပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီး၌ မီးစာဟောင်းများ လောင်ကျွမ်း၍ ကုန် သွားကြ၏။ နောက်ထပ်လည်း မီးစာထည့်မပေးဘဲ နေ၏။ ဤတွင် လောင်စရာ မီးစာ မရှိတော့ သဖြင့် မီးပုံကြီး ငြိမ်းသွားရ၏။ ဘုရားရဟန္တာ အရှင်မြတ်တို့မှာလည်း အရဟတ္တမဂ်ဖြင့် ကိလေသာ အားလုံးကို ပယ်သတ်လိုက်ပြီ ဖြစ်၍ ထိုအရှင်မြတ်တို့ ပြုလေသမျှ အမှုများသည် ကံမဖြစ်တော့ပေ။ ကံ မရှိတော့၍ နောက်ထပ် တစ်ဖန် ဘဝသစ်၌ ပဋိသန္ဓေနေရန် မရှိတော့ပေ။ နောက်ထပ် ကံသစ် နှင့် ဆက်မပေးသဖြင့် ရှေးရှေးက ကံကြောင့် ရရှိထားသော ယခုဘဝ ရုပ် နာမ် ခန္ဓာတို့လည်း စုတိ ကမ္မဇရုပ် ချုပ်သည်နှင့် တစ်ပြိုင်နက် ကုန်ဆုံးသွားကြတော့၏။ ထို့ကြောင့် ထိုအရှင်မြတ်တို့သည် ဘဝ သံသရာ လက်စသတ် ချုပ်ငြိမ်းသွားကာ ပရိနိဗ္ဗာန်ပြုတော်မူပါ၏။ ထို့ကြောင့် ပရိနိဗ္ဗာန်ပြုတော် မူပြီးသော ဘုရား၊ ရဟန္တာအရှင်မြတ်တို့အား ငြိမ်းလေပြီးသော မီးပုံနှင့် ဥပမာပြုခြင်းမှာ အံဝင်ခွင်ကျ ထိမိလှပါပေ၏။]




## ၁။ ရဟန်းများသည် မိမိကိုယ်ကိုချစ်၍ အသက်ရှင်နေကြသလော

'အရှင် နာဂသေနဘုရား၊ ရဟန်းတို့သည် မိမိကိုယ်ကို ချစ်ပါသလော'

'မင်းမြတ်၊ ရဟန်းတို့သည် မိမိကိုယ်ကို မချစ်ပေ'

'အရှင်ဘုရား၊ သို့ပါလျက် ရဟန်းတို့သည် အဘယ့်ကြောင့် မိမိကိုယ်ခန္ဓာ ဆက်လက်တည်နေစေရန် စားဝတ်နေမှု ပြုသောအားဖြင့် ခင်မင်နေကြပါကုန်သနည်း။ မြတ်နိုးနေကြပါကုန်သနည်း'

'မင်းမြတ်၊ တစ်ခါတစ်ရံ သင်မင်းမြတ်သည် စစ်တိုက်စဉ် မြားထိမှန်ဖူးပါသလော'

'အရှင်ဘုရား၊ ထိမှန်ဖူးပေ၏'

'မင်းမြတ်၊ ထိုမြားထိမှန်ထားသော ဒဏ်ရာကို လိမ်းဆေးဖြင့် လိမ်းပါသလော။ ဆီဖြင့် သုတ်လူးပါသလော။ နူးညံ့သော အဝတ်စဖြင့် ပတ်တီးစည်းပါသလော'

'အရှင်ဘုရား၊ ဆေးလိမ်းပါ၏။ ဆီလူးပါ၏။ ပတ်တီးစည်းပေးပါ၏'

'မင်းမြတ်၊ အနာကိုချစ်သောကြောင့် ထိုသို့ပြုသလော'

'အရှင်ဘုရား၊ အနာကို ချစ်သောကြောင့် ပြုခြင်းမဟုတ်ပါ'

'မင်းမြတ်၊ ဤအတူပင် ရဟန်းတို့သည် မိမိကိုယ်ကို မချစ်ကြပေ။ မိမိကိုယ်ကို ခင်မင်မြတ်နိုး၍ ကိုယ်ခန္ဓာ ဆက်လက်တည်ရှိနေစေရန် စားဝတ်နေမှုများ ပြုနေကြသည် မဟုတ်ပေ။ သာသနာတော်မြတ်ကြီးကို ချီးမြှောက်ပြုစုနိုင်စေရန်သာ ကိုယ်ကို ဆောင်နေကြပေကုန်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၂။ ဘုရားရှင်သည် သဗ္ဗညု ဟုတ်ပါ၏လော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်သည် အလုံးစုံကို အကုန်အစင် သိမြင်နိုင်သော သဗ္ဗညု ဟုတ်ပါ၏လော'

'မင်းမြတ်၊ ဘုရားရှင်သည် သဗ္ဗညု ဟုတ်မှန်ပေ၏'

'အရှင်ဘုရား၊ ထိုသို့ဖြစ်ပါလျက် တပည့်ရဟန်းတို့အား သိက္ခာပုဒ်များကို အဘယ်ကြောင့် ကြိုတင်၍ ပညတ်တော်မမူပါသနည်း'

'မင်းမြတ်၊ သင်မင်းမြတ်၌ ဆေးဝါးမျိုးစုံကို သိမြင်တတ်ကျွမ်းသော ဆေးဆရာတစ်ယောက် ရှိပါ၏လော'

'အရှင်ဘုရား၊ ရှိပေ၏'

'မင်းမြတ်၊ ထိုဆေးဆရာသည် လူနာအား ဆေးတိုက်ချိန်ရောက်မှ ဆေးတိုက်ပါသလော၊ သို့မဟုတ် ဆေးတိုက်ချိန် မရောက်မီက ကြိုတင်၍ ဆေးတိုက်ပါသလော'

'အရှင်ဘုရား၊ ဆေးတိုက်ချိန်ရောက်မှ ဆေးတိုက်ပါ၏။ ဆေးတိုက်ချိန် မရောက်မီက ကြိုတင်၍ ဆေးမတိုက်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် အလုံးစုံကို အကုန်အစင် သိမြင်နိုင်သော သဗ္ဗညုဖြစ်ပါသော်လည်း တပည့်ရဟန်းတို့အား သိက္ခာပုဒ် ပညတ်ရန် အခွင့်အခါ မကြုံလာသေးမီ သိက္ခာပုဒ်ကို ပညတ်တော်မမူပေ။ အခွင့်အခါကြုံလာမှ ပညတ်တော်မူပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၃။ ဘုရားရှင်၌ မဟာပုရိသလက္ခဏာ ရှိပါ၏လော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်သည် ယောကျ်ားမြတ်တို့၏ လက္ခဏာတော်ကြီး သုံးဆယ့်နှစ်ပါးတို့ဖြင့် ပြည့်စုံပါ၏လော၊ လက္ခဏာတော်ငယ် ရှစ်ဆယ်တို့ဖြင့် သပ္ပာယ်တော်မူပါ၏လော၊ ရွှေရောင်ကဲ့သို့ ဝါဝင်းသောအဆင်း ရှိပါ၏လော၊ တစ်လံမျှလောက်သော ရောင်ခြည်တော် ထွန်းပပါ၏လော'

'မင်းမြတ်၊ မှန်လှပေ၏'

'အရှင်ဘုရား၊ ဘုရားရှင်၏ ခမည်းတော်၊ မယ်တော်တို့သည်လည်း ထိုအတိုင်းသာ ဖြစ်ကြပါလော'

'မင်းမြတ်၊ ထိုအတိုင်း မဖြစ်ကြပေ'

'အရှင်ဘုရား၊ ခမည်းတော်၊ မယ်တော်တို့သည် ထိုသို့မဖြစ်ကြပါလျှင် ဘုရားရှင်သည်လည်း ထိုသို့မဖြစ်တန်ရာ။ စင်စစ်အားဖြင့် သားဖြစ်သူသည် မိဘတို့နှင့်သာ တူသင့်ပေ၏'

'မင်းမြတ်၊ ပွင့်ချပ်များစွာ ပွင့်အာလျက်ရှိသော ကြာသည် အဘယ်မှာ ပေါက်ရောက်ပါသနည်း'

'အရှင်ဘုရား၊ ညွန်ထဲမှာ ပေါက်ရောက်ပေ၏။ ရေကို မှီဝဲနေပေ၏'

'မင်းမြတ်၊ ညွန်နှင့်ရေမှ ပေါက်ရောက်လာသော ထိုကြာသည် အနံ့အရသာအားဖြင့် ညွန်၊ ရေတို့နှင့် တူပါသလော'

'အရှင်ဘုရား၊ မတူပေ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် ယောကျ်ားမြတ်တို့၏ လက္ခဏာတော်ကြီး သုံးဆယ့်နှစ်ပါးတို့နှင့် ပြည့်စုံတော်မူပေ၏။ လက္ခဏာတော်ငယ် ရှစ်ဆယ်တို့ဖြင့် သပ္ပာယ်တော်မူပေ၏။ ရွှေရောင်ကဲ့သို့ ဝါဝင်းသော အဆင်းရှိတော်မူပေ၏။ ရွှေစင် ရွှေသားကဲ့သို့ ညက်ညော သန့်စင်သော **အသား**အရေ ရှိတော်မူပေ၏။ တစ်လံမျှလောက်သော ရောင်ခြည်တော် ထွန်းပတော်မူပေ၏။ ဘုရားရှင်၏ ခမည်းတော်၊ မယ်တော်တို့ကား ထိုအတိုင်း မဖြစ်ကြပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဘဝများစွာက ဖြည့်ကျင့်ခဲ့ကြသော ပါရမီတို့ ကွာခြားသဖြင့် ဤသို့ ကွာခြားကြရခြင်း ဖြစ်ပေ၏။]

## ၄။ ဘုရားရှင်သည် ဗြဟ္မာ၏ တပည့်လော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်သည် ဗြဟ္မစာရီ မည်တော်မူပါ၏လော'

'မင်းမြတ်၊ ဘုရားရှင်သည် ဗြဟ္မစာရီ မည်တော်မူပေ၏'

'အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် ဘုရားရှင်သည် ဗြဟ္မာ၏ တပည့်ပေလော'

'မင်းမြတ်၊ သင်မင်းမြတ်၏ မင်္ဂလာဆင်တော်သည် တစ်ခါတစ်ရံ ကြိုးကြာသံကို အော်မြည်ပါ၏လော'

'အရှင်ဘုရား၊ အော်မြည်ပေ၏'

'မင်းမြတ်၊ သို့ဖြစ်လျှင် မင်္ဂလာဆင်တော်သည် ကြိုးကြာငှက်၏ တပည့်ပေလော'

'အရှင်ဘုရား၊ မဟုတ်ပေ'

'မင်းမြတ်၊ ဗြဟ္မာသည် တရားအားလုံးကို အကုန်အစင် သိပြီးပြီလော၊ သိစရာ ကျန်သေးသလော'

'အရှင်ဘုရား၊ သိစရာ ကျန်ပါသေး၏'

'မင်းမြတ်၊ သို့ဖြစ်လျှင် ဗြဟ္မာသည် ဘုရားရှင်၏ တပည့်သာတည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဗြဟ္မာ ဟူသော ပုဒ်သည် ဗြဟ္မာ ဟူသော အနက်ကိုလည်း ဟော၏။ မြင့်မြတ်ခြင်းအနက်ကိုလည်း ဟော၏။ မိလိန္ဒမင်းက ဗြဟ္မာ ဟူသော အနက်ကို ရည်ညွှန်းကာ စကားခင်းထား၍ 'ဗြဟ္မာ၏ တပည့်လော'ဟု မေးခွန်းထုတ်လိုက်၏။ အရှင် နာဂသေနက မြင့်မြတ်ခြင်းအနက်ကို ရည်ညွှန်း၍ ဗြဟ္မစာရီ မည်ကြောင်း ဖြေဆို၏။ ထို့နောက်မှ အသံတူရာနောက်သို့ အနက်အဓိပ္ပာယ်က ထက်ကြပ်မကွာ မပါလာနိုင်ပုံကို ဥပမာပြကာ ဗြဟ္မာထက် ဘုရားရှင်က သာလွန်မြင့်မြတ်ပုံကို နိုင်လုံသော အကြောင်းပြ၍ မိန့်ကြားပေ၏။]

## ၅။ ဘုရားရှင်သည် ရဟန်းဖြစ်ပါ၏လော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်၏ ရဟန်းအဖြစ်သည် ကောင်းမြတ်ပါ၏လော'

'မင်းမြတ်၊ ကောင်းမြတ်ပေ၏'

'အရှင်ဘုရား၊ ဘုရားရှင်မှာ ရဟန်းအဖြစ်ရှိပါသလော။ မရှိပါသလော'

'မင်းမြတ်၊ ဗောဓိပင်ရင်း၌ သဗ္ဗညုတဉာဏ်တော်ကို ရသည်နှင့် တစ်ပြိုင်နက် ဘုရားရှင်သည် ရဟန်းအဖြစ်ကို ရတော်မူ၏။ ဘုရားရှင်သည် အသက်ထက်ဆုံး မလွန်ကျူးအပ်သော သိက္ခာပုဒ်များကို ပညတ်တော်မူကာ တပည့်တို့အား ရဟန်းပြုပေးတော်မူ၏။ ဘုရားရှင်မှာကား ထိုကဲ့သို့ ရဟန်းပြုပေးခြင်း မခံရပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[မိလိန္ဒမင်းက တစ်စုံတစ်ယောက်က ရဟန်းပြုပေးသည်ကို ခံယူမှ ရဟန်းအဖြစ် ရရှိသည်ကို သဘောထား၍ မေးမြန်း၏။ အရှင်နာဂသေနက ဤသို့ ရဟန်းခံခြင်းမှာ တပည့်သာဝကတို့အတွက်သာဖြစ်၍ တရားမင်း ဖြစ်တော်မူသော ဘုရားရှင်မှာကား မိမိအလိုလိုသာ ရဟန်းဖြစ်ကြောင်း ဖြေကြားပေ၏။]

## ၆။ မျက်ရည်သည် ဆေးဖက်ဝင်သလော

'အရှင် နာဂသေနဘုရား၊ အမိသေမှ ငိုကြွေးသူနှင့် တရားတော်ကို ကြည်ညိုမြတ်နိုးလှသဖြင့် ငိုကြွေးသူတို့တွင် အဘယ်သူ၏ မျက်ရည်သည် ရာဂငြိမ်းကြောင်း ဆေးဝါးကောင်း ဖြစ်ပါသနည်း'

'မင်းမြတ်၊ တစ်ယောက်သောသူ၏ မျက်ရည်သည် ရာဂ၊ ဒေါသ၊ မောဟတို့ဖြင့် ညစ်နွမ်း၏။ ပူလောင်၏။ တစ်ယောက်သောသူ၏ မျက်ရည်သည်ကား နှစ်သက်ခြင်း၊ ဝမ်းသာခြင်းဖြင့် စင်ကြယ်သန့်ရှင်း၏။ အေးမြ၏။ အေးမြသော ထိုမျက်ရည်သည် ရာဂငြိမ်းကြောင်း ဆေးဝါးကောင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ဘုရားရှင်၏ တရားလမ်းစဉ်အတိုင်း ကိုယ်တိုင်ကိုယ်ကျ လိုက်နာကျင့်သုံးလိုက်သောအခါ တစ်ကြိမ် တစ်ခါမျှ မခံစားရဖူးသော တည်ငြိမ် အေးချမ်းမှု အရသာကို ခံစားရပြီးလျှင် ထိုတရားတော်ကို ကြည်ညို မြတ်နိုးလှသဖြင့် ပီတိမျက်ရည်များ ကျတတ်ကြ၏။ ဤသို့သော မျက်ရည်မျိုးကို ဆိုလိုပေ၏။]

## ၇။ ရာဂရှိသူနှင့် ရာဂကင်းသူ မည်သို့ထူးသနည်း

'အရှင် နာဂသေနဘုရား၊ ရာဂရှိသူနှင့် ရာဂ မရှိသူတို့သည် မည်သို့ ထူးခြားကြပါသနည်း'

'မင်းမြတ်၊ ရာဂရှိသူသည် အလိုကြီး၏။ ရာဂ ကင်းသူကား အလိုမရှိပေ။ ဤသို့ ထူးခြားကြပေ၏။

'အရှင်ဘုရား၊ ရာဂရှိသူ၊ ရာဂကင်းသူ နှစ်ဦးစလုံးတို့ပင် ကောင်းမွန်သော ခဲဖွယ်ဘောဇဉ်ပဉ္စကို အလိုရှိကြပါကုန်၏။ မကောင်းမွန်သော ခဲဖွယ်ဘောဇဉ်ကို စားလိုသူ ဟူ၍ မရှိပေ။ တပည့်တော် ဤသို့ တွေ့မြင်ရပေ၏'

'မင်းမြတ်၊ ရာဂရှိသောသူသည် အရသာကို ခံစား၍လည်းကောင်း၊ အလိုတဏှာကို ခံစား၍လည်းကောင်း ခဲဖွယ်ဘောဇဉ်ကို စားသောက်၏။ ရာဂကင်းသောသူသည်ကား အရသာကိုသာ ခံစား၍ စားသောက်၏။ အလိုတဏှာ ခံစား၍ကား မစားသောက်ပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၈။ ပညာသည် ဘယ်နေရာ၌ တည်နေသနည်း

'အရှင် နာဂသေနဘုရား၊ ပညာသည် ဘယ်နေရာ၌ တည်ရှိပါသနည်း'

'မင်းမြတ်၊ ပညာသည် ဘယ်နေရာမှာမှ မတည်ရှိပေ'

'အရှင်ဘုရား၊ သို့ဖြစ်လျှင် ပညာသည် မရှိတော့ပြီလော'

'မင်းမြတ်၊ လေသည် ဘယ်နေရာ၌ တည်ရှိပါသနည်း'

'အရှင်ဘုရား၊ လေသည် ဘယ်နေရာမှာမှ မတည်ရှိပါ'

'မင်းမြတ်၊ သို့ဖြစ်လျှင် လေသည် မရှိတော့ပြီလော'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ပညာသည် စေတသိက်တရားမျှသာ ဖြစ်၍ အကြောင်းပြည့်စုံသောအခါမှ နာမ်ခန္ဓာအစဉ်၌ ပေါ်ပေါက်လာ၏။ ပေါ်ပေါက်ပြီးနောက် ချုပ်ပျောက်သွားရ၏။ ထို့ကြောင့် ဤကိုယ်ခန္ဓာဝယ် ဘယ်နေရာ၌ တည်ရှိ၏ဟု ပုံသေကားကျ သတ်မှတ်၍ မရနိုင်ပေ။ ဤသို့ ပုံသေကားကျ သတ်မှတ်၍ မရနိုင်ကြောင်းကို သိသာစေရန်သာ လေဖြင့် ဥပမာ ပြုပေ၏။]

## ၉။ သံသရာ ဟူသည် အဘယ်နည်း

'အရှင် နာဂသေနဘုရား၊ သံသရာဟူသည် အဘယ်ပါနည်း'

'မင်းမြတ်၊ ဤအရပ်၊ ဤဘုံ၌ မွေးဖွား၍ သေဆုံးပြီးလျှင် အခြားအရပ်၊ အခြားဘုံ၌ မွေးဖွား၍ သေဆုံး၏။ ထိုမှတစ်ဖန် အခြားအရပ်၊ အခြားဘုံ၌ မွေးဖွားပြန်၏။ ဤသည်ပင်လျှင် သံသရာပေတည်း'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် သရက်သီးကို စားကာ သရက်စေ့ကို စိုက်ပျိုးရာ၏။ ထိုသရက်စေ့မှ အပင်ပေါက်ကာ အသီး သီးလာ၏။ ထိုအသီးမှည့်ကို စားကာ အစေ့ကို စိုက်ပျိုးပြန်ရာ၏။ ထိုအစေ့မှ အပင်ပေါက်ကာ အသီးသီးပြန်ရာ၏။ ဤသို့ ဆက်ကာဆက်ကာ စိုက်ပျိုးလတ်သော် သရက်ပင်တို့၏ အဆုံးကို မမြင်နိုင်ပေ။ မင်းမြတ်၊ ဤအတူသာပင် ဘဝ မဆုံးနိုင်အောင် ကျင်လည်နေခြင်းသည် သံသရာပေတည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၀။ ကြာမြင့်စွာ ပြုခဲ့ပြီးသည်ကို အဘယ်တရားဖြင့် အောက်မေ့သနည်း

'အရှင် နာဂသေနဘုရား၊ ကြာမြင့်ခဲ့ပြီးဖြစ်သော အတိတ်ကာလတုန်းက ပြုလုပ်ခဲ့သော ကိစ္စကို အဘယ်တရားဖြင့် အောက်မေ့နိုင်ပါသနည်း'

'မင်းမြတ်၊ သတိဖြင့် အောက်မေ့နိုင်ပေ၏'

'အရှင်ဘုရား၊ စိတ်ဖြင့်သာ အောက်မေ့နိုင်သည် မဟုတ်ပါလော'

'မင်းမြတ်၊ သင်မင်းမြတ်သည် တစ်စုံတစ်ခုသော ပြုဖွယ်ကိစ္စကို ပြုလုပ်ပြီးနောက် မေ့လျော့ခဲ့ဖူးသလော'

'မင်းမြတ်၊ မေ့လျော့ခဲ့ဖူးပါ၏'

'မင်းမြတ်၊ ထိုသို့ မေ့လျော့နေစဉ်တွင် သင်မင်းမြတ်၌ စိတ်မရှိဘဲနေပါသလော'

'အရှင်ဘုရား၊ စိတ်မရှိသည် မဟုတ်ပါ။ သတိမရှိခြင်းသာ ဖြစ်ပေ၏'

'မင်းမြတ်၊ သို့ဖြစ်ပါလျက် သင် မင်းမြတ်သည် 'စိတ်ဖြင့်သာ အောက်မေ့နိုင်၏'ဟု အဘယ်ကြောင့် ဆိုရပါသနည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၁။ သတိသည် အမြဲသိမှတ်နေပါသလော

'အရှင် နာဂသေနဘုရား၊ သတိ ဟူသမျှသည် အမြဲ သိမှတ်နေပါသလော။ သို့မဟုတ် အခြားသတိလှုံ့ဆော်ပေးမှ ဖြစ်လာပါသလော'

'မင်းမြတ်၊ သတိသည် အမြဲသိမှတ်နေသည်လည်း ရှိ၏။ သူတစ်ပါးတို့ လှုံ့ဆော်ပေးမှ ဖြစ်ပေါ်လာသည်လည်း ရှိ၏'

'အရှင်ဘုရား၊ သတိ ဟူသမျှသည် အမြဲသိမှတ်၍ နေပါလျှင် အခြားသူတို့ လှုံ့ဆော်ပေးမှ ဖြစ်ပေါ်လာရသော သတိသည် မရှိတန်ရာ'

'မင်းမြတ်၊ သူတစ်ပါးတို့ လှုံ့ဆော်ပေးမှ ဖြစ်ပေါ်လာသော သတိသည် မရှိခဲ့ပါလျှင် ဆင်စွယ်ပန်းပွတ်ဆရာ၊ ပန်းချီဆရာ စသော အတတ်ပညာသည်တို့သည် မိမိတို့၏ အတတ်ပညာကို တစ်ဆင့် သင်ကြားပေး၍ မရနိုင်ကုန်ရာ။ မင်းမြတ်၊ ထိုအတတ်ပညာသည်တို့သည် မိမိတို့၏ အတတ်ပညာကို တစ်ဆင့် သင်ကြားပေး၍ မရနိုင်ကုန်ရာ။ မင်းမြတ်၊ ထိုအတတ်ပညာသည်တို့သည် မိမိတို့၏ အတတ်ပညာကို တစ်ဆင့် သင်ကြားပေး၍ ရနိုင်ကုန်သည်သာတည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

❀ ❀ ❀

# အရူပဓမ္မဝဝဏ္ဏာနုဂ်

## ၁။ သတိဖြစ်ပေါ်ခြင်း၏ အကြောင်းတရား မည်မျှနည်း

'အရှင် နာဂသေနဘုရား၊ အဘယ်မျှသော အကြောင်းတို့ကြောင့် သတိ ဖြစ်ပေါ်လာပါသနည်း'

'မင်းမြတ်၊ တစ်ဆယ့်ခုနစ်ပါးသော အကြောင်းတို့ကြောင့် သတိ ဖြစ်ပေါ်လာပေ၏'

'အရှင်ဘုရား၊ အဘယ် တစ်ဆယ့်ခုနစ်ပါးသော အကြောင်းတို့ကြောင့် သတိ ဖြစ်ပေါ်လာပါသနည်း'

'မင်းမြတ်၊ အမြဲသိမှတ်သောအားဖြင့် လည်းကောင်း၊ အခြားသူတို့က လှုံ့ဆော်ပေးသောအားဖြင့် လည်းကောင်း၊ ထင်ရှားသော အာရုံကို သိသောအားဖြင့် လည်းကောင်း၊ အကျိုးစီးပွားရှိသည်ကို သိသောအားဖြင့် လည်းကောင်း၊ အကျိုးစီးပွား မရှိသည်ကို သိသောအားဖြင့် လည်းကောင်း၊ သဘောတူသော အာရုံအားဖြင့် လည်းကောင်း၊ သဘောမတူသော အာရုံအားဖြင့် လည်းကောင်း၊ စကားသံကို ကြားသိသောအားဖြင့် လည်းကောင်း၊ မှတ်ကြောင်း အင်္ဂါလက္ခဏာအားဖြင့် လည်းကောင်း၊ သူတစ်ပါးတို့ သတိပေးသောအားဖြင့် လည်းကောင်း၊ အက္ခရာ အရေးအသားအားဖြင့် လည်းကောင်း၊ အရေအတွက်အားဖြင့် လည်းကောင်း၊ နှုတ်ငုံဆောင်ထားသောအားဖြင့် လည်းကောင်း၊ ကမ္မဋ္ဌာန်း ဘာဝနာအားဖြင့် လည်းကောင်း၊ ပေပုရပိုက်စာအုပ်တို့ကို ဖတ်ရှုရခြင်းအားဖြင့် လည်းကောင်း၊ အနီး၌ ချထားခြင်းဖြင့် လည်းကောင်း၊ သုံးဆောင် ခံစားခြင်းဖြင့် လည်းကောင်း သတိဖြစ်ပေါ်လာပေ၏။

၁။ အမြဲ သိမှတ်သောအားဖြင့် သတိဖြစ်ပုံကား အရှင်အာနန္ဒာနှင့်ခုဇ္ဇုတ္တရာ ဥပါသိကာမ တို့သည် ပိဋကသုံးပုံကို အောက်မေ့နိုင်သကဲ့သို့တည်း။ ဇာတိဿရဉာဏ်ရသူတို့သည် ဘဝဟောင်းကို အောက်မေ့နိုင်သကဲ့သို့တည်း။

၂။ အခြားသူတို့ လှုံ့ဆော်ပေးသောအားဖြင့် သတိဖြစ်ပုံကား သတိမေ့တတ်သူကို သတိရအောင် အစဉ်အမြဲ သတိပေးနေရခြင်းတည်း။

၃။ ထင်ရှားသော အာရုံကိုသိသောအားဖြင့် သတိဖြစ်ပုံကား မင်းအဖြစ်ဖြင့် အဘိသိက် ခံရခြင်းတည်း။ သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်ခြင်းတည်း။

၄။ အကျိုးစီးပွား ရှိသည်ကို သိသောအားဖြင့် သတိဖြစ်ပုံကား အကျိုးစီးပွား ဖြစ်ထွန်းရာ အရပ်ကို သတိရခြင်းတည်း။

၅။ အကျိုးစီးပွား မရှိသည်ကို သိသောအားဖြင့် သတိဖြစ်ပုံကား ဆင်းရဲဒုက္ခ ရောက်ခဲ့ရာ အရပ်ကို သတိရခြင်းတည်း။

၆။ သဘောတူသော အာရုံဖြင့် သတိဖြစ်ပုံကား အမိ၊ အဖ စသည်တို့နှင့်တူသောသူကို တွေ့မြင်သောအခါ အမိ အဖ စသည်ကို သတိရခြင်းတည်း။

၇။ သဘောမတူသော အာရုံအားဖြင့် သတိဖြစ်ပုံကား လူတစ်ယောက်စီ၏ အဆင်း အသံ စသည် ကွဲပြားပုံကို သတိရခြင်းတည်း။

၈။ စကားသံကို ကြားသိသောအားဖြင့် သတိဖြစ်ပုံကား သတိ မေ့လျော့တတ်သူသည် သတိပေးသူ၏ စကားသံကို ကြားရ၍ သတိရလာခြင်းတည်း။

၉။ မှတ်ကြောင်းအင်္ဂါ လက္ခဏာအားဖြင့် သတိဖြစ်ပုံကား နွားတို့၏ ခြေလက် အင်္ဂါ၊ ဗွေ စသည်တို့ဖြင့် မှတ်သား၍ သိခြင်းတည်း။

၁၀။ သူတစ်ပါးတို့ သတိပေးခြင်းအားဖြင့် သတိဖြစ်ပုံကား 'အချင်း၊ သတိထားလော့။ အချင်း၊ သတိထားလော့'ဟု သူတစ်ပါးတို့က တဖွဖွ သတိပေး၍ သတိရခြင်းတည်း။

၁၁။ အက္ခရာ အရေးအသားအားဖြင့် သတိဖြစ်ပုံကား အက္ခရာအရေးအသားကို သင်ကြား တတ်မြောက်ထားသဖြင့် အက္ခရာများကို နေထားတကျ ရေးသားတတ်ခြင်းတည်း။

၁၂။ အရေအတွက်အားဖြင့် သတိဖြစ်ပုံကား ဂဏန်းသင်္ချာအတတ်ကို တတ်မြောက်ထား သောကြောင့် များပြားလှသော ကိန်းဂဏန်းတို့ကို တွက်ချက်နိုင်ခြင်းတည်း။

၁၃။ နှုတ်ငုံဆောင်သောအားဖြင့် သတိရပုံကား နှုတ်ငုံဆောင်၍ သင်ကြားထားပြီးသူတို့သည် ကျမ်းပေါင်းများစွာကို အလွတ် ပြန်ဆိုနိုင်ခြင်းတည်း။

၁၄။ ကမ္မဋ္ဌာန်း စီးဖြန်းသောအားဖြင့် သတိဖြစ်ပုံကား သမထ ကမ္မဋ္ဌာန်းပွားများ၍ အဘိညာဉ် ရရှိပြီးသူသည် ရှေးရှေးဘဝများစွာကို သတိရခြင်းတည်း။

၁၅။ ပေ၊ ပုရပိုက်၊ စာအုပ်တို့ကို ဖတ်ရှု၍ သတိဖြစ်ပုံကား မင်းတို့သည် တရားစစ်ဆေး ရာ၌ မေ့လျော့သော ဥပဒေ အချက်အလက်တို့ကို ပေ၊ ပုရပိုက်၊ စာအုပ်တို့မှ ကြည့်ရှု၍ သတိရ ခြင်းတည်း။

၁၆။ အနီး၌ ချထားခြင်းဖြင့် သတိဖြစ်ပုံကား အနီး၌ ချထားသော ဥစ္စာဘဏ္ဍာကို သတိရ ခြင်းတည်း။

၁၇။ သုံးဆောင်ခံစားဖူးခြင်းဖြင့် သတိဖြစ်ပုံကား မိမိ တွေ့ကြုံခံစားဖူးသော အာရုံခြောက်ပါး တို့ကို သတိရခြင်းတည်း။

'မင်းမြတ်၊ ဟစ်ဆယ့်ခုနစ်ပါးသော ဤအကြောင်းတို့ကြောင့် သတိဖြစ်ပေါ်လာပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၂။ ဘုရားဂုဏ်တော်တစ်ခုသည် မည်မျှ အကျိုးကြီးသနည်း

'အရှင် နာဂသေနဘုရား၊ 'အနှစ်တစ်ရာ ကာလပတ်လုံး အကုသိုလ်မှု ပြုလုပ်ခဲ့သော သူသည် သေခါနီးတွင်မှ ဘုရားဂုဏ်တော်တစ်ခုကို အောက်မေ့မိလျှင် နတ်ပြည်သို့ လားရောက်ရ၏' ဟု အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကားကို တပည့်တော် မယုံနိုင်ပါ။ ထိုမှတစ်ဖန် 'တစ်ခုသော ပါဏာတိပါတ ကံဖြင့် ငရဲသို့ ကျရာ၏'ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကားကိုလည်း တပည့်တော် မယုံနိုင်ပါ'

'မင်းမြတ်၊ ကျောက်စရစ်ခဲသည် ငယ်ပင်ငယ်သော်လည်း လှေပေါ်၌ တင်မထားလျှင် ရေပေါ်မှာ ပေါ်နိုင်ပါမည်လော'

'အရှင်ဘုရား၊ မပေါ်နိုင်ပါ'

'မင်းမြတ်၊ လှည်းစီးရေ တစ်ရာမျှ ဝန်ချိန်ရှိသော ကျောက်တုံးကြီးကို လှေပေါ်တင်ထားလျှင် ရေပေါ်မှာ ပေါ်နိုင်ပါမည်လော'

'အရှင်ဘုရား၊ ပေါ်နိုင်ပေ၏'

'မင်းမြတ်၊ ကုသိုလ်ကံကို လှေကဲ့သို့ မှတ်ယူသင့်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၃။ အဘယ်ဒုက္ခကို ပယ်ပါသနည်း

'အရှင် နာဂသေနဘုရား၊ အရှင်ဘုရားတို့သည် အတိတ်ဒုက္ခကို ပယ်စွန့်ရန် လုံ့လပြုကြပါသလော'

'မင်းမြတ်၊ အတိတ်ဒုက္ခကို ပယ်စွန့်ရန် လုံ့လမပြုကြပေ'

'အရှင်ဘုရား၊ ထိုသို့မဟုတ်ပါလျှင် အနာဂတ်ဒုက္ခကို ပယ်စွန့်ရန် လုံ့လပြုကြပါသလော'

'မင်းမြတ်၊ အနာဂတ်ဒုက္ခကို စွန့်ပယ်ရန် လုံ့လမပြုကြပေ'

'အရှင်ဘုရား၊ ထိုသို့မဟုတ်ပါလျှင် ပစ္စုပ္ပန်ဒုက္ခကို ပယ်စွန့်ရန် လုံ့လပြုကြပါသလော'

'မင်းမြတ်၊ ပစ္စုပ္ပန်ဒုက္ခကို ပယ်စွန့်ရန် လုံ့လမပြုကြပေ'

'အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် အဘယ်အကျိုးငှာ လုံ့လပြုကြပါသနည်း'

'မင်းမြတ်၊ ပစ္စုပ္ပန်ဒုက္ခ ချုပ်ငြိမ်းသွားခြင်း အကျိုးငှာ၊ ပစ္စုပ္ပန်ဒုက္ခမှ တစ်ပါး အခြားဒုက္ခ နောက်ထပ်တစ်ဖန် ဖြစ်ပေါ်မလာစေခြင်း အကျိုးငှာ လုံ့လပြုကြပေ၏'

'အရှင်ဘုရား၊ အနာဂတ်ဒုက္ခသည် ထင်ရှား ရှိပါ၏လော'

'မင်းမြတ်၊ အနာဂတ်ဒုက္ခသည် ထင်ရှားမရှိပေ'

'အရှင်ဘုရား၊ အရှင်ဘုရားတို့သည် ထင်ရှားမရှိကုန်သော အနာဂတ်ဒုက္ခတို့ကို ပယ်စွန့်ရန် လုံ့လပြုကြကုန်ဘိ၏။ ထိုသို့ လုံ့လပြုကြသော အရှင်ဘုရားတို့သည် အလွန်တရာ ပညာရှိကြပေစွတကား'

'မင်းမြတ်၊ သင်မင်းမြတ်နှင့် စစ်မက်ပြိုင်ဆိုင်လိုကြသော ရန်သူမင်းတို့ ရှိကြပါသလော'

'အရှင်ဘုရား၊ ရှိကြပါကုန်၏'

'မင်းမြတ်၊ ရန်သူမင်းတို့ စစ်ချီလာခါမှ သင်မင်းမြတ်သည် ကျုံးတူးခြင်း၊ မြို့ရိုးတံတိုင်း ဆင့်ခြင်း၊ တံခါးမုခ်ပြုခြင်း၊ ပြအိုးပြုခြင်း၊ ရိက္ခာစပါး စုဆောင်းခြင်းတို့ကို စီရင်ပါသလော'

'အရှင်ဘုရား၊ ထိုသို့မဟုတ်ပါ။ ရန်သူစစ်တပ်များ မလာမီက ကြိုကြိုတင်တင် စီရင်၍ ထားရပေ၏'

'မင်းမြတ်၊ ရန်သူမင်းတို့ စစ်ချီလာခါမှ သင်မင်းမြတ်သည် ဆင်စီးအတတ်၊ မြင်းစီးအတတ်၊ ရထားစီးအတတ်၊ လေးအတတ်၊ ဓား၊ လှံအတတ်တို့ကို သင်စေပါသလော'

'အရှင်ဘုရား၊ ထိုသို့မဟုတ်ပါ။ ရန်သူစစ်တပ်များ မလာမီက စစ်အတတ်ပညာ အားလုံးကို သင်ကြားရန် စေခိုင်းထားရပါ၏'

'မင်းမြတ်၊ အဘယ်အကျိုးငှာ သင်ကြားရန် စေခိုင်းထားရပါသနည်း'

'အရှင်ဘုရား၊ မရောက်လာသေးသော ဘေးရန်တို့ကို ကာကွယ်ရန် အကျိုးငှာ စေခိုင်းထား ရပေ၏'

'မင်းမြတ်၊ မရောက်လာသေးသော ဘေးရန်သည် ထင်ရှား ရှိပါ၏လော'

'အရှင်ဘုရား၊ ထင်ရှားမရှိပေ'

'မင်းမြတ်၊ သင်မင်းမြတ်တို့သည် ထင်ရှားမရှိသော၊ မရောက်လာသေးသော ဘေးရန်ကို ကာကွယ်ရန် စီရင်ကြကုန်ဘိ၏။ သင်မင်းမြတ်တို့သည် အလွန်တရာ ပညာရှိကြပေစွတကား'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[အလွန်တရာ ပညာရှိကြပေစွတကားဟု အပြန်အလှန် ပြောဆိုကြခြင်းမှာ အထေ့အငေါ့ ပြောဆိုခြင်းဖြစ်၏။ရေမဆာမီက ရေတွင်း၊ ရေကန်ကို ကြိုတင်၍ တူးရပုံ၊ မဆာလောင်သေးမီက ကြိုကြိုတင်တင် စပါးစိုက်ရပုံတို့ကိုလည်း ဥပမာ ပြုပါသေး၏။ ဤအကြောင်းအရာမျိုးကို နိဗ္ဗာနဝဂ်၊ အမှတ် ၅ ပုစ္ဆာ၌လည်း အမေးအဖြေ ပြုထားပေပြီ။]

## ၄။ ဗြဟ္မာပြည်သည် ဘယ်လောက်ဝေးသနည်း

'အရှင် နာဂသေနဘုရား၊ ဗြဟ္မာ့ပြည်သည် ဤလူ့ပြည်မှ အဘယ်မျှ ဝေးကွာပါသနည်း'

'မင်းမြတ်၊ ဗြဟ္မာ့ပြည်သည် ဤလူ့ပြည်မှ အလွန်တရာ ဝေးကွာလှ၏။ အိမ်လုံးလောက် ရှိသော ကျောက်တုံးကြီးသည် တစ်ရက်တာတွင် ယူဇနာပေါင်း ရှစ်သောင်းလေးထောင်မျှ ကျဆင်းလာခဲ့သော် ထိုကျောက်တုံးကြီးသည် လေးလကြာမှ လူ့ပြည်သို့ ရောက်ပေရာ၏'

'မင်းမြတ်၊ အားကောင်းမောင်းသန် ယောကျ်ားတစ်ယောက်သည် လက်မောင်းကို ဆန့်လိုက် ကွေးလိုက်သည့် တစ်ခဏမှာပင် အဘိညာဉ်တန်ခိုးရှိသော ရဟန်းသည် ဇမ္ဗူဒိပ်ကျွန်း၌

ကွယ်ပျောက်၍ ဗြဟ္မာ့ပြည်သို့ ရောက်နိုင်၏ဟူ၍ ရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုစကားကို တပည့်တော် မယုံနိုင်ပါ။ ထိုမျှလောက် ယူဇနာ မြောက်မြားစွာ ဝေးကွာသည့်တိုင်အောင် ဤသို့ အလွန်လျင်စွာ သွားနိုင်ပါမည်လော'

'မင်းမြတ်၊ သင်မင်းမြတ်၏ မွေးဖွားရာ အရပ်ကား အဘယ်အရပ်ပေနည်း'

'အရှင်ဘုရား၊ အလသန္ဒ မည်သော ကျွန်း၌ တပည့်တော် မွေးဖွားခဲ့ပေ၏'

'မင်းမြတ်၊ အလသန္ဒကျွန်းသည် ဤသာဂလမြို့မှ မည်မျှဝေးကွာပါသနည်း'

'အရှင်ဘုရား၊ ယူဇနာ နှစ်ရာတိုင်တိုင် ဝေးကွာပါ၏'

'မင်းမြတ်၊ သင်မင်းမြတ်သည် ထိုအလသန္ဒကျွန်း၌ တစ်စုံတစ်ရာပြုလုပ်ခဲ့သည်ကို အမှတ်ရပါ၏လော'

'အရှင်ဘုရား၊ အမှတ်ရပါ၏'

'မင်းမြတ်၊ သင်မင်းမြတ်သည် ယူဇနာ နှစ်ရာတိုင်တိုင် ဝေးကွာသော အရပ်သို့ လျင်မြန်စွာ သွားနိုင်ပေသည်တကား'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ ခရီးကွာလှမ်းသော အရပ်သို့ စိတ်ဖြင့် ချက်ချင်းလက်ငင်းလှမ်း၍ အောက်မေ့နိုင်သကဲ့သို့ပင် ဗြဟ္မာ့ပြည်သို့ သွားသော ကိစ္စမှာလည်း အဘိညာဉ်စိတ်၏ တန်ခိုးသတ္တိသာ ဖြစ်ပေသည်။ ခရီးအကွာအဝေးဟူသည် ရုပ်တရား၏ အခြေအနေသာဖြစ်၏။ ထိုအခြေအနေသည် စိတ်တန်ခိုးကို မတားဆီးနိုင်ပေ။]

## ၅။ အဘယ်သူက ပို၍ လျင်မြန်သနည်း

'အရှင်ဘုရား၊ ဤလူ့ပြည်၌ သေဆုံး၍ ဗြဟ္မာ့ပြည်မှာ ဖြစ်လာသော သူနှင့် ဤလူ့ပြည်၌ သေဆုံး၍ ကသ္မီရတိုင်း၌ ဖြစ်လာသော သူတို့တွင် အဘယ်သူက ကြာမြင့်ပါသနည်း'

'မင်းမြတ်၊ ထိုသူတို့ နှစ်ယောက်သည် မရှေးမနှောင်းပင် ဖြစ်ကြပေကုန်၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ သင်မင်းမြတ်သည် အဘယ်အရပ်၌ ဖွားမြင်ခဲ့ပါသနည်း'

'အရှင်ဘုရား၊ ကလသိမည်သော ရွာ၌ ဖွားမြင်ခဲ့ပါ၏'

'မင်းမြတ်၊ ကလသိရွာသည် ဤသာဂလမြို့တော်မှ မည်မျှ ဝေးကွာပါသနည်း'

'အရှင်ဘုရား၊ ယူဇနာ နှစ်ရာတိုင် ဝေးကွာပေ၏'

'မင်းမြတ်၊ ကသ္မီရတိုင်းသည် ဤသာဂလမြို့တော်မှ မည်မျှ ကွာဝေးပါသနည်း'

'အရှင်ဘုရား၊ တစ်ဆယ့်နှစ်ယူဇနာ ကွာဝေးပေ၏'

'မင်းမြတ်၊ ကလသိရွာကို အောက်မေ့လိုက်စမ်းပါလော့'

'အရှင်ဘုရား၊ အောက်မေ့ပြီးပါပြီ'

'မင်းမြတ်၊ ကဿီရတိုင်းကို အောက်မေ့လိုက်စမ်းပါလော့'

'အရှင်ဘုရား၊ အောက်မေ့ပြီးပါပြီ'

'မင်းမြတ်၊ အဘယ်အရပ်ကို အချိန်ကြာကြာ အောက်မေ့ရပါသနည်း။ အဘယ်အရပ်ကို လျင်မြန်စွာ အောက်မေ့ရပါသနည်း'

'အရှင်ဘုရား၊ အရပ် နှစ်ခုလုံးကို မရှေးမနှောင်းပင် အောက်မေ့ရပါ၏'

'မင်းမြတ်၊ ဤအတူသာပင် ထိုနှစ်ယောက်တို့သည် မရှေးမနှောင်းပင် ဖြစ်ကြပေကုန်၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကျမ်းရင်း၌ မြင့်မြင့် ပျံသွားသော ငှက်နှင့် နိမ့်နိမ့်ပျံသွားသော ငှက်တို့၏ အရိပ်များ မြေပြင်၌ တစ်ပြိုင်နက် ထင်ပုံကိုလည်း ဥပမာ ပြုပါသေး၏။]

## ၆။ အဘယ့်ကြောင့် ဗောဇ္ဈင်ခုနစ်ပါး ဟောထားရသနည်း

'အရှင် နာဂသေနဘုရား၊ ဗောဇ္ဈင်တရား အဘယ်မျှ ရှိပါကုန်သနည်း'

'မင်းမြတ်၊ ခုနစ်ပါး ရှိကုန်၏'

'အရှင်ဘုရား၊ တရားသဘောကို အဘယ်မျှသော ဗောဇ္ဈင်ဖြင့် သိနိုင်ပါသနည်း'

'မင်းမြတ်၊ ဓမ္မဝိစယသမ္ဗောဇ္ဈင် တစ်ပါးတည်းဖြင့် သိနိုင်ပေ၏'

'အရှင်ဘုရား၊ ဗောဇ္ဈင်တစ်ခုတည်းဖြင့် သိနိုင်ပါလျက် အဘယ့်ကြောင့် ဗောဇ္ဈင်တရား ခုနစ်ပါး ဟောထားရပါသနည်း'

'မင်းမြတ်၊ သန်လျက်အိမ်၌ ထည့်ထားသော သန်လျက်သည် လက်၏ အကူအညီမပါဘဲ အရာဝတ္ထု တစ်ခုခုကို ဖြတ်တောက်နိုင်ပါမည်လော'

'အရှင်ဘုရား၊ မဖြတ်တောက်နိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ကျန်သော ဗောဇ္ဈင်ခြောက်ပါးတို့နှင့် ကင်း၍ ဓမ္မဝိစယသမ္ဗောဇ္ဈင် တစ်ပါးတည်းဖြင့် တရားသဘောကို မသိနိုင်ပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၇။ ကုသိုလ်အားနှင့် အကုသိုလ်အား ဘယ်သင်းက များပါသနည်း

'အရှင် နာဂသေနဘုရား၊ ကုသိုလ်အားနှင့် အကုသိုလ်အားတို့တွင် သယ်သင်းက ပို၍ များပြားပါသနည်း'

'မင်းမြတ်၊ ကုသိုလ်အားသည် များပြား၍ အကုသိုလ်အားသည် နည်းပါး၏'

'အရှင်ဘုရား၊ အဘယ်အကြောင်းကြောင့်ပါနည်း'

'မင်းမြတ်၊ အကုသိုလ်မှု ပြုမိသောသူသည် မိမိပြုခဲ့သည်ကို ပြန်လည် တွေးတောကာ ဝမ်းမြောက်ဝမ်းသာ ဖြစ်မလာပေ။ ထို့ကြောင့် အကုသိုလ်အားသည် မတိုးပွားပေ။ ကုသိုလ်ကောင်းမှု ပြုရသော သူသည်ကား စိတ်ပူပန်မှုမရှိဘဲ ပကတိ အေးမြနေ၏။ စိတ်ကြည်လင်ရွှင်ပျနေ၏။ စိတ်ကြည်လင် ရွှင်ပျသူသည် ဝမ်းမြောက်ရ၏။ ဝမ်းမြောက်သူသည် နှစ်သိမ့်ရ၏။ နှစ်သိမ့်သူ၏ ကိုယ်သည် ငြိမ်းချမ်း၏။ ကိုယ်ငြိမ်းချမ်းသူသည် ချမ်းသာ၏။ ချမ်းသာသူ၏ စိတ်သည် တည်ငြိမ်၏။ စိတ်တည်ငြိမ်သူသည် ဟုတ်မှန်သော သဘောတရားကို သိမြင်၏။ ထိုအကြောင်းကြောင့် ကုသိုလ်ကောင်းမှုသည် တိုးပွား၏။ မင်းမြတ်၊ ခြေရောလက်ပါ ပြတ်နေသော ယောကျ်ားတစ်ယောက်သည် မြတ်စွာဘုရားအား ကြာလက်ကြာခိုင်တစ်ခုကို ပေးလှူရကာမျှဖြင့် ကိုးဆယ့်တစ်ကမ္ဘာ အပါယ်မလားရချေ။ ဤအကြောင်းကြောင့်လည်း ကုသိုလ်အားသည် များပြား၏။ အကုသိုလ်အားသည် နည်းပါး၏ဟု ငါဆိုခဲ့ပါ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၈။ မကောင်းမှုကို သိလျက် ပြုသူနှင့် မသိ၍ ပြုသူတို့တွင် မည်သူက အပြစ်ကြီးသနည်း

'အရှင် နာဂသေနဘုရား၊ မကောင်းမှုကို သိလျက် ပြုသူနှင့် မသိ၍ပြုသူတို့တွင် အဘယ်သူ၏ အကုသိုလ်ကက ပို၍ အားကောင်းပါသနည်း'

'မင်းမြတ်၊ မသိ၍ ပြုသောသူ၏အကုသိုလ်ကက ပို၍ အားကောင်းပေ၏'

'အရှင်ဘုရား၊ ထိုသို့ဖြစ်ပါလျှင် မသိ၍ အကုသိုလ်ပြုသော မင်းသားကိုဖြစ်စေ၊ အမတ်ကို ဖြစ်စေ အပြစ်ဒဏ်နှစ်ဆ ပေးရပါမည်လော'

'မင်းမြတ်၊ ဤမေးခွန်းကို သင်မင်းမြတ် မည်သို့ မှတ်ယူပါသနည်း။ လောလော ပူနေသော သံတွေခဲကို သိလျက်ကိုင်သူနှင့် မသိ၍ ကိုင်သူတွင် မည်သူသည် ပို၍ အပူလောင် ခံရပါမည်နည်း။'

'အရှင်ဘုရား၊ မသိ၍ကိုင်မိသူက ပို၍ အပူလောင် ခံရပါလိမ့်မည်'

'မင်းမြတ်၊ ဤအတူသာပင် မသိ၍ပြုသောသူ၏ အကုသိုလ်ကက ပို၍ အပြစ်ကြီးပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၉။ မြောက်ကျွန်းသို့ ကိုယ်တိုင်သွားနိုင်သလော

'အရှင် နာဂသေနဘုရား၊ မြောက်ကျွန်းသို့ ဖြစ်စေ၊ ဗြဟ္မာ့ပြည်သို့ ဖြစ်စေ၊ အခြားကျွန်းသို့ ဖြစ်စေ ဤကိုယ်ဖြင့် သွားနိုင်ပါမည်လော'

'မင်းမြတ်၊ သွားနိုင်သူ ရှိပေ၏'

'အရှင်ဘုရား၊ မဟာဘုတ်လေးပါးဖြင့် ဖွဲ့စည်းထားသော ဤကိုယ်ဖြင့် အဘယ်ကို သွားနိုင်ပါသနည်း'

'မင်းမြတ်၊ အသင်မင်းမြတ်သည် ဤမြေပြင်၌ မည်မျှလောက် မြင့်အောင် ခုန်ဖူးပါသနည်း'

'အရှင်ဘုရား၊ ရှစ်တောင်မျှမြင့်အောင် ခုန်ခဲ့ဖူးပါ၏'

'မင်းမြတ်၊ ရှစ်တောင်မျှ မြင့်အောင် အဘယ်သို့ ခုန်ခဲ့ပါသနည်း'

'အရှင်ဘုရား၊ တပည့်တော်သည် ဤအမြင့်ထိ ရောက်စေအံ့ဟူ၍ စိတ်အားတင်းလိုက်ပါ၏။ စိတ်အားတင်းလိုက်သည်နှင့် တစ်ပြိုင်နက် တပည့်တော်၏ ကိုယ်သည် ပေါ့ပါးလာကာ ရှစ်တောင်မြင့်အောင် ခုန်နိုင်ပါ၏'

'မင်းမြတ်၊ ဤအတူသာပင် အဘိညာဉ် စိတ်တန်ခိုးနှင့် ပြည့်စုံပြီးသော ရဟန်းသည် ကိုယ်ကို စိတ်နှင့် တစ်ပါတည်းဆောင်ယူကာ အဘိညာဉ်စိတ်တန်ခိုးဖြင့် ကောင်းကင်သို့ သွားနိုင်ပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၀။ အရိုးမည်မျှ ရှည်သနည်း

'အရှင်ဘုရား၊ အရိုးတို့သည် ယူဇနာ တစ်ရာတိုင်အောင် ရှည်ကုန်၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ သစ်ပင်တို့သည်ပင် ထိုမျှလောက် မရှည်နိုင်ပါ။ သတ္တဝါတို့၏ အရိုးသည် အဘယ်မှာ ယူဇနာ တစ်ရာ ရှည်နိုင်ပါမည်နည်း'

'မင်းမြတ်၊ မဟာသမုဒ္ဒရာ၌ ယူဇနာ ငါးရာ ရှိကြကုန်သော (တိမိရပိင်္ဂလ စသော) ငါးကြီးများ ရှိကြကုန်၏ဟု သင်မင်းမြတ် ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏'

'မင်းမြတ်၊ ယူဇနာ ငါးရာရှည်သော ငါးတို့၏ အရိုးတို့သည် ယူဇနာ တစ်ရာ မရှည်သင့်ပါသလော'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၁။ ထွက်သက် ဝင်သက်ကို ချုပ်စေနိုင်သလော

'အရှင် နာဂသေနဘုရား၊ ထွက်သက် ဝင်သက်တို့ကို ချုပ်စေနိုင်ပါသလော'

'မင်းမြတ်၊ မှန်လှပေ၏'

'အရှင်ဘုရား၊ ထွက်သက် ဝင်သက်ကို အဘယ်သို့ ချုပ်စေနိုင်ပါသနည်း'

'မင်းမြတ်၊ တစ်စုံတစ်ယောက် ပက်လက်အိပ်လျက် ဟောက်နေသော အသံသည် ကိုယ်ကို ကွေးညွတ်လိုက်သော် ပျောက်သွားပါသလော'

'အရှင်ဘုရား၊ ပျောက်သွားပေ၏'

'မင်းမြတ်၊ ကမ္ဗဋ္ဌာန်း ဘာဝနာ မပွားများသောသူ၏ ထိုအသံသည်ပင် ကိုယ်ကို ကွေးညွတ်

လိုက်ကာမျှဖြင့် ပျောက်ရသေး၏။ ကမ္မဋ္ဌာန်းဘာဝနာ ပွားများပြီး၍ စတုတ္ထဈာန် ဝင်စားနေသော သူ၏ ထွက်သက် ဝင်သက်တို့သည် အဘယ်မှာ မချုပ်ငြိမ်းဘဲ ရှိပါမည်နည်း'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၂။ သမုဒ္ဒရာဟု အဘယ့်ကြောင့်ခေါ်သနည်း

'အရှင်နာဂသေနဘုရား၊ အဘယ့်ကြောင့် သမုဒ္ဒရာဟု ခေါ်ရပါသနည်း'

'မင်းမြတ်၊ ရေရှိသလောက် ငန်သောကြောင့် အငန်ဓာတ်နှင့် ရေတို့ အညီအမျှ ရှိနေသောကြောင့် သမုဒ္ဒရာဟု ခေါ်ရပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၃။ သမုဒ္ဒရာရေသည် အဘယ့်ကြောင့် ငန်ရသနည်း

'အရှင် နာဂသေနဘုရား၊ သမုဒ္ဒရာရေသည် အဘယ့်ကြောင့် အငန်အရသာ တစ်ခုတည်း ရှိနေရပါသနည်း'

'မင်းမြတ်၊ ထိုရေသည် ကြာမြင့်စွာ တည်နေရသောကြောင့် အငန်အရသာ တစ်ခုတည်း ရှိပေ၏'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

## ၁၄။ သိမ်မွေ့သောအရာအားလုံးကို ဖြတ်နိုင်သလော

'အရှင် နာဂသေနဘုရား၊ သိမ်မွေ့သော အရာအားလုံးကို ဖြတ်တောက်နိုင်ပါသလော'

'မင်းမြတ်၊ ဖြတ်တောက်နိုင်ပေ၏'

'အရှင်ဘုရား၊ သိမ်မွေ့သော အရာဟူသည် အဘယ်ပါနည်း'

'မင်းမြတ်၊ တရားသည်သာလျှင် အရာအားလုံးတို့ထက် သိမ်မွေ့သော အရာဖြစ်၏။ သို့ရာတွင် တရားအားလုံးကုန် သိမ်မွေ့သည်ကား မဟုတ်ကုန်။ ကုသိုလ်တရားသည်သာလျှင် သိမ်မွေ့၍ အကုသိုလ်တရားသည်ကား ရုန့်ရင်းကြမ်းတမ်း၏။ အလွန်တရာ သိမ်မွေ့လှသော ကုသိုလ်တရားကိုပင် အရဟတ္တမဂ်ပညာဖြင့် ဖြတ်တောက်နိုင်ပေ၏။ ပညာမှတစ်ပါး ဖြတ်တောက်နိုင်သော အခြားအကြောင်း မရှိပေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ကုသိုလ်ကံဟူသည် ပုထုဇဉ် သေက္ခပုဂ္ဂိုလ်များမှာ ရှိနိုင်၏။ အရဟတ္တမဂ်ကို ရပြီးနောက် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်သွားသောအခါ ထိုကုသိုလ်ကံတို့သည် ဘဝသစ်၌ အကျိုးပေးခွင့် မရှိတော့၍ ပြုရုံကာမျှ ဖြစ်ကြရ၏။ ထို့ကြောင့် ထိုကောင်းမှုတို့ကို ကုသိုလ်ဟု မခေါ်ရတော့ဘဲ ကိရိယာဟုသာ

ခေါ်ရတော့၏။ ထို့ကြောင့် အရဟတ္တမဂ် ပညာဖြင့် ကသိုလ်ကို ဖြတ်တောက်သည် ဟု ပြောကြားခြင်းဖြစ်၏။ ထိုအရဟတ္တမဂ်ပညာသည် ရန့်ရင်းကြမ်းတမ်းသော အကုသိုလ်တို့ကိုလည်း ဖြတ်သည်သာ၊ သို့ရာတွင် မေးခွန်းထဲ၌ မပါခဲ့သဖြင့် မပြောကြားခြင်း ဖြစ်ပေ၏။]

## ၁၅။ ဇီဝဟူ၍ ရှိသလော

'အရှင် နာဂသေနဘုရား၊ ဝိညာဉ်၊ ပညာနှင့် ဇီဝတို့သည် အနက်၊ သဒ္ဒါ နှစ်ဌာနလုံးဖြင့် ထူးခြားကြပါသလော။ သို့မဟုတ် သဒ္ဒါသာ ထူးခြား၍ အနက်ကား တူညီကြပါသလော'

'မင်းမြတ်၊ ဝိညာဉ်သည် အာရုံကို သိခြင်းလက္ခဏာရှိ၏။ ပညာသည် ခွဲခြမ်းစိတ်ဖြာ၍ သိခြင်းလက္ခဏာရှိ၏။ ဇီဝဟူ၍ကား မရှိပေ'

'အရှင်ဘုရား၊ ဇီဝဟူ၍ မရှိလတ်သော အဘယ်သူသည် စက္ခုဒွါရဖြင့် ရူပါရုံကို မြင်ပါသနည်း။ အဘယ်သူသည် သောတဒွါရဖြင့် သဒ္ဒါရုံကို ကြားပါသနည်း။ အဘယ်သူသည် ဃာနဒွါရဖြင့် ဂန္ဓာရုံကို နံပါသနည်း။ အဘယ်သူသည် ဇိဝှာဒွါရဖြင့် ရသာရုံကို စားပါသနည်း။ အဘယ်သည် ကာယဒွါရဖြင့် ဖောဋ္ဌဗ္ဗာရုံကို ထိတွေ့ပါသနည်း။ အဘယ်သူသည် မနောဒွါရဖြင့် ဓမ္မာရုံကို သိပါသနည်း'

'မင်းမြတ်၊ ဇီဝသည် ထိုဒွါရခြောက်ပါးတို့ကို ဖွင့်ထုတ် ဖယ်ရှားလိုက်ပြီးလျှင် ဟင်းလင်းပြင်သို့ မျက်နှာမူလျက် အာရုံခြောက်ပါးတို့ကို မိမိအလိုအလျောက် သိမြင်ခံစားနိုင်ပါမည်လော"

"အရှင်ဘုရား၊ မခံစားနိုင်ပေ'

'မင်းမြတ်၊ သို့ဖြစ်လျှင် ဇီဝဟူ၍ မရှိချေ'

'အရှင်ဘုရား၊ သင့်လျော်လှပါပေ၏'

[ ဇီဝဟူသည် အတ္တနှင့် သဘောတူဖြစ်၍ အရှင်နာဂသေနက မရှိကြောင်း ထပ်လောင်း၍ ပြောကြားရ၏။ မဟာဝဂ် အမှတ် ၄ ပုစ္ဆာ၊ ဝိစာရဝဂ် အမှတ် ၆ ပုစ္ဆာ၊ ဗုဒ္ဓဝဂ် အမှတ်၆ ပုစ္ဆာတို့၌လည်း ဤပုစ္ဆာမျိုး မေးခဲ့၊ ဖြေခဲ့ကြဖူးပေ၏။]

## ၁၆။ နာမ်တရားတို့ကို ပိုင်းခြားပြနိုင်သလော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင် ခဲယဉ်းစွာ ပြုလုပ်ခဲ့သော အရာဌာန ရှိပါသလော'

'မင်းမြတ်၊ ရှိပေ၏'

'အရှင်ဘုရား၊ အဘယ်အရာဌာနပါနည်း'

"မင်းမြတ်၊ ဘုရားရှင်သည် အာရုံတစ်ခုတည်းကို အာရုံပြု၍ တစ်ပြိုင်နက် ဖြစ်လာကြကုန်သော နာမ်တရားတို့ကို ဤကား ဖဿတည်း၊ ဤကား ဝေဒနာတည်း၊ ဤကား၊ သညာတည်း။ ဤကား စေတနာတည်း။ ဤကား စိတ်တည်းဟူ၍ ပိုင်းခြားဝေဖန်၍ ဟောတော်

မှုခြင်း ပေတည်း’

‘အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး’

“မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် မဟာသမုဒ္ဒရာသို့ လှေစီး၍ လိုက်ပါသွားကာ ရေလက်တစ်ခုပ်စာကို ခပ်ယူပြီးလျှင် ဤကား ဂင်္ဂါမြစ်ရေတည်း။ ဤကား ယမုနာမြစ်ရေတည်း။ ဤကား အစိရဝတီမြစ်ရေတည်း။ ဤကား မဟီမြစ်ရေတည်း။ ဤကား သရဘူမြစ်ရေတည်း ဟူ၍ ပိုင်းခြား ဝေဖန်၍ သိနိုင်ပါမည်လော’

‘အရှင်ဘုရား၊ သိနိုင်ရန် ခဲယဥ်းလှပေ၏’

‘မင်းမြတ်၊ အာရုံတစ်ခုတည်းကို အာရုံပြု၍ တစ်ပြိုင်နက် ဖြစ်ပေါ်လာကြကုန်သော နာမ်တရားတို့ကို ပိုင်းခြားဝေဖန်၍ ပြရခြင်းသည် ဤရေကို ပိုင်းခြားဝေဖန်၍ သိရသည်ထက် အလွန်တရာ ခဲယဥ်းလှပေ၏’

‘အရှင်ဘုရား၊ သင့်လျော်လှပါပေ၏’

## အမေးအဖြေပွဲ တစ်ခန်းရပ်

အထက်ပါ ပုစ္ဆာများကို ဖြေကြားပြီးနောက် အရှင်နာဂသေနက–

‘မင်းမြတ်၊ ယခု ဘယ်အချိန်ရောက်နေပြီနည်း’ ဟု မေးမြန်း၏။

မိလိန္ဒမင်းက ‘အရှင်ဘုရား၊ ယခု ညဥ့်ဦးယံ လွန်မြောက်၍ သန်းခေါင်ယံ ရောက်နေပါပြီ။ မင်းတို့သာလျှင် သုံးဆောင်ရသော လှူဖွယ်ဝတ္ထုများ ဘဏ္ဍာတိုက်မှ မကြာမီ ရောက်လာပါလိမ့်မည် ဘုရား’

ဤသို့ လျှောက်ထား၍ လှူဖွယ်ဝတ္ထု ပြင်ဆင်စေရန် ယောနက အမတ်များနှင့်တကွ အပြင်သို့ ခေတ္တ ထွက်ခွာလာ၏။ ဤတွင် ယောနက အမတ်များက–

‘အရှင်မင်းကြီး၊ အရှင်နာဂသေနသည် အမေးပုစ္ဆာကို ဖြေနိုင်ပါ၏လော။ ပညာရှိပါ၏လော’ ဟု မေးလျှောက်ကြ၏။

‘အချင်းတို့၊ အရှင်နာဂသေနသည် အမေးပုစ္ဆာကို ဖြေနိုင်ပါပေ၏။ ပညာရှိပါပေ၏’

ဤသို့ ယောနကအမတ်များအား ပြန်ကြားပြီးလျှင် မိလိန္ဒမင်းသည် အရှင်နာဂသေနထံ ပြန်လည် ချဥ်းကပ်လာကာ အဖိုးတစ်သိန်း ထိုက်တန်သော ကမ္ဗလာကို လှူဒါန်းလျက်–

‘အရှင်နာဂသေနဘုရား၊ ယနေ့မှစ၍ အရှင်ဘုရားအား တစ်ရာ့ရှစ်အုပ်သော ဆွမ်းအုပ်တို့ကို လှူဒါန်းပါ၏။ နန်းတော်အတွင်းမှ အရှင်ဘုရားတို့အား အပ်စပ်သော ဝတ္ထုပစ္စည်းများကိုလည်း အလှူခံတော်မူပါဘုရား’ ဟု လျှောက်ထားလေရာ–

‘မင်းမြတ်၊ တော်သင့်ပေပြီ။ ရရှိမြဲပစ္စည်းလေးပါးတို့ဖြင့်ပင် စားဝတ်နေမှုလုံလောက်နေပါပြီ’

'အရှင်ဘုရား၊ အရှင်ဘုရားတို့အား ရတတ်သမျှဖြင့် လုံလောက်ပြီး ဖြစ်သည်ကို တပည့်တော် သိပါ၏။ သို့သော်လည်း အရှင်ဘုရားသည် မိမိကိုယ်ကိုလည်း စောင့်ရှောက်တော်မူပါ။ တပည့်တော်ကိုလည်း စောင့်ရှောက်တော်မူပါဘုရား'

'မင်းမြတ်၊ အဘယ်သို့ စောင့်ရှောက်ရပါမည်နည်း'

'အရှင်ဘုရား၊ အရှင်ဘုရားကသာ ဤလှူဖွယ်ဝတ္ထုများကို အလှူခံတော် မမူပါလျှင် အရှင်နာဂသေနသည် မိလိန္ဒမင်းအား ကြည်ညိုစေရန်ကား စွမ်းဆောင်နိုင်ပါ၏။ လှူဖွယ်ဝတ္ထု တစ်စုံတစ်ခုကိုကား မရချေတကားဟု သူတစ်ပါးတို့ စွပ်စွဲရန် အကြောင်းရှိပါသည်။ ထို့ပြင် မိလိန္ဒမင်းသည် အရှင်နာဂသေနအား စိတ်ဖြင့် ကြည်ညိုသည်ကား ဟုတ်ပါ၏။ ကြည်ညိုပုံကို လက်တွေ့အားဖြင့်ကား မပြချေတကားဟုလည်း စွပ်စွဲရန် အကြောင်းရှိပါသည်။ သို့ဖြစ်၍ လှူဖွယ်ဝတ္ထုများကို အလှူခံခြင်းဖြင့် နှစ်ဦးသားတို့အား စောင့်ရှောက်တော်မူပါဘုရား'

'မင်းမြတ်၊ သင်မင်းမြတ်၏ အလိုအတိုင်း ဖြစ်ပါစေလော့'

ဤသို့ အရှင်နာဂသေနက ခွင့်ပြုလိုက်သဖြင့် မိလိန္ဒမင်းသည် အဖိုးတစ်သိန်းထိုက်တန်သော ကမ္ဗလာကို အရှင်နာဂသေန၏ လက်တော်ရောက် ဆက်ကပ်ပြီးလျှင်–

'အရှင်ဘုရား၊ သားအပေါင်းတို့၏ ဘုရင်ဖြစ်သော ခြင်္သေ့မင်းသည် ရွှောင်ချိုင်ထဲမှာ အသွင်းခံထားရပါသော်လည်း အပြင်သို့သာ မျက်နှာမူ၍ နေပါ၏။ထို့အတူပင် တပည့်တော် သည်လည်း အိမ်ရာတည်ထောင် လူတို့ဘောင်၌ နေပါသော်လည်း ရဟန်းဘောင်သို့ မျက်နှာမူ လျက်သာ နေရပါ၏။ သို့ရာတွင် တပည့်တော်မှာ ရန်သူများလှပါသောကြောင့် ရဟန်းပြုလျှင် အသက်ရှည်မည် မဟုတ်ပါဘုရား' ဟု လျှောက်ထား၏။

ထို့နောက် အရှင်နာဂသေနသည် ကျောင်းသို့ ပြန်ကြွ၏။ နောက်တစ်နေ့ နံနက်တွင် အရှင်နာဂသေနသည် သင်္ကန်းကို တင့်တယ်သပ်ရပ်စွာ ဝတ်ရုံကာ သပိတ်ကိုပိုက်လျက် မိလိန္ဒမင်း၏ နန်းတော်သို့ ကြွလာ၏။ မိလိန္ဒမင်းကလည်း ကြည်ညိုမြတ်နိုးစွာ ခရီးဦးကြိုဆို၍ ခင်းထားပြီးသော နေရာသို့ ပင့်ဆောင်၍ ရိုသေစွာ ရှိခိုးဦးချပြီးလျှင်–

'အရှင်ဘုရား၊ တစ်ညဥ့်တာ၏ ကြွင်းကျန်သော အချိန်ကာလတွင် တပည့်တော်သည် အရှင်ဘုရားအား ပြဿနာများ မေးလိုက်ရသဖြင့် ဝမ်းမြောက်ဝမ်းသာ ဖြစ်နေလိမ့်မည်ဟူ၍ အရှင်ဘုရား မမှတ်ယူတော်မူပါလင့်။ တပည့်တော်ကလည်း ပြဿနာများကို ကောင်းမွန်စွာ မေးလျှောက်နိုင်၍ အရှင်ဘုရားကလည်း မေးလျှောက်လေသမျှ ပြဿနာများကို ကောင်းမွန်စွာ ဖြေကြားပါ၏ ဟူ၍သာ တွေးတောမိပါသည် ဘုရား' ဟု လျှောက်၏။

အရှင်နာဂသေနကလည်း–

'မင်းမြတ်၊ တစ်ညဥ့်တာ၏ ကြွင်းကျန်သော အချိန်ကာလတွင် ငါသည် သင်မင်းမြတ်

မေးလျှောက်လိုက်သော ပြဿနာများကို တစ်ခုမကျန် ဖြေကြားနိုင်သဖြင့် ဝမ်းမြောက်ဝမ်းသာ ဖြစ်နေလိမ့်မည်ဟု သင်မင်းမြတ် မမှတ်ယူပါလင့်။ မိလိန္ဒမင်းကလည်း ပြဿနာများကို ကောင်းမွန်စွာ မေးလျှောက်နိုင်၍ မေးလျှောက်လေသမျှ ပြဿနာများကို ငါကလည်း ကောင်းမွန်စွာ ဖြေကြားရပေဟူ၍သာ တွေးတောမိပေ၏'

ထိုသို့လျှင် ပညာရှိ ယောကျ်ားမြတ် နှစ်ဦးတို့သည် တစ်ဦး၏ စကားကို တစ်ဦးက ထပ်တူထပ်မျှ ဝမ်းသာအားရ ဖြစ်ကြပေကုန်၏။

[မိလိန္ဒပဉှာ ကျမ်းရင်း၌ ဤအခန်းအဆုံးတွင် (မိလိန္ဒပဉှာပုစ္ဆာ ဝိသဇ္ဇနာ ပြီး၏) ဟူ၍ နိဂုံးချုပ်စကား ထည့်သွင်းထားပေ၏။]



## အခန်း ၃

# မေတ္တာကမ္ဘာ အချိုး

အနာဂတ်ကာလတွင် ဗုဒ္ဓဝါဒီမဟုတ်သော ပရဝါဒီတို့သည် ဗုဒ္ဓဝါဒ ပြဿနာများကို အကြောင်းပြု၍ ရှုပ်ရှုပ်ထွေးထွေး ပြုလုပ်လာခဲ့သော် ဖြေရှင်း ဟန့်တားနိုင်ရန် ပညာမျက်စိ အလိုရှိပါသည်။

## မိလိန္ဒမင်း၏ အတွေးအမြင်

မိလိန္ဒမင်းသည် ညဥ့်အချိန်၌ ဆိတ်ငြိမ်ရာသို့ ချဉ်းကပ်ပြီးလျှင် အင်္ဂါကိုးပါး ရှိသော ဘုရားဟော ဒေသနာတော်များကို ကြိမ်ဖန်များစွာ ဝေဖန် သုံးသပ်ကြည့်လေရာ သာမန်လူတို့ ဖြေရှင်းရန် ခဲယဉ်းကုန်သော၊ ပြေလည်အောင် မဖြေရှင်းနိုင်လျှင် တစ်ဖက်သားတို့ စွပ်စွဲနှိပ်စက်ခြင်း ခံရဖွယ် ရှိနေကြကုန်သော အနက်အဓိပ္ပာယ်အမှန်ကို ဆိတ်ချိုးပမာ ကွေ့ကောက်စွာ ကောက်ယူရကုန်သော ပြဿနာများကို တွေ့မြင်ရ၏။

တရားမင်း ဖြစ်တော်မူသော ဘုရားရှင်၏ ပရိယတ္တိ သာသနာတော်၌ ပရိယာယ်အားဖြင့် ဟောတော်မူထားသော ဒေသနာတော်များလည်း ရှိကုန်၏။ ရည်ညွှန်း၍ ဟောတော်မူထားသော ဒေသနာတော်များလည်း ရှိကုန်၏။ အမြွက်မျှဖြင့် ဟောကြားထားသော ဒေသနာတော်များလည်း ရှိကုန်၏။

အနက် အဓိပ္ပာယ်မှန်ကို ဆိတ်ချိုးပမာ ကွေ့ကောက်စွာ ကောက်ယူရကုန်သော ထိုဒေသနာတော်တို့၌ ဒေသနာတော်တို့၏ ဆိုလိုရင်း အနက်အဓိပ္ပာယ်မှန်ကို မသိနိုင်ကြသောကြောင့် အနာဂတ်ကာလတွင် အငြင်းအခုံ ဖြစ်လာပေလတ္တံ့။

ယခုအခါကပင် ငါသည် အရှင်နာဂသေန လက်ခံလောက်အောင် မေးမြန်း လျှောက်ထား၍ အနက်အဓိပ္ပာယ်ကို ဆိတ်ချိုးပမာ ကွေ့ကောက်စွာ ကောက်ယူရကုန်သော ထိုဒေသနာတော်တို့ကို ခွဲခြမ်းစိတ်ဖြာ၍ ရှင်းလင်းပေအံ့။ အရှင် နာဂသေန ရှင်းလင်း ပြေဆိုခဲ့သော စကားတို့သည် အနာဂတ်အခါ၌ လမ်းမှန်ကို ညွှန်ပြပေကုန်လတ္တံ့။

## မိလိန္ဒမင်း၏ ကျင့်ဝတ်ရှစ်ပါး

ဤသို့ တွေးတော ဆင်ခြင်ပြီးလျှင် မိလိန္ဒမင်းသည် ထိုညဥ့်ကုန်ဆုံး၍ အရုဏ်တက်လတ်သော် ဦးခေါင်းလျှော်ကာ ဦးထိပ်ထက်၌ လက်အုပ်ချီလျက် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ဘုရားရှင်တို့ကို ကြည်ညိုအောက်မေ့၏။ ထို့နောက် ဝတ်မြဲတိုင်း အဝတ်ပုဆိုးနှင့် ဘယက်တန်ဆာ ဒွါဒရာ တို့ကို ချွတ်ပယ်ပြီးလျှင် ဖန်ရည်ဆိုးသော အဝတ်များကို ဝတ်ဆင်၏။ ဦးခေါင်းထက်၌ ခေါင်းတုံးနှင့် တူစေရန် ဦးစွပ်ကို စွပ်ထားကာ ရဟန်း၏ အသွင်ကို ယူပြီးလျှင် ရှစ်ပါးသော ကျင့်ဝတ်တို့ကို ဆောက်တည် ကျင့်သုံး၏။ ထိုကျင့်ဝတ် ရှစ်ပါးတို့ကား–

၁။ မင်းနှင့်စပ်သော အမှုကိစ္စများကို မဆောင်ရွက်ခြင်း၊

၂။ ရာဂနှင့်စပ်သောစိတ်ကို မဖြစ်ပေါ်စေခြင်း၊

၃။ ဒေါသနှင့်စပ်သောစိတ်ကို မဖြစ်ပေါ်စေခြင်း၊

၄။ မောဟနှင့်စပ်သောစိတ်ကို မဖြစ်ပေါ်စေခြင်း၊

၅။ ကျေးကျွန်၊ အလုပ်သမားတို့နှင့် ဆက်ဆံရာ၌ပင် မိမိကိုယ်ကို နှိမ်ချခြင်း၊

၆။ ကိုယ်နှုတ်ကို အစဉ်စောင့်စည်းခြင်း၊

၇။ စက္ခုစသော အာယတန ခြောက်ပါးတို့ကို လုံခြုံစွာ စောင့်စည်းခြင်း၊

၈။ မေတ္တာဘာဝနာပွားများခြင်းတို့ ဖြစ်ကြကုန်၏။

## မတိုင်ပင်အပ်သော အရပ်ရှစ်မျိုး

မိလိန္ဒမင်းသည် ဤ ကျင့်ဝတ်ရှစ်ပါးတို့ကို ခုနစ်ရက်တိုင်တိုင် ကျင့်သုံး၍ ရှစ်ရက်မြောက်သော နေ့၌ နံနက်ပွဲတော်စာကို စောစီးစွာ စားသောက်၏။ စားသောက်ခြင်း ကိစ္စများ ပြီးစီးသွားသောအခါ မျက်လွှာကိုချလျက်၊ ကိုယ်အမူအရာ တည်ငြိမ်စွာထားလျက်၊ ရွှင်လန်းတက်ကြွသော စိတ်နှလုံးဖြင့် အရှင်နာဂသေနထံသို့ ချဉ်းကပ်၍ အရှင်နာဂသေန၏ ခြေအစုံ၌ ဦးခိုက်ရှိခိုးပြီးလျှင်–

'အရှင်နာဂသေနဘုရား၊ အရှင်ဘုရားနှင့် ဆွေးနွေးရန်ကိစ္စ ရှိနေပါ၏။ ထိုသို့ ဆွေးနွေးရာ၌ အရှင်ဘုရားနှင့် တပည့်တော်မှတစ်ပါး အခြားသူ တစ်ယောက်မျှ မပါစေလိုပါ။ လူသူကင်းဆိတ်သော တောအရပ်၌ မေးလျှောက်လိုပါ၏' ဟု လျှောက်ထား၏။

အရှင်နာဂသေနကလည်း မိလိန္ဒမင်း၏ လျှောက်ထားချက်ကို လက်ခံကာ လူသူလေးပါးကင်းဆိတ်သော တောအရပ်သို့ လိုက်ပါလာခဲ့၏။ တောထဲသို့ ရောက်သောအခါ မိလိန္ဒမင်းက–

'အရှင်ဘုရား၊ ဤလောက၌ ဆွေးနွေး တိုင်ပင်လိုသော ယောကျ်ားသည် အရပ်ရှစ်မျိုးတို့ကို ရှောင်ရှားသင့်ပါ၏။ ထိုအရပ်ရှစ်မျိုးတို့ကား–

၁။ မညီညွတ်သောအရပ်၊

၂။ ဘေးအန္တရာယ်ရှိသောအရပ်၊

၃။ လေအလွန်ထန်သော အရပ်၊

၄။ နံရံစသည် အကာအကွယ်ရှိနေသောအရပ်၊

၅။ နတ်စင် နတ်ကွန်း၊

၆။ ခရီးလမ်းမ၊

၇။ စစ်မြေပြင်၊

၈။ ရေဆိပ်တို့ ဖြစ်ကြကုန်၏'

'မင်းမြတ်၊ ထိုအရပ်ရှစ်မျိုးတို့၌ မည်သို့သော အပြစ်ရှိပါသနည်း'

'အရှင်ဘုရား၊ မညီညွတ်သော အရပ်၌ ဆွေးနွေး တိုင်ပင်သော် ဆွေးနွေး တိုင်ပင်အပ်သော အမှုကိစ္စ၌ စိတ်မတည်ငြိမ်နိုင်ပါ။ ဘေးအန္တရာယ်ရှိရာ အရပ်၌ တိုင်ပင်လျှင် စိတ်တုန်လှုပ်ရပါ၏။ လေအလွန်ထန်သော အရပ်တွင်ကား ဆွေးနွေး တိုင်ပင်သော စကားကို ပီပီသသ

ကြားနိုင်ရန် မလွယ်ကူပါ။ နံရံသည် အကာအကွယ်ရှိသော အရပ်၌ တိုင်ပင်ဆွေးနွေးလျှင် သူတစ်ပါးတို့ ချောင်းမြောင်း၍ နားထောင်တတ်ကုန်၏။ နတ်စင်နတ်ကွန်းတို့၌ ဆွေးနွေးတိုင်ပင်လျှင် ရလိုသော အကျိုးကျေးဇူးကို ကြာမြင့်မှ ရတတ်၏။ ခရီးလမ်းမ၌ တိုင်ပင် ဆွေးနွေးလျှင် အချည်းနှီး ဖြစ်ရ၏။ စစ်မြေပြင်၌ တိုင်ပင်ဆွေးနွေးသော် စိတ်လှုပ်ရှားရ၏။ ရေဆိပ်၌ ဆွေးနွေးသော် ပေါက်ကြားလွယ်၏'

## တိုင်ပင်ခြင်းကို ဖျက်ဆီးတတ်သော ပုဂ္ဂိုလ်ရှစ်ယောက်

ဤသို့ လျှောက်ထားပြီးလျှင် မိလိန္ဒမင်းသည် ဆက်လက်၍ လျှောက်ထား၏။

'အရှင်နာဂသေနဘုရား၊ ရှစ်ယောက်သော ပုဂ္ဂိုလ်တို့နှင့် ဆွေးနွေးတိုင်ပင်မိသော် ထိုပုဂ္ဂိုလ်တို့သည် ဆွေးနွေးတိုင်ပင်အပ်သော အကျိုးတရားကို ပျက်ပြားစေတတ်ကုန်၏။ ထိုပုဂ္ဂိုလ်ရှစ်ယောက်တို့ကား–

၁။ ရာဂစရိုက်ရှိသူ၊

၂။ ဒေါသစရိုက်ရှိသူ၊

၃။ မောဟစရိုက်ရှိသူ၊

၄။ မာနစရိုက်ရှိသူ၊

၅။ လာဘ်လိုချင်လွန်းသူ၊

၆။ ပျင်းရိသူ၊

၇။ အကြံတစ်ခုတည်းသာ တစ်ထစ်ချကြံစည်သူ၊

၈။ ငယ်ရွယ်မိုက်မဲသူတို့ ဖြစ်ကြပါ၏'

'မင်းမြတ်၊ ထိုပုဂ္ဂိုလ်ရှစ်ယောက်တို့နှင့် တိုင်ပင်လျှင် အဘယ်အပြစ်များ ရှိပါသနည်း'

'အရှင်ဘုရား၊ ထိုသူတို့မှာ ရှိနေကြသော စိတ်နေစိတ်ထား စရိုက်များကြောင့် ဆွေးနွေးတိုင်ပင်အပ်သော အကျိုးတရား ပျက်ပြားရပါ၏'

## လျှို့ဝှက်တိုင်ပင်ခြင်းကို ဖျက်ဆီးတတ်သော ပုဂ္ဂိုလ်ကိုးယောက်

မိလိန္ဒမင်းက ဆက်လက်၍ လျှောက်ထား၏။

'အရှင်နာဂသေနဘုရား၊ ကိုးယောက်သော ပုဂ္ဂိုလ်တို့သည် လျှို့ဝှက်စွာ တိုင်ပင်အပ်သော အမှုကိစ္စကို ဖော်ထုတ်တတ်ပါကုန်၏။ မိမိစိတ်ထဲမှာပင် သိုသိပ်၍ မထားနိုင်ကြကုန်။ ထိုပုဂ္ဂိုလ်ကိုးယောက်တို့ကား–

၁။ ရာဂစရိုက်ရှိသူ၊

၂။ ဒေါသစရိုက်ရှိသူ၊

၃။ မောဟစရိုက်ရှိသူ၊

၄။ ကြောက်ရွံ့တတ်သူ၊

၅။ လာဘ်ရရေး အလေးထားသူ၊

၆။ မိန်းမ၊

၇။ သေသောက်ကြူး၊

၈။ နပုန်းပဏ္ဍုက်၊

၉။ ကလေးသူငယ်တို့ ဖြစ်ကြပါ၏'

'မင်းမြတ်၊ ထိုပုဂ္ဂိုလ်ကိုးယောက်တို့နှင့် တိုင်ပင်လျှင် အဘယ်အပြစ် ရှိပါသနည်း'

'အရှင်ဘုရား၊ ရာဂစရိုက်ရှိသူ စသော ပုဂ္ဂိုလ်ငါးယောက်တို့သည် သူတို့မှာ ရှိနေကြသော စိတ်နေစိတ်ထား၊ စရိုက်များကြောင့် လည်းကောင်း၊ မိန်းမသည် ပညာ နည်းပါးသောကြောင့် လည်းကောင်း၊ သေသောက်ကြူးသည် သေရည်သောက်စားကာ လျှပ်ပေါ်လော်လည် သောကြောင့် လည်းကောင်း၊ ပဏ္ဍုက်သည့် စိတ်သဘောထား မတည့်မတ်သောကြောင့် လည်းကောင်း၊ ကလေးသူငယ်သည် စိတ်ထားနုနယ် ပြောင်းလဲလွယ်သောကြောင့် လည်းကောင်း လျှို့ဝှက်စွာ တိုင်ပင်အပ်သော အမှုကိစ္စကို ထုတ်ဖော်တတ်ကုန်၏။ မိမိစိတ်ထဲမှာ သိုသိပ်၍ မထားနိုင်ကြကုန်'

## ပညာကြီးရင့်ခြင်း၏ အကြောင်းရှစ်ပါး

မိလိန္ဒမင်းက ဆက်လက်၍ လျှောက်ထား၏။

'အရှင်နာဂသေနဘုရား၊ ရှစ်ပါးသော အကြောင်းတို့ကြောင့် ပညာသည် ကြီးရင့်လာပါ၏။ ထိုအကြောင်း ရှစ်ပါးတို့ကား–

၁။ အရွယ်ကြီးရင့်ခြင်း၊

၂။ အခြံအရံ၊ အကျော်အစောများခြင်း၊

၃။ အဖန်ဖန် မေးမြန်းခြင်း၊

၄။ ဆရာသမားထံ အမြဲချဉ်းကပ်ခြင်း၊

၅။ အသင့်အတင့် နှလုံးသွင်းခြင်း၊

၆။ တိုင်ပင်ဆွေးနွေးခြင်း၊

၇။ ချစ်ခင်သူနှင့် ပေါင်းဖော်ရခြင်း၊

၈။ သင့်လျော်သော အရပ်၌ နေထိုင်ရခြင်းတို့ ဖြစ်ကြပါ၏။

## ဆရာ၏ ဝတ္တရားနှစ်ဆယ့်ငါးပါး

မိလိန္ဒမင်းကြီးက ဆက်လက်၍ လျှောက်ထား၏။

'အရှင်နာဂသေနဘုရား၊ ကောင်းစွာကျင့်သော တပည့်အပေါ်၌ ဆရာသည် နှစ်ဆယ့်ငါးပါးသော ဝတ္တရားတို့ဖြင့် ဖြောင့်မှန်စွာ ကျင့်သုံး ဆောင်ရွက်သင့်ပေ၏။ ထိုဝတ္တရားနှစ်ဆယ့်ငါးပါးတို့ကား-

၁။ တပည့်အပေါ် အမြဲတစေ စောင့်ရှောက်ခြင်း၊

၂။ ဆည်းကပ်သင့်သော ပုဂ္ဂိုလ်နှင့် မဆည်းကပ်သင့်သော ပုဂ္ဂိုလ်ကို သိရှိခြင်း၊

၃။ တပည့် ပေါ့ပေါ့တန်တန် နေမနေ သိရှိခြင်း၊

၄။ တပည့်အတွက် နေစရာ ထိုင်စရာကို သိရှိခြင်း၊

၅။ တပည့်မကျန်းမာလျှင် သိရှိခြင်း၊

၆။ တပည့် ဆွမ်းဘောဇဉ် ရမရကို သိရှိခြင်း၊

၇။ တပည့်၏ ထူးခြားတိုးတက်မှု ရှိမရှိ သိရှိခြင်း၊

၈။ မိမိ သပိတ်ထဲမှ ရရှိလာသော ဆွမ်းဘောဇဉ်ကို တပည့်အား ဝေဖန် မျှတပေးခြင်း၊

၉။ တပည့်အား အားပေးအားမြှောက် ပြုခြင်း။

၁၀။ တပည့်၏ အပေါင်းအသင်းကို သိရှိခြင်း၊

၁၁။ တပည့်၏ ရွာထဲက အပေါင်းအသင်းကို သိရှိခြင်း၊

၁၂။ တပည့်၏ ကျောင်းမှ အပေါင်းအသင်းကို သိရှိခြင်း၊

၁၃။ တပည့်နှင့်အတူ ရယ်စွင် မြူးထူးမှု မပြုခြင်း၊

၁၄။ တပည့်နှင့်အတူ စကားပြောဆိုခြင်း၊

၁၅။ တပည့်က အနည်းငယ် ချွတ်ချော် တိမ်းပါးသည်ကို သည်းခံခြင်း၊

၁၆။ ဆရာတပည့် ဆက်ဆံရေးကို အလေးထားခြင်း၊

၁၇။ လျှို့ဝှက်မှု မပြုလုပ်ခြင်း၊

၁၈။ အတတ်ပညာကို မခြွင်းမချန် သင်ကြားပေးခြင်း၊

၁၉။ တပည့်အပေါ် အဖစိတ်ထား၍ ပညတ်ပေးခြင်း၊

၂၀။ တပည့်၏ ကြီးပွားရေးကို တွေးတော စဉ်းစားခြင်း၊

၂၁။ တပည့်၏ ပညာအင်အား တိုးပွားရေးကို တွေးတော စဉ်းစားခြင်း၊

၂၂။ တပည့်အပေါ် မေတ္တာထားခြင်း၊

၂၃။ တပည့်မှာ ဘေးရန်သင့်လာသော် မစွန့်ပစ်ခြင်း၊

၂၄။ ပြုဖွယ်ကိစ္စကို မေ့လျော့ခြင်း၊

၂၅။ တပည့်က ဖောက်လွဲဖောက်ပြန် ဖြစ်လာသော် တရားသဖြင့် ဟောကြား ဆုံးမခြင်းတို့ ဖြစ်ကြပေ၏။

'အရှင်ဘုရား၊ ဆရာတို့၏ ဤဝတ္တရား နှစ်ဆယ့်ငါးပါးတို့ဖြင့် အရှင်ဘုရားသည် တပည့်တော်၏ အပေါ်၌ ကောင်းမွန်စွာ ကျင့်သုံးဆောင်ရွက်တော်မူပါလော။

"အရှင်ဘုရား၊ တပည့်တော်မှာ ယုံမှားသက်ာ ဖြစ်နေပါ၏။ အနက်အဓိပ္ပာယ်မှန်ကို ဆိတ်ချိုပမာ ကောက်ကွေ့စွာ ကောက်ယူရကုန်သော ဘုရားဟော ဒေသနာတော်များ ရှိနေကြပါ၏။ ထိုဒေသနာတော်များနှင့် ပတ်သက်၍ နောင်အခါများ၌ သူမှန်ငါမှန် ငြင်းခုံမှုကြီး ဖြစ်ပေါ်လာပါလိမ့်မည်။ နောက်နောင်အခါများ၌ အရှင်ဘုရားနှင့် တူမျှသော ပညာရှိကို ရရန် ခဲယဉ်းပါလိမ့်မည်။ ထိုဒေသနာတော်များကို ကိုင်စွဲ၍ သူတစ်ပါးတို့ စွပ်စွဲခြင်းကို နှိမ်နင်း ဖယ်ရှားနိုင်ခြင်းငှာ ထိုပြဿနာတို့၌ တပည့်တော်အား မေးမြန်းခွင့် ပြုတော်မူပါလော။ ပညာမျက်စိ ပေးတော်မူပါလော့'

## ဥပါသကာ၏ ဝတ္တရားဆယ်ပါး

ဤသို့ မိလိန္ဒမင်းက လျှောက်ထားသောအခါ အရှင်နာဂသေနက–

'မင်းမြတ်၊ ကောင်းပြီ။ မေးလိုရာ မေးပါလော့' ဟု ခွင့်ပြုပြီးလျှင်–

'မင်းမြတ်၊ ဥပါသကာတို့ လိုက်နာ ကျင့်သုံးသင့်သော ဝတ္တရား ဆယ်ပါးတို့ ရှိကြကုန်၏။ ထိုဆယ်ပါးတို့ကား–

၁။ သံဃာနှင့် အေးအတူ ပူအမျှ ဖြစ်ခြင်း၊

၂။ တရားတော်ကိုသာလျှင် အလေးထားခြင်း၊

၃။ ပစ္စည်းအင်အားနှင့် လျော်ညီစွာ ပေးကမ်းလှူဒါန်းခြင်း၊

၄။ သာသနာတော်ကြီး တိုးတက်စည်ပင်စေရန် လုံ့လစိုက်ခြင်း၊

၅။ ကောင်းသော အယူဝါဒရှိ၍ သာသနာတော်မှ ပြင်ပ ပုဂ္ဂိုလ်ကို ကိုးကွယ် ဆည်းကပ်မှု မပြုခြင်း၊

၆။ ကိုယ်နှုတ်အမူအရာ စောင့်စည်းခြင်း၊

၇။ သင့်တင့်ညီညွတ်ရေးကို ဆောင်ရွက်ခြင်း၊

၈။ ဝန်တိုစိတ် မရှိခြင်း၊

၉။ ကောက်ကျစ်စဉ်းလဲမှု မရှိခြင်း၊

၁၀။ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခြင်းတို့ ဖြစ်ကြပေ၏။

'မင်းမြတ်၊ ဥပါသကာတို့၏ ဆယ်ပါးသော ဤဝတ္တရားတို့သည် သင်မင်းမြတ်၌ ရှိကြပေ၏။ သင်မင်းမြတ်သည် သာသနာတော်ကြီး ဆုတ်ယုတ်မည့်အရေးကို မြော်မြင်၍ ကြီးပွားရေးကို အလိုရှိ၏။ ဤသို့ အလိုရှိခြင်းသည် သင့်မြတ်လှပါပေ၏။ သင်မင်းမြတ်အား မေးလျှောက်ခွင့်ပြုပါ၏။ အလိုရှိတိုင်း ငါ့ကို မေးလျှောက်ပါလော့'

ဤသို့ ရှင်နာဂသေနက ခွင့်ပေးတော် **မူလိုက်**လေ၏။

❀ ❀ ❀



# အခန်း ၄

# မေတ္တာကမ္ဘာ

မေတ္တာစိတ်၊ မေတ္တာဓာတ် အားကောင်းသူအား ဘေးရန်အန္တရာယ် အပေါင်းတို့ မကျရောက် မဖျက်ဆီးနိုင်ခြင်းမှာ ထိုသူ၏ အစွမ်းသတ္တိကြောင့် မဟုတ်၊ မေတ္တာ၏ အစွမ်းသတ္တိကြောင့် ဖြစ်၏။ လုံခြုံသော အဆောက်အအုံ တွင်း၌ နေသူအား သည်းထန်စွာ ရွာသွန်းသော မိုးရေတို့ မစွတ်စိုခြင်း မှာ အဆောက်အအုံကြောင့် ဖြစ်သကဲ့သို့တည်း။




## ၁။ ပရိနိဗ္ဗာန်ပြုပြီးသော ဘုရားရှင်အား ပူဇော်၍ အကျိုးရှိသလော

'အရှင်နာဂသေနဘုရား၊ တိတ္ထိတို့သည် ဤသို့ ပြောဆိုကြပါကုန်၏။ ဘုရားရှင်သည် ပူဇော်သက္ကာရကို အကယ်၍ သာယာငြားအံ့၊ ဘုရားရှင်သည် ပရိနိဗ္ဗာန်ပြုပြီးသူ မဟုတ်နိုင်ပေ။ လောကနှင့် ဆက်စပ်နေသေး၏။ ထို့ကြောင့် ဘုရားရှင်အား ပူဇော်ခြင်းသည် အကျိုးရှိ၏။ အကယ်၍ ပရိနိဗ္ဗာန် ပြုခဲ့ငြားအံ့၊ လောကသုံးပါးနှင့် မဆက်စပ်တော့သဖြင့် ထိုဘုရားရှင်အား ပူဇော်၍ မဖြစ်နိုင်တော့ပေ။ ပရိနိဗ္ဗာန် စံဝင်ပြီး၍ တစ်စုံတစ်ခုသော ပူဇော်သက္ကာရကိုမျှ မသာယာတော့သော ဘုရားရှင်အား ပူဇော်ခြင်းသည် အကျိုးမရှိချေ။

'ဤသို့လျှင် တိတ္ထိတို့က ဆိုကြပါကုန်၏။ ဤပြဿနာကား ပဋိသမ္ဘိဒါဉာဏ်ရသော ပုဂ္ဂိုလ်မြတ်တို့၏ အရာသာ ဖြစ်ပါ၏။ မှားယွင်းသော အယူကွန်ရက်ကို ခွဲဖျက်တော်မူ၍ 'မှန်ကန်သော သဘောတစ်ခုတည်းကိုသာ ဖြေကြားတော်မူပါလော့။ နောက်နောင်အခါ သာသနာ့ တာဝန် ထမ်းဆောင်ကြရမည့် ဘုရားသားတော်များအတွက် အယူတစ်ပါး ကွာခြားသော ပုဂ္ဂိုလ် တို့ကို နှိမ်နင်းရန် ပညာမျက်စိ ပေးတော်မူပါလော့'

'မင်းမြတ်၊ ဘုရားရှင်သည် ပရိနိဗ္ဗာန် ပြုတော်မူပေပြီ။ ဘုရားရှင်သည် ဗောဓိပင်ရင်း၌ပင် လျှင် သာယာတပ်မက်မှုကို ပယ်စွန့်တော်မူခဲ့ပြီ။ သို့ဖြစ်၍ ရုပ်နာမ်ခန္ဓာ အကြွင်းအကျန် မရှိတော့သော အနုပါဒိသေသ နိဗ္ဗာနဓာတ်ဖြင့် ပရိနိဗ္ဗာန် စံဝင်လေပြီးသော ဘုရားရှင်သည် ပူဇော်သက္ကာရကို အဘယ်မှာလျှင် သာယာတော်မူပါတော့မည်နည်း'

'အရှင်ဘုရား၊ သားကလည်း ဖခင်၏ ဂုဏ်ကျေးဇူးကို ပြောဆိုတတ်ပါ၏။ ဖခင်ကလည်း သား၏ဂုဏ်ကျေးဇူးကို ပြောဆိုတတ်ပါ၏။ ယခု အရှင်ဘုရား မိန့်ကြားသော စကားသည် ဤကဲ့သို့ ဖြစ်မြဲဓမ္မတာအတိုင်းသာ ရှိနေပါသေး၏။ မိမိ၏ ယုံကြည်ချက်ကို ထုတ်ဖော်ရုံမျှသာ ရှိနေပါသေး၏။ အယူတစ်ပါး ကွာခြားသော ပုဂ္ဂိုလ်တို့အား နှိမ်နင်းရန် အကြောင်းအချက်များ မပါဝင်သေးပါ။ နှစ်ဖက်အစွန်းထွက်နေသော ဤပြဿနာ၌ မိမိ၏အယူ တည်တံ့ခိုင်မြဲစေရန်

လည်းကောင်း၊ အယူတစ်ပါး ကွာခြားသော ပုဂ္ဂိုလ်တို့၏ မိစ္ဆာကွန်ရက်ကို ခွဲဖျက်နိုင်စေရန် လည်းကောင်း တပည့်တော်အား နိုင်လုံသော အကြောင်းများပြ၍ မိန့်ကြားတော်မူပါ'

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ား တစ်ယောက်သည် စည်ကို တီးခတ်၍ သံမြည်စေရာ၏။ မြည်ဟိန်းပြီးနောက် ပျောက်ကွယ်သွားသော ထိုစည်သံသည် နောက်ထပ်တစ်ဖန် ထွက်ပေါ်လာမည့် အသံများကို သာယာပါသေးသလော'

'အရှင်ဘုရား၊ မသာယာတော့ပါ'

'မင်းမြတ်၊ သို့ဖြစ်လျှင် နောက်ထပ်တစ်ဖန် စည်သံ မထွက်နိုင်တော့ပြီလော'

'အရှင်ဘုရား၊ ထိုသို့ မဟုတ်ပါ။ စည်သည် စည်သံထွက်ပေါ်ခြင်း၏ အကြောင်းရင်း ဖြစ်ပါသည်။ သို့ဖြစ်၍ ထိုယောကျ်ားသည် စည်တီးရန် ကိစ္စတစ်ခုခု ပေါ်ပေါက်လာသောအခါ ထိုစည်ကို တီးခတ်၍ နောက်ထပ်တစ်ဖန် စည်သံထွက်ပေါ်စေနိုင်၏'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် သီလ၊ သမာဓိ၊ ပညာ၊ အရဟတ္တဖိုလ်၊ ပစ္စဝေက္ခဏာ ဉာဏ်တော်တို့ဖြင့် မွမ်းထုံအပ်သော ဓာတ်တော် ရတနာတို့ကိုလည်းကောင်း၊ သုတ်၊ ဝိနည်း၊ အဘိဓမ္မာ ဟူသော သာသနာတော်ကို လည်းကောင်း ကိုယ်တော်စား ထားတော်မူခဲ့၍ အနုပါဒိသေသ နိဗ္ဗာန်ဝင် စံတော်မူ၏။ ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူသွားသော်လည်း လူ နတ် နိဗ္ဗာန် သုံးတန်သော စည်းစိမ်ချမ်းသာ ရရှိခြင်းကား ပြတ်တောက် မသွားချေ။ စည်းစိမ်ချမ်းသာ ရလိုသူတို့သည် ဓာတ်တော် ရတနာကို ပူဇော်၍လည်းကောင်း၊ သုတ်၊ ဝိနည်း၊ အဘိဓမ္မာ သုံးဖြာသော သာသနာတော်တို့၏ အဆုံးအမကို လိုက်နာကျင့်သုံး၍ လည်းကောင်း လူ နတ် နိဗ္ဗာန် သုံးတန်သော ချမ်းသာကို ရရှိကြကုန်၏။ ထို့ကြောင့် ပရိနိဗ္ဗာန် ပြုတော်မူပြီးသော ဘုရားရှင်အား ပူဇော်ခြင်းသည် အကျိုးရှိသည်သာတည်း။

'မင်းမြတ်၊ နောက်နောင်အခါ၌ ဖြစ်ပေါ်လာမည့် အရေးအခင်းကို သင်မင်းမြတ် လျှောက်ထားသကဲ့သို့ပင် ဘုရားရှင်လည်း မြင်တော်မူခဲ့သည်သာဖြစ်၏။ ထို့ကြောင့် ပရိနိဗ္ဗာန် စံဝင်တော်မူခါနီးတုန်းက အာနန္ဒာ တရားတော်တို့သည် ဟောကြားခဲ့သော ဆရာသခင်ဘုရားရှင်နှင့် ကင်းကွာခဲ့ချေပြီ။ ငါတို့မှာ ဆရာမရှိတော့ပြီဟူ၍ သင်တို့ မထင်မှတ်ကြကုန်လင့်။ အာနန္ဒာ၊ ငါဘုရားဟောကြား၍ ထားရစ်ခဲ့သော သုတ်၊ ဝိနည်း အဘိဓမ္မာ သုံးဖြာသော သာသနာတော်သည် သင်တို့၏ ဆရာ ဖြစ်ပေလတ္တံ့.' ဟု ဟောကြားတော် မူခဲ့ပေ၏။

'မင်းမြတ်၊ အခြား အကြောင်းတစ်မျိုးကိုလည်း နာဦးလော့။ ဤမြေကြီးသည် ငါ့အပေါ်၌ မျိုးစေ့အားလုံးတို့မှ အပင်ပေါက်စေသတည်းဟု သာယာပါသလော'

'အရှင်ဘုရား၊ မသာယာပါ'

'မင်းမြတ်၊ သာယာခြင်း မရှိသော်ငြားလည်း မျိုးစေ့တို့သည် မြေကြီးပေါ်၌ အပင်ပေါက်လာကြကုန်၏။ သန်စွမ်းသော အမြစ်များဖြင့် ထွေးယှက်ကြကုန်၏။ ခိုင်ခံ့သော ပင်စည်အနှစ် တည်ရှိလာကြကုန်၏။ အခက်ကြီး အခက်ငယ်တို့ ကျယ်ပြန့် စည်ပင်လာကြကုန်၏။ အသီး အပွင့်တို့ ဝေဝေဆာဆာ ဖြစ်လာကြကုန်၏။ ဤသို့ ဖြစ်လာရသည်မှာ အဘယ့်ကြောင့်ပါနည်း'

'အရှင်ဘုရား၊ မြေကြီးသည် အပင်များပေါက်ရောက် လာစေရန် သာယာခြင်း မရှိပါသော်လည်း ပေါက်လာလေသမျှ အပင်များ၏ တည်ရာဌာန ဖြစ်နေပါ၏။ ထို့ကြောင့်ပင် ဤသို့ ဖြစ်ပေါ်လာရပေ၏။

'မင်းမြတ်၊ မြေကြီးကဲ့သို့ ဘုရားရှင်ကို မှတ်သားအပ်၏။ မြေကြီးသည် တစ်စုံတစ်ခုသော အပင်ကိုမျှ မသာယာသကဲ့သို့ ဘုရားရှင်သည် တစ်စုံတစ်ခုသော ပူဇော်သက္ကာရကိုမျှ မသာယာပေ။ မသာယာသော မြေကြီးပေါ်၌ အပင်မျိုးစုံတို့ ပေါက်ရောက် ရှင်သန်လာကြဘိသကဲ့သို့ သာယာခြင်း ကင်းစွာ ပရိနိဗ္ဗာန် ပြုတော်မူပြီးသော ဘုရားရှင်၏ ဓာတ်တော်ကို ပူဇော်၍လည်းကောင်း၊ သုံးဖြာသော သာသနာတော်၏ အဆုံးအမကို လိုက်နာကျင့်သုံး၍ လည်းကောင်း၊ ကုသိုလ်တရားတို့ တိုးပွားလာကြရကုန်၏။ ကုသိုလ်သည်ကား အမြစ်နှင့်တူ၏။ သမာဓိကား ပင်စည်အနှစ်နှင့်တူ၏။ သီလကား အကိုင်းခက်နှင့်တူ၏။ ဝိမုတ္တိကား အပွင့်နှင့်တူ၏။ မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့ကား အသီးနှင့် တူကုန်၏။ ဤအကြောင်းတို့ဖြင့် ပရိနိဗ္ဗာန် ပြုတော်မူပြီးသော ဘုရားရှင်အား ပူဇော်ရခြင်းသည် အကျိုးရှိပေ၏။

'မင်းမြတ်၊ နန္ဒက မည်သော ဘီလူးသည် အရှင်သာရိပုတ္တရာကို ပြစ်မှားမိသောကြောင့် မြေမျိုခံရကြောင်း ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏။ ဤအကြောင်းသည် လောက၌ ထင်ရှားပေ၏'

'မင်းမြတ်၊ အရှင်သာရိပုတ္တရာသည် နန္ဒကဘီလူး မြေမျိုခံရခြင်းကို သာယာပါသလော'

'အရှင်ဘုရား၊ ဗြဟ္မာ့ပြည်နှင့် တကွသော လောကကြီးတစ်ခုလုံး ထက်အောက် ပြောင်းပြန်လန်သော်လည်းကောင်း၊ လ နေ နှစ်ပါးတို့ မြေပြင်ပေါ်သို့ ကျလာသော်လည်းကောင်း၊ မြင်းမိုရ်တောင်ကြီး ဖရိုဖရဲ ကျဲပြန့်သွားသော် လည်းကောင်း အရှင်သာရိပုတ္တရာသည် သူတစ်ပါး ဆင်းရဲခြင်းကို မသာယာနိုင်ပါ။ အမျက်ထွက်ခြင်း၏ အကြောင်းရင်းကို အကြွင်းမဲ့ ပယ်နုတ်ပြီး ဖြစ်ပေ၏'

'မင်းမြတ်၊ အရှင်သာရိပုတ္တရာက မသာယာပါလျက် နန္ဒက ဘီလူးသည် အဘယ့်ကြောင့် မြေမျိုခံရပါသနည်း'

'အရှင်ဘုရား၊ အကုသိုလ်က အားကြီးလှသောကြောင့် မသာယာသော ပုဂ္ဂိုလ်အား ပြစ်မှားခြင်းသည် အပြစ်ဒဏ်ကို ရစေနိုင်၏။ ဤမှပြန်သောအားဖြင့် သာယာခြင်းကင်း၍ ပရိနိဗ္ဗာန်စံဝင်တော်မူပြီးသော ဘုရားရှင်အား ပူဇော်ခြင်းသည် အကျိုးရှိပေ၏'

'အရှင်ဘုရား၊ မှားယွင်းသော အယူတို့ ပျက်စီး သွားကြပါကုန်ပြီ။ မကောင်းသော အယူရှိသော တိတ္ထိတို့ အရောင်အဝါ ကင်းမဲ့သွားကြပါကုန်ပြီ'

[ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးတို့ကို အကြောင်းပြု၍ ကုသိုလ်ကောင်းမှု ပြုကြရာတွင် ရတနာသုံးပါး တို့က မိမိတို့၏ လှူဖွယ်ဝတ္ထုကို သာယာမှု၊ သို့မဟုတ် မိမိတို့ ကုသိုလ်ကောင်းမှုပြုပုံကို အသိအမှတ်ပြုပါမှသာ ကုသိုလ်ရသည် မဟုတ်ပေ။ ရတနာသုံးပါးတို့သည် ကုသိုလ်ကံတို့၏

တည်ရာ မိုရာမျှသာ ဖြစ်ကုန်၏။ ကုသိုလ်ကံ၏ အကျိုးပေးကောင်းစေရန် အထောက်အပံ့ ပေးရုံမျှသာ ဖြစ်ကြကုန်၏။ ရတနာသုံးပါးတို့က အသိအမှတ် ပြုသည်ဖြစ်စေ၊ မပြုသည်ဖြစ်စေ၊ ဉာဏ်ပညာ ဦးစီး၍ ပြုတတ်သည်နှင့်အမျှ ကောင်းကျိုး ရကြမည်သာ ဖြစ်ပေ၏။

ကျွမ်းရင်း၌ အလျှံပြောင်ပြောင် တောက်လောင်ပြီး၍ ငြိမ်းသွားသော မီးပုံကြီးက မြက်ထင်း လောင်စာတို့ကို မသာယာသော်လည်း နောက်တစ်ဖန် မီးလိုချင်သူရှိက ထင်းချောင်းချင်း ပွတ်တိုက် ကာ မီးမွေး၍ ရနိုင်ပုံကို လည်းကောင်း၊ ပြင်းထန်စွာ တိုက်ခတ်ပြီး ငြိမ်သက်သွားသော လေမုန်တိုင်း သည် နောက်တစ်ဖန် တိုက်ခတ်ရန် မသာယာသော်လည်း လေကို လိုချင်သူ ရှိပါက ယပ်တောင်ဖြင့် ခတ်၍ ရနိုင်ပုံကို လည်းကောင်း၊ ကုလားအုတ်၊ နွား၊ မြည်း၊ ဆိတ်၊ သမင်၊ လူစသည်တို့သည် မိမိတို့ ဝမ်းတွင်း၌ ပိုးအမျိုးမျိုးတို့ ပေါက်ပွားလာရန် မသာယာကြသော်လည်း အကုသိုလ်ကံကြောင့် ပိုးအမျိုးမျိုးတို့ ပေါက်ပွားလာကြရပုံကိုလည်းကောင်း၊ အပြစ်မှားခံကြရသော ဘုရားရှင်နှင့် ဘုရားတပည့် သားသမီးတို့က မြေမျိုခြင်းကို မသာယာ မတောင့်တကြသော်လည်း စိဉ္စမာဏဝိကာ၊ သုပ္ပဗုဒ္ဓ၊ ဒေဝဒတ်၊ နန္ဒကဘီလူးနှင့် နန္ဒလုလင်တို့မှာ မိမိတို့ ပြစ်မှားမိသော အကုသိုလ်ကံကြောင့် မြေမျိုခံ ရပုံကို လည်းကောင်း ဥပမာပြုသေး၏။]

## ၃။ ဘုရားရှင်သည် သဗ္ဗညု ဟုတ်ပါ၏လော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် တရားအလုံးစုံကို သိမြင်နိုင်သော သဗ္ဗညု ဟုတ်ပါ၏လော'

'မင်းမြတ်၊ ဟုတ်ပေ၏။ သို့ရာတွင် ဘုရားရှင်၏ ထိုသဗ္ဗညုတဉာဏ်တော်သည် အမြဲတစေ သိမြင်နေသည် မဟုတ်ချေ။ ဆင်ခြင်ခြင်းနှင့် ဆက်စပ်နေ၏။ ဆင်ခြင်တော် မူလိုက်လျှင် အလိုရှိတိုင်း သိတော်မူနိုင်ပေ၏။

'အရှင်ဘုရား၊ ဆင်ခြင်တော်မူကာမှသာ ဘုရားရှင်အား သဗ္ဗညုတဉာဏ်တော် ဖြစ်ပေါ်လာပါ လျှင် ဘုရားရှင်သည် သဗ္ဗညု မဟုတ်နိုင်တော့ပါ'

'မင်းမြတ်၊ သဗ္ဗညုတဉာဏ်တော်နှင့် ဆင်ခြင်တော်မူပုံတို့၏ လျင်မြန်ခြင်း သိသာ ထင်ရှားစေရန် စိတ်၏ လျင်မြန်ခြင်းကို ပြကုန်အံ့။ လက်ဖျစ်တစ်တွက် အချိန်ကလေး၌ ဖြစ်ပေါ် ချုပ်ပျောက်ကြကုန်သော စိတ်တို့သည် ၈၁၅၉ တင်း၊ ၁စိတ်၊ ၂ပြည်ရှိ စပါးပုံကြီးမှ စပါးစေ့နှင့်တို့ အရေအတွက် တူညီကြကုန်၏။ ထိုမျှလောက် လျင်မြန်သော စိတ်တစ်ခုချင်းကို ဘုရားရှင်၏ သဗ္ဗညုတဉာဏ်တော်ဖြင့်သာ သိနိုင်ပေ၏။

'မင်းမြတ်၊ ဘုရားရှင်၏ သဗ္ဗညုတ ဉာဏ်တော်သည်ကား စိတ်အဆင့် ခုနစ်ဆင့်တို့တွင် နောက်ဆုံးအဆင့်မှာ ရှိနေပေ၏။ ဉာဏ်ပညာအားလုံးတို့ထက် လျင်မြန်လှသော ဉာဏ်တော် ဖြစ်ပေ၏'

'မင်းမြတ်၊ ပထမဆုံးအဆင့်ကား ပုထုဇဉ်တို့၏ စိတ်ပေတည်း။ ဥပမာအားဖြင့် အခက်အလက်နှင့် အမြစ်များ ပွားစည်း ရှုပ်ထွေးနေသော ဝါးပင်ကို ဆွဲနုတ်သောအခါ လေးဖင့်

နေးကန်စွာသာလျှင် ဆွဲနုတ်ယူရ၏။ ဤအတူသာပင် ကိလေသာထုပြောရ၍ သီလ၊ သမာဓိ၊ ပညာကို မပွားများကြကုန်သော ပုထုဇဉ်တို့၏ စိတ်သည် လေးဖင့်နေးကန်လှကုန်၏။

'မင်းမြတ်၊ ဒုတိယအဆင့်ကား သောတာပန်ပုဂ္ဂိုလ်တို့၏ စိတ်ပေတည်း။ ဥပမာအားဖြင့် အောက်ပိုင်းရှိ အဆစ် သုံးဆစ်တို့၌ အဖုအထစ်များကို ပယ်ရှားသုတ်သင်ကာ အထက်ပိုင်းရှိ အခက်အလက်များ ရှုပ်ထွေးနေသေးသော ဝါးပင်ကိုဆွဲနုတ်ယူသောအခါ အောက်ပိုင်းရှိ အဆစ် သုံးဆစ်မှာ လွယ်လင့်တကူ ကျွတ်ပါလာသော်လည်း အထက်ပိုင်းအတွက်ကား လေးဖင့် နေးကန်လျက်သာ ရှိနေသေး၏။ ဤအတူပင် သောတာပန် ပုဂ္ဂိုလ်တို့သည် ခွေး ၊ နွားတို့ နေထိုင် စားသောက်သကဲ့သို့ နေထိုင် စားသောက်သော အကျင့်ဖြင့် သံသရာမှ လွတ်မြောက်နိုင်၏ဟု ယူစွဲသော သီလဗ္ဗတပရာမာသ၊ ခန္ဓာငါးပါးတို့ကို ငါဟူ၍ ယူစွဲသော သက္ကာယဒိဋ္ဌိ၊ ရတနာ သုံးပါးနှင့် တရားသဘောတို့၌ တွေးတော ယုံမှားသော ဝိစိကိစ္ဆာ၊ ဤသုံးပါးသော တရားတို့ကို သောတာပတ္တိ မဂ်ဉာဏ်ဖြင့် ပယ်ပြီး ဖြစ်ကုန်၏။ သို့ဖြစ်၍ သောတာပန် ပုဂ္ဂိုလ်တို့၏ စိတ်သည် ထိုကိလေသာတို့နှင့် ပတ်သက်၍ကား လေးဖင့်နေးကန်လျက်သာ ရှိပေ၏။

'မင်းမြတ်၊ တတိယအဆင့်ကား သကဒါဂါမ် ပုဂ္ဂိုလ်တို့၏ စိတ်ပေတည်း။ ဥပမာအား ဖြင့် အောက်ပိုင်းရှိ အဆစ်ငါးဆစ်တို့၌ အဖုအထစ်များ ပယ်ရှားသုတ်သင်ကာ အထက်ပိုင်း၌ အခက်အလက်များ ရှုပ်ထွေးနေသေးသော ဝါးပင်ကို ဆွဲနုတ်ယူသောအခါ အောက်ပိုင်းရှိ အဆစ်ငါးဆစ်သည် လွယ်လင့်တကူ ကျွတ်ပါလာသော်လည်း အထက်ပိုင်းအတွက်ကား လေးဖင့် နေးကန်လျက်သာ ရှိသေး၏။ ဤအတူပင် သကဒါဂါမ် ပုဂ္ဂိုလ်တို့သည် ဒိဋ္ဌိ၊ ဝိစိကိစ္ဆာတို့ကို ပယ်ပြီး ဖြစ်ကုန်၏။ ရာဂ၊ ဒေါသ၊ မောဟတို့ ခေါင်းပါးကုန်၏။ သို့ဖြစ်၍ သကဒါဂါမ် ပုဂ္ဂိုလ်တို့၏ စိတ်သည် ထိုငါးပါးသော အရာတို့၌ စင်ကြယ်လှကုန်၏။ အထက်မဂ်တို့နှင့် ပယ်သတ်ရန် ရှိနေသော ကိလေသာတို့နှင့် ပတ်သက်၍ကား လေးဖင့်နေးကန်လျက်သာ ရှိနေပေ၏။

'မင်းမြတ်၊ စတုတ္ထအဆင့်ကား အနာဂါမ်ပုဂ္ဂိုလ်တို့၏ စိတ်ပေတည်း။ ဥပမာအားဖြင့် အောက်ပိုင်းရှိ အဆစ်ဆယ်ဆစ်တို့၌ အဖုအထစ်များကို ပယ်ရှားသုတ်သင်ကာ အထက်ပိုင်း၌ကား အခက်အလက်များ ရှုပ်ထွေးနေသေးသော ဝါးပင်ကို ဆွဲနုတ်ယူသောအခါ အောက်ပိုင်းရှိ အဆစ်ဆယ်ဆစ်တို့ လွယ်လင့်တကူ ကျွတ်ပါလာသော်လည်း အထက်ပိုင်း အတွက်ကား လေးဖင့်နေးကန်လျက်သာ ရှိနေသေး၏။ ဤအတူသာပင် အနာဂါမ်ပုဂ္ဂိုလ်တို့သည် အောက်ပိုင်း သံယောဇဉ် ငါးပါးတို့ကို ပယ်ပြီးဖြစ်ကုန်၏။ သကဒါဂါမ် ပုဂ္ဂိုလ်အဆင့်တုန်းကပင် ငါးပါး သော တရားတို့ကို ပယ်ပြီး ဖြစ်ကုန်၏။ သို့ဖြစ်၍ အနာဂါမ် ပုဂ္ဂိုလ်တို့၏ စိတ်သည် ထိုဆယ်ပါးသော အရာတို့၌ စင်ကြယ်လှ၏။ အထက်မဂ်ဖြင့် ပယ်သတ်ရန်ရှိနေသော ကိလေသာ တို့နှင့် ပတ်သက်၍ကား လေးဖင့်နေးကန်လျက်သာ ရှိနေသေး၏။

'မင်းမြတ်၊ ပဥ္စမအဆင့်ကား ရဟန္တာပုဂ္ဂိုလ်တို့၏ စိတ်ပေတည်း။ ဥပမာအားဖြင့် အဆစ်အားလုံးတို့၌ အဖုအထစ်များ ပယ်ရှား သုတ်သင်ပြီးသော ဝါးပင်ကို ဆွဲနုတ်ယူသောအခါ ဝါးပင်တစ်ပင်လုံးသည် လွယ်လင့်တကူ ကျွတ်ပါလာ၏။ ဤအတူပင် ရဟန္တာပုဂ္ဂိုလ်တို့သည် ကိလေသာအားလုံး ပယ်စွန့်ပြီး ဖြစ်ကြကုန်၍ သာဝကတို့အရာ၌ လျင်မြန် ပေါ့ပါးကြကုန်၏။ ပစ္စေကဗုဒ္ဓါတို့၏ အရာ၌ကား ဖင့်နှေး လေးကန်လျက်သာ ရှိကြကုန်၏။

'မင်းမြတ်၊ ဆဋ္ဌမအဆင့်ကား ပစ္စေကဗုဒ္ဓါတို့၏ စိတ်ပေတည်း။ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် မိမိ၏အရာဖြစ်သော ချောင်းငယ် မြစ်ငယ်ကို အချိန်မရွေး ကူးဖြတ်နိုင်သော်လည်း မိမိအရာမဟုတ်သော မဟာသမုဒ္ဒရာကိုကား ကူးဖြတ်ရန် မဝံ့တော့ချေ။ ဤအတူပင် ပစ္စေကဗုဒ္ဓါတို့သည် ဆရာသမားထံ နည်းခံမနေရဘဲ သစ္စာလေးတန် တရားမှန်ကို မိမိအလိုလို သိကြ၏။ ကြံ့ချိုပမာ တစ်ပါးတည်း သီတင်းသုံးနေကြကုန်၏။ ကိလေသာအားလုံးမှ စင်ကြယ်ကြကုန်၏။ ထိုပစ္စေကဗုဒ္ဓါတို့၏ စိတ်သည် မိမိတို့အရာ၌ လျင်မြန်ပေါ့ပါးကြကုန်၏။ သဗ္ဗညု ဘုရားရှင်တို့၏ အရာ၌ကား ဖင့်နှေးလေးကန်လျက်သာ ရှိကြပေ၏။

'မင်းမြတ်၊ သတ္တမအဆင့်ကား သဗ္ဗညု ဘုရားရှင်တို့၏ စိတ်ပေတည်း။ ချောမွတ်ဖြောင့်တန်း၍ အသွားထက်လှစွာသော မြားကို လေးမှာတင်၍ ပစ်လွှတ်လိုက်သော် ထိုမြားသည် ခေါမအဝတ်ကိုဖြစ်စေ၊ ဝါချည်အဝတ်ကိုဖြစ်စေ၊ သိုးမွေးထည်ကိုဖြစ်စေ မငြိကပ်စေဘဲ ထုတ်ချင်းခတ် ဖောက်ထွက်သွား၏။ ဤအတူပင် သဗ္ဗညုဘုရားရှင်တို့သည် တရားအလုံးစုံကို သိတော်မူကြကုန်၏။ အားဆယ်ပါးကို ဆောင်တော်မူကြကုန်၏။ ဝေသာရဇ္ဇ ဉာဏ်တော်လေးပါးဖြင့် ရဲရင့်တော်မူကြကုန်၏။ ဘုရားရှင်တို့၏ ဂုဏ်ကျေးဇူး တစ်ဆယ့်ရှစ်ပါးနှင့် ပြည့်စုံတော်မူကြကုန်၏။ ရန်အားလုံးကို အောင်မြင်တော်မူကြကုန်၏။ သိလိုရာရာ တရားဟူသမျှကို အပိတ်အပင်မရှိ ထင်လင်းစွာ သိတော်မူနိုင်ကုန်၏။ ထိုသဗ္ဗညုဘုရားရှင် တို့၏ စိတ်သည် အရာအားလုံး၌ လျင်မြန် ပေါ့ပါးလှပေ၏။

'မင်းမြတ်၊ ထိုစိတ်ခုနစ်မျိုးတို့တွင် သဗ္ဗညုဘုရားရှင်တို့၏ စိတ်သည် ရှေ့စိတ်ခြောက်မျိုးတို့ထက် အဆပေါင်းအသင်္ချေ သာလွန်၍ စင်ကြယ်၏။ အဆပေါင်း အသင်္ချေ သာလွန်၍ လျင်မြန်ပေါ့ပါး၏။ ထို့ကြောင့်လည်း ဘုရားရှင်သည် ရေအစုံ မီးအစုံ တန်ခိုးပြာဋိဟာကို ပြတော်မူ၏။ ထိုတန်ခိုးပြာဋိဟာထက်ပင် စိတ်တော်က ပိုမို၍ လျင်မြန်သေး၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် လက်တစ်ဖက်မှာ တင်ထားသော ပစ္စည်းတစ်ခုကို အခြား လက်တစ်ဖက်သို့ ပြောင်း၍ တင်ရာ၏။ ဖွင့်ထားသော ပါးစပ်ဖြင့် စကားပြောရာ၏။ ခံတွင်းမှာ ထည့်ထားပြီးသော အစာကို ဝါးမျိုရာ၏။ ဖွင့်ထားသော မျက်စိကို မှိတ်ရာ၏။ မှိတ်ထားသော မျက်စိကိုဖွင့်ရာ၏။ ကွေးထားသော လက်မောင်းကို ဆန့်ရာ၏။ ဆန့်ထားသော လက်မောင်းကို ကွေးရာ၏။ ဤသို့ ပြုခြင်းသည်ပင်လျှင် ကြာမြင့် သေး၏။

ဘုရားရှင်၏ သဗ္ဗညုတ ဉာဏ်တော်သည် အလွန်လျင်မြန်၏။ ဆင်ခြင်ခြင်းသည် လည်း အလွန်လျင်မြန်၏။ ဆင်ခြင်တော်မူ၍သာလျှင် အလိုရှိတိုင်း သိတော်မူနိုင်ကြပေကုန်၏'

'အရှင်ဘုရား၊ ဆင်ခြင်ခြင်းသည်လည်း ရှာမှီးယူရသော သဘော ရှိနေပါ၏။ ထို့ကြောင့် ဆင်ခြင်ခြင်းသည်ပင်လျှင် ချို့တဲ့ချက်တစ်ခုကဲ့သို့ ဖြစ်နေရပါ၏။ ထိုသို့ ချို့တဲ့သော အချက် တစ်ခုရှိနေပါလျက် သဗ္ဗညုမည်နိုင်ပုံကို ခိုင်လုံသော အကြောင်းပြ၍ မိန့်ဟတော်မူစေချင်ပါ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် ပစ္စည်းဥစ္စာပေါများ၍ စားသောက်ကုန် ပစ္စည်းမျိုးစုံ စုပြုံ သိမ်းဆည်းထားပြီးသော ယောကျ်ားတစ်ယောက်သည် မိမိတို့ အိမ်သားများအတွက် ချက်ထား ပြီးသော အစားအစာတို့ကို မိသားစုနှင့်အတူ စားသောက်၍ ကုန်သွားရာ၏။ ထမင်းဟင်းများ ကုန်ပြီးနောက်မှ ထမင်းကျွေးထိုက်သော ဧည့်သည် ရောက်လာသဖြင့် အသင့်ရှိပြီး ဖြစ်သော စားသောက်ကုန်တို့ကို အလျင်အမြန် ချက်စေရာ၏။ ထိုအိမ်ရှင်ယောကျ်ားသည် ထမင်းချက် ပြီး မရှိခြင်းဟူသော ချို့တဲ့ချက်ကလေးဖြင့် သူဆင်းရဲ ဖြစ်ရတော့မည်လော'

'အရှင်ဘုရား၊ မဖြစ်နိုင်ပါ။ စကြဝတေးမင်းကြီး၏ နန်းတော်၌သော်လည်း အချိန်အခါ မဟုတ်လျှင် ထမင်းမရှိ ဖြစ်တတ်ပါသေး၏။ သူကြွယ်အိမ်မှာကား အဘယ်ချို့တဲ့ချက်မျှ မရှိဘဲ နေပါမည်နည်း'

'မင်းမြတ်၊ ဤအတူသာပင် ဆင်ခြင်မှုဟူသော ချို့တဲ့ချက်ကလေး ရှိနေပါသော်လည်း သဗ္ဗညုတဉာဏ်တော်သည် အလိုရှိတိုင်း သိတော်မူနိုင်ပေ၏'

'အရှင်ဘုရား၊ ဆင်ခြင်၍ ဆင်ခြင်၍ အလိုရှိတိုင်း သိနိုင်ပါသလော'

'မင်းမြတ်၊ အလိုရှိတိုင်း သိနိုင်ပေ၏။ ဥပမာအားဖြင့် စကြဝတေးမင်းသည် ငါ၏ စကြရတနာကပ်ရောက်စေသတည်းဟူ၍ အောက်မေ့လိုက်သည်နှင့် တစ်ပြိုင်နက် စကြရတနာ သည် ကပ်ရောက်လာ၏။ ဤအတူပင် ဘုရားရှင်သည် ဆင်ခြင်၍ ဆင်ခြင်၍ အလိုရှိတိုင်း သိတော်မူနိုင်ပေ၏'

'အရှင်ဘုရား၊ ပြဆိုခဲ့သော အကြောင်းတို့သည် ခိုင်လုံကြပါပေ၏။ ဘုရားရှင်သည် သဗ္ဗညု ဟုတ်မှန်ကြောင်း တပည့်တော် ဝန်ခံပါ၏'

[ကျမ်းရင်း၌ သစ်သီးတစ်လုံးမျှ ကြွေမကျလာသော သစ်ပင်ကို အသီးမရှိဟု မဆိုနိုင်ပုံကိုလည်း ဥပမာပြုသေး၏။

သဗ္ဗညုတဉာဏ်တော်နှင့် ပတ်သက်၍ မိလိန္ဒပဉှာကဏ္ဍ၊ သတိဝဂ်၊ အမှတ် ၂ ပုစ္ဆာ၌လည်း အမေးအဖြေ ပြုခဲ့ပြီးပေပြီ။]

## ၃။ ဒေဝဒတ်ကို အဘယ့်ကြောင့် ရဟန်းပြုပေးသနည်း

'အရှင်နာဂသေနဘုရား၊ ဒေဝဒတ်ကို မည်သူ ရဟန်းပြု၍ ပေးပါသနည်း'

'မင်းမြတ်၊ ဘဒ္ဒိယ၊ အနုရုဒ္ဓါ၊ အာနန္ဒာ၊ ဘဂု၊ ကိမိလ၊ ဒေဝဒတ်ဟူသော သကျမင်းသား ခြောက်ပါးနှင့်တကွ ဆတ္တာသည် ဥပါလိတို့သည် ရဟန်းပြုရန် ဘုရားရှင် နောက်တော်သို့ လိုက်ပါလာကြသဖြင့် သူတို့အားလုံးကို ဘုရားရှင်က ရဟန်းပြု၍ ပေးတော်မူပေ၏'

'အရှင်ဘုရား၊ ဒေဝဒတ်သည် ရဟန်းပြုရ၍သာလျှင် သံဃာကို သင်းခွဲနိုင်ပေ၏။ ဘိက္ခုနီ၊ ဘိက္ခုမာန်၊ သာမဏေယောကျ်ား၊ သာမဏေမိန်းမနှင့် လူသာမန်တို့သည် သံဃာကို သင်းမခွဲနိုင်ပေ။ ရဟန်းအပေါင်းနှင့် ကံကြီး ကံငယ် ပြုလုပ်ဆက်ဆံလျက် ရှိနေသော ပကတိ ရဟန်းသည်သာလျှင် တစ်သိမ်တည်းမှာ အတူနေလျက် သီးခြား သံဃာစု၍ ကံသီးခြားပြုကာ သံဃာကို သင်းခွဲနိုင်ပေ၏'

'အရှင်ဘုရား၊ သံဃာကို သင်းခွဲသောသူ၏ ကံသည် အဘယ်မျှ အပြစ်ကြီးပါသနည်း'

'မင်းမြတ်၊ တစ်ကမ္ဘာပတ်လုံး ငရဲခံရပေ၏'

'အရှင်ဘုရား၊ ဒေဝဒတ်သည် ရဟန်းပြုရလျှင် သံဃာကို သင်းခွဲလတ္တံ့။ သံဃာသင်းခွဲ၍ တစ်ကမ္ဘာလုံး ငရဲ၌ ကျခံရလတ္တံ့ဟု ဘုရားရှင် သိတော်မူပါ၏လော'

'မင်းမြတ်၊ သိတော်မူပေ၏'

'အရှင်ဘုရား၊ အကယ်၍ ဘုရားရှင် သိတော်မူသည်ဖြစ်အံ့။ ဘုရားရှင်သည် သနားခြင်း ကရုဏာ ရှိတော်မူသည်ဟူသော စကားသည် မှားရာ၏။ အကယ်၍ ထိုအကြောင်းကို မသိသော ကြောင့် ရဟန်းပြုတော်မူရသည်ဖြစ်အံ့။ ဘုရားရှင်သည် သဗ္ဗညု မဖြစ်ပေရာ။ အစွန်းနှစ်ဖက် ထွက်နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာပါ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ ဘုရားရှင်သည် သနားခြင်း ကရုဏာလည်း ရှိတော်မူပေ၏။ သဗ္ဗညုလည်း ဖြစ်တော်မူပေ၏။ သဗ္ဗညုတဉာဏ်တော်ဖြင့် ဒေဝဒတ်၏ အနာဂတ်အလားအလာကို ကြည့်ကော်မူလတ်သော အပါယ်လားကြောင်း မကောင်းမှုတို့ကို ပြုကျင့်၍ ကမ္ဘာတစ်သိန်းမက ငရဲကျခံရမည့် အလားအလာကို မြင်တော်မူပေ၏။ ဤသို့ သိမြင်တော်မူ၍ ဒေဝဒတ်၏ လွတ်ရက်မရှိအောင် ခံစားနေရမည့် ကံသည် ငါဘုရား၏ သာသနာတော်၌ ရဟန်းပြုရလျှင်ကား လွတ်ရက်ကို သတ်မှတ်ပိုင်းခြား၍ ရနိုင်လတ္တံ့။ မဂ်ဖိုလ်မှ အချည်းနှီးသော ထိုသူသည် ရဟန်း ပြုခွင့် မရသော်လည်း ဤသို့သော မကောင်းမှုကို ပြုမည်သာတည်းဟု သိတော်မူ၍ သနားတော် မူသောကြောင့် ဒေဝဒတ်ကို ရဟန်းပြု၍ ပေးတော်မူပေ၏'

'အရှင်ဘုရား၊ သို့ဖြစ်လျှင် ဘုရားရှင်သည် ဒေဝဒတ်ကို ရိုက်နှက်ပြီးခါမှ ဆီလိမ်း၍ ပေးဘိသည်တကား။ ကမ်းပါးပြတ်မှာ တွန်းချပြီးခါမှ လက်ကမ်းဘိသည်တကား။ အသေသတ်ပြီးခါမှ အသက်ရှင်ဆေးကို ရှာကြံဘိသည်တကား'

'မင်းမြတ်၊ မိဘတို့သည် သားသမီးတို့၏ အကျိုးစီးပွား များစိမ့်သောငှာ ရိုက်နှက်ခြင်းကိုလည်း ပြုကြရကုန်၏။ တွန်းချခြင်းကိုလည်း ပြုကြရကုန်၏။ ဤအတူသာပင် ဘုရားရှင်သည်လည်း သတ္တဝါတို့ အကျိုးစီးပွား များစိမ့်သောငှာ ရိုက်နှိပ်ခြင်းကိုလည်း ပြုတော်မူရပေ၏။ တွန်းချခြင်းကိုလည်း ပြုတော်မူရပေ၏။ အသက်သတ်ခြင်းကိုလည်း ပြုတော်မူရပေ၏။

'မင်းမြတ်၊ ဒေဝဒတ်သည် အကယ်၍ ရဟန်းမပြုရသည် ဖြစ်ငြားအံ့။ လူဝတ်ကြောင် အဖြစ်ဖြင့် ငရဲလားကြောင်း မကောင်းမှုများစွာကို ပြုလုပ်၍ ကမ္ဘာတစ်သိန်းမက ငရဲတစ်ခုမှ တစ်ခုသို့ ပြောင်းရွှေ့၍ ခံစားရပေလတ္တံ့။ ထိုအကြောင်းကို ဘုရားရှင် သိတော်မူ၍ ဒေဝဒတ်၏ ငရဲကျခံရသော ဆင်းရဲဒုက္ခကို တစ်ကမ္ဘာမျှဖြင့် အဆုံးသတ်နိုင်စေရန် ရဟန်းပြု၍ ပေးတော်မူရ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ပြည့်ရှင်မင်းလည်း ခိုးသူတစ်ယောက်အား သတ်စေ အမိန့်ပေးလိုက်၏။ မင်းချင်းတို့သည် ခိုးသူအား ဦးခေါင်းဖြတ်၍ သတ်ရန် သူသတ်ကုန်းသို့ ဆောင်ယူခဲ့ကြကုန်၏။ ဤတွင် ပြည့်ရှင်မင်း၏ ချီးမြှောက်ခြင်းကို ခံယူရ၍ ပြည့်ရှင်မင်းအား နားဝင်အောင် ပြောဆိုနိုင်စွမ်းရှိသော ယောကျ်ားတစ်ယောက်က တွေ့မြင်ရကာ ခိုးသူကို သနားသဖြင့် 'အချင်းတို့၊ ဤခိုးသူကို ဦးခေါင်း ဖြတ်၍ သတ်ခြင်းဖြင့် သင်တို့အား ဘာအကျိုးရှိပါမည်နည်း။ ဦးခေါင်းကို ဖြတ်မည့်အစား လက်ကိုဖြစ်စေ၊ ခြေကိုဖြစ်စေ ဖြတ်ကြကုန်လော့။ ပြည့်ရှင်မင်းထံ လျှောက်ထားရန် ငါ့တာဝန်ဖြစ်၏' ဟု ဆို၏။ ထိုယောကျ်ား၏ ပြောကြားချက်အတိုင်း မင်းချင်းတို့သည် ခိုးသူ၏ ဦးခေါင်းကို မဖြတ်တော့ဘဲ လက်ကိုဖြစ်စေ၊ ခြေကိုဖြစ်စေ တစ်ခုခုကို ဖြတ်ကြကုန်၏။ မင်းမြတ်၊ ဤသို့ ပြောဆိုပေးသဖြင့် ထိုယောကျ်ားသည် ခိုးသူ၏ အကျိုးစီးပွားကို ဆောင်ရွက်ရာ ရောက်ပါ၏လော'

'အရှင်ဘုရား၊ ထိုယောကျ်ားသည် ခိုးသူအား အသက်ပေးသူပါပေတည်း'

'မင်းမြတ် ခိုးသူသည် လက်ကိုဖြစ်စေ၊ ခြေကိုဖြစ်စေ အဖြတ်ခံရသဖြင့် ဆင်းရဲဝေဒနာကို ခံစားရ၏။ ထိုသို့ ခံစားရသဖြင့် ပြောဆိုပေးသော ယောကျ်ား၌ အကုသိုလ်ဖြစ်ပါ၏လော'

'အရှင်ဘုရား၊ အသက်ပေးသော ယောကျ်ား၌ အကုသိုလ်မဖြစ်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် ဒေဝဒတ်ကို သနားသောအားဖြင့် တစ်ကမ္ဘာမျှ ငရဲခံရုံမျှဖြင့် ဆင်းရဲဒုက္ခအဆုံးသတ်နိုင်စေရန် ရဟန်းပြု၍ ပေးတော်မူ၏။ ထို့ကြောင့်ပင် ဒေဝဒတ်သည် သေခါနီးဆဲဆဲ၌-

လောကသုံးပါးထက် မြတ်သော ပုဂ္ဂိုလ် ဖြစ်တော်မူပေထသော၊ သမ္မုတိနတ် ဥပပတ္တိနတ်တို့ထက် လွန်မြတ်သော ဝိသုဒ္ဓိနတ် ဖြစ်တော်မူထသော၊ ဆုံးမထိုက်သော ဝေနေယျသတ္တဝါအပေါင်းကို ကောင်းမွန်စွာ ဆုံးမတော်မူပေထသော၊ တရားအလုံးစုံကို အကုန်အစင် သိမြင်တော် မူပေထသော၊ အရာမကသော ဘုန်းတော်ရှိ၍ ယောကျ်ားမြတ်တို့၏ လက္ခဏာတော်ရှိတော်မူသော ထိုဘုရားရှင်အား ဤအရိုးတို့ဖြင့် လည်းကောင်း၊ ဤအသက်ဖြင့် လည်းကောင်း ဆည်းကပ်ကိုးကွယ်ပါ၏ဟူ၍ ရွတ်ဆိုကာ သရဏဂုံ ဆောက်တည်သွား၏။

'မင်းမြတ်၊ ဒေဝဒတ်သည် ဤကမ္ဘာ၏ ကြွင်းကျန်သော အချိန်တွင် ငရဲ၌ ကျခံရ၍ ဤကမ္ဘာသက် ကုန်ဆုံးသောအခါ ငရဲမှ လွတ်လတ္တံ့။ ငရဲမှ လွတ်ပြီးနောက် လူ့ဘဝသို့ ပြန်ရောက်ကာ အဋ္ဌိဿရ မည်သော ပစ္စေကဗုဒ္ဓါ ဖြစ်ပေလတ္တံ့။ မင်းမြတ်၊ ဤသို့ ရဟန်းပြုပေးသဖြင့် ဘုရားရှင်သည် ဒေဝဒတ်၏ အကျိုးစီးပွားကို ဆောင်ရွက်ရာ ရောက်ပါ၏လော'

'အရှင်ဘုရား၊ ဆောင်ရွက်ရာ ရောက်ပါ၏'

'မင်းမြတ်၊ ဒေဝဒတ်သည် ရဟန်းပြုခွင့်ရသဖြင့် သံဃာကို သင်းခွဲကာ ငရဲမှာ ကျခံရ၏။ ထိုသို့ ကျခံရသဖြင့် ရဟန်းပြုပေးသော ဘုရားရှင်၌ အကုသိုလ် ဖြစ်ပါ၏လော'

'အရှင်ဘုရား၊ ရဟန်းပြုပေးသော ဘုရားရှင်၌ အကုသိုလ် မဖြစ်ပါ။ ဘုရားရှင်သည် လမ်းမှားသို့ လျှောက်သွားသော ဒေဝဒတ်အား ဖြောင့်မတ်တည့်တန်းသော လမ်းမတော်ကြီးသို့ ပို့ဆောင်တော် မူပါပေ၏။ ကမ်းပါးပြတ်သို့ ကျရောက်လေသော ဒေဝဒတ်အား ဆောက်တည်ရာကို ပေးတော်မူပါပေ၏'

[ကျွမ်းရင်း၌ စွမ်းအားသတ္တိနှင့် ပြည့်စုံသော လူကုံထံတစ်ယောက်က မင်းပြစ်မင်းဒဏ် ကြီးလေးစွာ ကျရောက်နေသော မိမိဆွေမျိုးကိုဖြစ်စေ၊ မိတ်ဆွေကို ဖြစ်စေ အပြစ်ဒဏ် ပေါ့သွားအောင် ဆောင်ရွက်ပေးပုံကို လည်းကောင်း၊ လိမ္မာသော ဆေးဆရာက ပြင်းထန်လှသောရောဂါကို သက်သာအောင် ဆေးကုသပေးပုံကို လည်းကောင်း၊ လိမ္မာသော ဆေးဆရာကပင် အတွင်း၌ သွေးပုပ်၊ ပြည်ပုပ်များ မြှုံနေသော အနာကို ကြမ်းတမ်း၍ ထက်မြက်သော စားဆေးများ အုံပေး၍ အနာပြည်ပေါက်အောင် ကုသပေးပုံကိုလည်းကောင်း၊ ဆူးစူးထားသော သူတစ်ယောက်၏ ဆူးပတ်ပတ်လည်ရှိ အသားတို့ကို ဆူးထက်ထက်ဖြင့်ဖြစ်စေ၊ ဓားထက်ထက်ဖြင့်ဖြစ်စေ သွေးစိမ်းရှင်ရှင်ထွက်အောင် လှီးကာ ဆူးကိုရအောင် ထွင်ပုံကို လည်းကောင်း ဥပမာပြုသေး၏။]

## ၄။ မြေကြီးသည် အဘယ်ကြောင့် တုန်လှုပ်သနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် မြေငလျင်ပြင်းစွာ တုန်လှုပ်ခြင်း၏အကြောင်း ရှစ်ပါးတို့ကို ဟောကြားတော်မူခဲ့၏။ ထိုသို့ပင် ဖြစ်သော်လည်း ဝေဿန္တရာမင်းကြီးက အလှူကြီးစွာ ပေးလှူသောအခါတွင်ကား ခုနစ်ကြိမ်တိုင်တိုင် မြေငလျင်ကြီး တုန်လှုပ်ခဲ့ပေ၏။

'အရှင်ဘုရား အကယ်၍ ရှေးစကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှားခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်သော ဤပြဿနာသည် အရှင်ဘုရားထံသို့ ကပ်ရောက်လာပါ၏။ သိမ်မွေ့နက်နဲ၍ လူသာမန်တို့ ဖြေရှင်းရန် ခက်ခဲသော ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ မြေငလျင် ပြင်းစွာတုန်လှုပ်ခြင်း၏ အကြောင်းရှစ်ပါးတို့ကို ဘုရားရှင် ဟောတော်မူခဲ့၏။ ဝေဿန္တရာမင်းကြီးက အလှူကြီးစွာ ပေးသောအခါ ခုနစ်ကြိမ်တိုင်တိုင် မြေငလျင်ပြင်းထန်စွာ တုန်လှုပ်ခြင်းသည်လည်း အမှန်ပင်ဖြစ်၏။ သို့ရာတွင် ထိုသို့ တုန်လှုပ်ခြင်းကား တစ်ခါတစ်ရံမှသာ ပေါ်ပေါက်လာခြင်းဖြစ်၏။ မြေငလျင်လှုပ်ခြင်း၏ အကြောင်းတစ်ပါး အဖြစ်ဖြင့် မရေတွက်အပ်ပေ။

'မင်းမြတ်၊ ဟိမဝန္တာတောင်မှ ငါးရာသောမြစ်တို့ စီးဆင်းလာကြကုန်၏။ ထိုမြစ်ငါးရာတို့တွင် ဂင်္ဂါ၊ ယမုနာ၊ အစီရဝတီ၊ သရဘူ၊ မဟီ၊ သိန္ဓု၊ သရဿတီ၊ ဝေတြဝတီ ဝီတံသာ၊ စန္ဒဘာဂါ ဟူသော မြစ်ဆယ်စင်းတို့ကိုသာ မြစ်ဟူ၍ ရေတွက်အပ်ကုန်၏။ ကျန်သော မြစ်တို့ကား နှစ်လုံးပေါက် ရေစီးဆင်း၍ မနေချေ။ တစ်ခါတစ်ရံမှာသာ ရေစီးဆင်းကြကုန်၏။ ထို့ကြောင့် မြစ်ဟူ၍ မရေတွက်အပ်ကုန်။ မင်းမြတ်၊ ဤအတူသာပင် ဝေဿန္တရာမင်းကြီး အလှူကြီးစွာ ပေးသောအခါ ခုနစ်ကြိမ်တိုင်တိုင် မြေလှုပ်ခြင်းသည် တစ်ခါတစ်ရံမှသာ ပေါ်ပေါက်လာခြင်းဖြစ်၏။ ထို့ကြောင့် မြေလှုပ်ခြင်း၏ အကြောင်းတစ်ပါးအဖြစ်ဖြင့် မရေတွက်အပ်ပေ။

'မင်းမြတ်၊ လူ့ပြည်နတ်ပြည် နှစ်ရပ်စလုံး၌ ကောင်းသတင်းကျော်ကြား၍ ကုသိုလ်ကံ၏ အကျိုးကျေးဇူးကို မျက်မှောက်ဘဝမှာပင် ခံစားကြရသော ပုဂ္ဂိုလ်ခုနစ်ယောက်တို့ကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏'

'မင်းမြတ်၊ အဘယ်သူတို့ပေနည်း'

'အရှင်ဘုရား၊ သုမနပန်းသည် ကေသာငှကပုဏ္ဏား၊ ပုဏ္ဏားသူရင်းငှား၊ မလ္လိကာ မိဖုရား၊ ဂေါပါလမာတာ မိဖုရား၊ သပ္ပိယာဉပါသိကာမ၊ ပုဏ္ဏားကျွန်မတို့ ဖြစ်ကြပေ၏'

'မင်းမြတ်၊ ရှေးလွန်လေပြီးသောအခါတုန်းက လူ့ကိုယ်ခန္ဓာဖြင့်ပင် နတ်ပြည်သို့ ရောက်ခဲ့ကြသူများကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏'

'မင်းမြတ်၊ အဘယ်သူတို့ပေနည်း'

'အရှင်ဘုရား၊ ဂုတ္တိလစောင်းသမား၊ သာဓိနမင်း၊ နေမိမင်း၊ မန္ဓာတုမင်းတို့ ဖြစ်ကြပေ၏'

'မင်းမြတ်၊ ရှေးလွန်လေပြီးသောအခါတုန်းက ဖြစ်စေ၊ ယခု မျက်မှောက်ကာလမှာ ဖြစ်စေ တစ်စုံတစ်ယောက်က အလှူပေးသောအခါ တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် မြေလျင် တုန်လှုပ်၏ဟူ၍ သင်မင်းမြတ် ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ မကြားဖူးပါ'

'မင်းမြတ်၊ ပါဠိတော်၊ အဋ္ဌကထာ စုံစေ့စွာ သင်ယူခဲ့သော ငါသည်လည်း ဝေဿန္တရာမင်းကြီး၏ အလှူမှတစ်ပါး အခြားသူတို့၏ အလှူတို့၌ မြေလျင်တုန်လှုပ်ခြင်းကို မကြားဖူးပေ။ မင်းမြတ်၊ ဝေဿန္တရာမင်းကြီး အလှူပေးစဉ်က ထက်ဝန်းကျင်မှ စင်ကြယ်သော ဂုဏ်ကျေးဇူး တို့ကြောင့် ထိုဂုဏ်ကျေးဇူးတို့၏ အရှိန်အဟုန်ကို မခံနိုင်သောကြောင့် မဟာပထဝီမြေကြီး သည် ပြင်းစွာတုန်လှုပ်ရပေ၏။

'မင်းမြတ်၊ အလွန်တရာ လေးလံလှစွာသော ဝန်စည်များကို တင်ဆောင်လာသော လှည်းမှ ပုန်းတောင်းနှင့် တံကူတို့ ကွဲပျက်ကုန်၏။ ဝင်ရိုးလည်း ကျိုး၏။ ဤအတူသာပင် ဝေဿန္တရာ မင်းကြီး၏ ထက်ဝန်းကျင်မှ စင်ကြယ်သော ဂုဏ်ကျေးဇူးတို့၏ အရှိန်အဟုန်ကို မခံနိုင်သဖြင့် ပထဝီမြေကြီးသည် ပြင်းထန်စွာ တုန်လှုပ်ရပေ၏။

'မင်းမြတ်၊ ထိုစကား မှန်လှ၏။ ဝေဿန္တရာမင်းကြီး စိတ်တွင် ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိနှင့်ကြွင်းသော ကိလေသာများ မယှဉ်လာကြကုန်။ ထွေထွေရာရာ ကြံစည်ခြင်း၊ လှူဒါန်းရေး၌ မမွေ့လျော်ခြင်းတို့ ဖြစ်ပေါ်မလာကြပေ။ စင်စစ်အားဖြင့် လှူဒါန်းရေး၌သာ စိတ်ဝင်စားနေ၏။ မလာရောက်သေးသော အလှူခံတို့ ရောက်လာကြစေရန်၊ ရောက်လာပြီး အလှူခံတို့ အလိုရှိတိုင်း ရ၍ ဝမ်းမြောက်ဝမ်းသာ ရှိစေရန်သာ ရှေးရှုနေ၏။ မိမိကိုယ်ကို ကျိုးနွံစွာ ဆုံးမခြင်း၊ မျှတ ညီညွတ်သော စိတ်ရှိခြင်း၊ သည်းခံခြင်း၊ ဣန္ဒြေကိုစောင့်စည်းခြင်း၊ အမြဲစောင့်သော သီလရှိခြင်း၊ အခါအားလျော်စွာစောင့်သော သီလရှိခြင်း၊ အမျက်မထွက်ခြင်း၊ သူတစ်ပါးတို့ မညှဉ်းဆဲခြင်း၊ ဝစီ သစ္စာ ဖြောင့်မှန်စွာ ပြောဆိုခြင်း၊ စိတ်ထားဖြူစင်ခြင်းဟူသော ဆယ်ပါးသောတရားတို့ကို အမြဲတစေ ဆောက်တည်ကျင့်သုံး၏။

'မင်းမြတ်၊ ကာမဂုဏ် လိုလား တောင့်တခြင်း၊ လူ့ဘဝ နတ်ဘဝ လိုလားတောင့်တခြင်း တို့ကို စွန့်ပယ်၏။ မြင့်မြတ်သော အကျင့်ကို ကျင့်သုံးရန် တောင့်တခြင်းသာရှိ၏။ မိမိကိုယ်ကို စောင့်ရှောက်မှု မပြုဘဲ သတ္တဝါအပေါင်းတို့ သင့်တင့်ညီညွတ်စွာ နေထိုင်ကြစေရန်၊ အနာရောဂါ ကင်းရှင်းစေရန်၊ စည်းစိမ်ဥစ္စာ ပေါများကြစေရန်၊ အသက်ရှည်စွာ နေထိုင်ကြရန်သာ ကြံစည် စိတ်ကူး၍သာ နေ၏။

'မင်းမြတ်၊ ဝေဿန္တရာမင်းကြီး အလှူပေးခြင်းမှာ ဘဝသမ္ပတ္တိကို ရလိုသောကြောင့်လည်း မဟုတ်ပေ။ ပစ္စည်းဥစ္စာ ရလိုသောကြောင့်လည်း မဟုတ်ပေ။ အတုံ့အလှည့် ပေးစေလိုသော

ကြောင့်လည်း မဟုတ်ပေ။ သူတစ်ပါး အထင်ကြီးအောင် ဖြားယောင်းသွေးဆောင်လိုသောကြောင့် လည်း မဟုတ်ပေ။ အသက်ရှည်စေလိုသောကြောင့်လည်း မဟုတ်ပေ။ အဆင်းလှလိုသော ကြောင့်လည်း မဟုတ်ပေ။ ချမ်းသာလိုသောကြောင့်လည်း မဟုတ်ပေ။ ခွန်အားကြီး လိုသောကြောင့်လည်း မဟုတ်ပေ။ အခြံအရံ အကျော်အစော ရလိုသောကြောင့်လည်း မဟုတ်ပေ။ သားသမီးတို့ ပွားစည်းလိုသောကြောင့်လည်း မဟုတ်ပေ။ စင်စစ်အားဖြင့် သဗ္ဗညုတဉာဏ်တော် ရတနာကို ရလိုသောကြောင့် အတုမရှိ မြင့်မြတ်လှစွာသော အလှူတော်ကြီးကို ပေးလှူခဲ့ခြင်း ဖြစ်ပေသည်။

'မင်းမြတ်၊ ထိုစကားမှန်လှ၏။ ဘုရားရှင် ကိုယ်တော်တိုင်ကလည်း သဗ္ဗညုမြတ်စွာဘုရား အဖြစ်သို့ ရောက်တော်မူပြီးနောက်–

'ငါသည် သားတော် ဇာလီမင်းသားကို လည်းကောင်း၊ သမီးတော် ကဏှာဇိန်မင်းသမီးကို လည်းကောင်း၊ လင့်အလိုလိုက်၍ လင့်အကြိုက်ကို ဖြည့်ဆည်းသော မဒ္ဒီမိဖုရားကို လည်းကောင်း၊ ပေးလှူစွန့်ကြဲသောအခါ သဗ္ဗညုတဉာဏ်တော်ကို အလိုရှိ၍သာလျှင် ပေးလှူခဲ့၏။ တစ်စုံတစ်ခု သော စည်းစိမ်ချမ်းသာကိုမျှ မတောင့်တ၊ မကြံစည်ခဲ့ပေ' ဟု မိန့်ကြားတော် မူခဲ့ပေ၏။

'မင်းမြတ်၊ ဝေဿန္တရာမင်းကြီးသည် အမျက်မထွက်ခြင်းဖြင့် အမျက်ထွက်သူကို အောင်နိုင်၏။ ကောင်းမွန်စွာ ကျင့်သုံးခြင်းဖြင့် မကောင်းသူကို အောင်နိုင်၏။ ပေးကမ်းလှူဒါန်းခြင်းဖြင့် နှမြောတွန့်တိုသူကို အောင်နိုင်၏။ မှန်ကန်စွာ ပြောဆိုခြင်းဖြင့် မမှန်မကန် ပြောဆိုသူကို အောင်နိုင်၏။ ဤသို့ တရားနှင့်အညီ ဆောက်တည်ကျင့်သုံး၍ ဝေဿန္တရာမင်းကြီးသည် မြင့်မြတ်လှသော အလှူတော်ကြီးကို ပေးလှူ၏။ ထိုအလှူတော်ကြီး၏ အရှိန်အဟုန်နှင့် အလွန်တရာ ထက်သန်လှသော လုံ့လဝီရိယ၏ အရှိန်အဟုန်တို့ကို မခံနိုင်သဖြင့် ကမ္ဘာလေကြီးတို့ တိုက်ခတ် ဝှေ့ယမ်းလာကြကုန်၏။ မိုးတိမ်တို့သည် အစုလိုက် အပြုံလိုက် ကောင်းကင်၌ ထိုမှဤမှ ပြေးလွှားကြရကုန်၏။ လေအဟုန်တို့ တိုက်ခတ်လှုပ်ရှား လွန်းသဖြင့် ရေလုံးရေပွက်တို့ ပြင်းထန်စွာ ထကြွကုန်၏။ ရေမြှုပ်ရေပန်းတို့ ကြမ်းတမ်းစွာ ပေါ်ပေါက်လာကြကုန်၏။ မဟာသမုဒ္ဒရာရေကြီး လျှံတက်လာကာ အရပ်မျက်နှာအားလုံးသို့ တစ်ရှိန်ထိုး **စီးဝင်ကုန်၏။** ရေပြင်တစ်ခုလုံး ရုန်းရင်းဆန်ခတ် လှုပ်ရှားခြင်းကြောင့် မြင်းမိုရ်၊ သတ္တရဘ္ဘန်၊ တောင်စဉ် တောင်တန်းနှင့်တကွ မဟာပထဝီမြေကြီးသည် ပြင်းထန်စွာ တုန်လှုပ်ရပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဣန္ဒနီလာ၊ နီလာကြီး၊ ဇောတိရည်၊ ကြောင်မျက်ရွဲ၊ ပတ္တမြားညို၊ စိန်၊ မနောဟရပတ္တမြား၊ သူရိယကန္တ၊ စန္ဒရကန္တ၊ ဝဇီရစိန်၊ ခဇ္ဇောပနက ဥဿဖရား၊ ပတ္တမြားနီ၊ ပတ္တမြားပြောက် ဟူသော များပြားလှစွာသော ကျောက်မျက် ရတနာတို့သည် မြေ၌ ရှိကုန်၏။ ထိုကျောက်မျက်ရတနာ အားလုံးတို့ထက် စကြဝတေးမင်းကြီး၏ ပတ္တမြားရတနာကို အမြတ်ဆုံးဟု

ဆိုအပ်၏။ ထိုပတ္တမြားသည် ထက်ဝန်းကျင် တစ်ယူဇနာတိုင်တိုင် အရောင်အဝါ ထွန်းပ၏။ မင်းမြတ်၊ ဤအတူသာပင် ဤမြေပြင်ပေါ်ရှိ အလှူဒါန အားလုံးတို့ထက် ဝေဿန္တ ရာမင်းကြီး၏ အလှူတော်ကိုသာလျှင် အမြတ်ဆုံးဟု ဆိုအပ်ပေ၏။ ထို့ကြောင့်ပင် ထိုအလှူတော်ကြီး ပေးလှူရာ၌ ခုနစ်ကြိမ်တိုင်တိုင် မြေငလျင် ပြင်းစွာ တုန်လှုပ်ရပေ၏'

'အရှင်ဘုရား၊ အလောင်းတော်သာ ဖြစ်ပါလျက် ဝေဿန္တ ရာမင်းကြီးသည် လူအပေါင်းတို့ လိုက်မမီအောင် ထူးမြတ်သော စိတ်သဘော ရှိခဲ့ပါပေ၏။ အရှင်ဘုရားသည် ဘုရားအလောင်းတော်တို့၏ လုံ့လ စွမ်းအားကို ထင်ရှားစွာ ပြဆိုခဲ့ပါပေပြီ။ ဘုရားရှင်တို့၏ ပါရမီတော်တို့ကိုလည်း အလွန်ထင်ရှားစွာ ပြဆိုခဲ့ပါပေပြီ။ မြတ်စွာဘုရား၏ သာသနာတော်ကို ချီးကျူးခဲ့ပါပေပြီ။ အရှင်ဘုရား၊ ကောင်းလှပါပေစွ။ တပည့်တော်သည် အရှင်ဘုရား မိန့်ဆိုတိုင်း ဝန်ခံပါ၏'

[ကျမ်းရင်းတွင် ဝေဿန္တ ရာမင်းကြီး၏ အလှူ၌ မြေတုန်လှုပ်မှုကို မြေတုန်လှုပ်ခြင်း အကြောင်း တစ်ပါးဟု မသတ်မှတ်ရပုံကို အခြား ဥပမာများလည်း ပြဆိုပါသေး၏။ မိုးဦး၊ မိုးလယ်၊ မိုးနှောင်း တို့၌ ရွာသောမိုးမှတစ်ပါး အခြားမိုးကို မိုးဟု မရေတွက်ရပုံ၊ မင်း၏အမတ်ပေါင်း တစ်ရာကျော် ရှိနေသော်လည်း စစ်သူကြီး၊ ပုရောဟိတ်၊ တရားသူကြီး၊ ဘဏ္ဍာစိုး၊ ထီးတော်မိုး၊ သန်လျက်စွဲသော သက်တော်စောင့် ဤအမှုထမ်း ခြောက်မျိုးတို့ကိုသာ အမတ်ဟူ၍ ရေတွက်ရပုံတို့ ဖြစ်၏။

ဝေဿန္တ ရာမင်းကြီး၏ အလှူတော်ကြောင့် မြေတုန်လှုပ်ခြင်းကို ထမင်းအိုးကြီး ပွက်လာပုံနှင့် ဥပမာပြု၏။

မြေတုန်လှုပ်ခြင်း အကြောင်းရှစ်ပါးတို့ကို ဒီဃနိကာယ်၊ မဟာပရိနိဗ္ဗာနသုတ်၌ ဟောတော်မူထား၏။ ထိုအကြောင်းတို့မှာ ၁။ ကမ္ဘာကို ခံထားသော ရေ တုန်လှုပ်ခြင်း၊ ၂။ ဘုရားအလောင်းတော် ပဋိသန္ဓေနေခြင်း၊ ၃။ ဘုရားအလောင်းတော် ဖွားမြင်ခြင်း၊ ၄။ ဘုရားအဖြစ်သို့ ရောက်တော်မူခြင်း၊ ၅။ ဓမ္မစကြာတရား ဟောကြားတော်မူခြင်း၊ ၆။ အာယုသင်္ခါရ စွန့်လွှတ်တော်မူခြင်း၊ ၇။ ဘုရားရှင် ပရိနိဗ္ဗာန် စံဝင်တော်မူခြင်း၊ ၈။ တန်ခိုးဣဒ္ဓိပါဒ် ရှိသူများ၏ တန်ခိုးပြခြင်းတို့ ဖြစ်ကြပေ၏။]

## ၅။ သိဝိမင်းသည် အဘယ့်ကြောင့် မျက်လုံးအသစ် ပြန်ရသနည်း

'အရှင် နာဂသေနဘုရား၊ သိဝိမင်းသည် အလှူခံ ပုဏ္ဏားအား မိမိမျက်လုံးတို့ကို မျက်တွင်းမှထုတ်၍ ပေးလှူလိုက်သဖြင့် စုံလုံးကန်း ဖြစ်ခဲ့ရ၏။ သို့ပါလျက် ထိုသိဝိမင်းအား နောက်ထပ်တစ်ဖန် နတ်မျက်စိတို့ ဖြစ်ပေါ်လာကုန်၏ဟု အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုပြင် သုတ္တန်ဒေသနာတော်၌လည်း မံသစက္ခုတည်းဟူသော တည်ရာ မိရာ အကြောင်းမရှိလတ်သော နတ်မျက်စိနှင့်

တူသောမျက်စိ ဖြစ်ပေါ်ခြင်း မရှိဟုလည်း ဘုရားရှင် ဟောကြားတော်မူပေ၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ နှစ်ဖက်အစွန်း ထွက်သော ဤပြဿနာသည်လည်း အရှင်ဘုရားထံ ကပ်ရောက်လာပေ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ သိဝိမင်းသည် တောင်းခံလာသော ပုဏ္ဏားအား မျက်လုံးအစုံကို မျက်လုံးအိမ်မှ ထုတ်၍ ပေးလှူ၏။ ထို့နောက်တစ်ဖန် နတ်မျက်စိတို့ ဖြစ်ပေါ်လာကုန်၏။ ဤအကြောင်းကို သင်မင်းမြတ် ယုံမှားမရှိပါလင့်'

'အရှင်ဘုရား၊ မံသစက္ခု တည်းဟူသော တည်ရာမှီရာအကြောင်း မရှိလတ်သော် နတ်မျက်စိသည် ဖြစ်ပေါ်လာဦးမည်လော'

'မင်းမြတ်၊ မဖြစ်နိုင်ပေ'

'အရှင်ဘုရား၊ မံသစက္ခု တည်းဟူသော တည်ရာမှီရာ အကြောင်း မရှိပါဘဲလျက် နတ်မျက်စိ ဖြစ်ပေါ်လာရခြင်း၏ အကြောင်းကား အဘယ်ပါနည်း'

'မင်းမြတ်၊ ဝစီသစ္စာမှန်ကန်စွာ ဆိုလေ့ရှိကြကုန်သော သူတို့သည် မိုးကြီး သည်းထန်စွာ ရွာစေသတည်းဟူ၍ အဓိဋ္ဌာန်ကာ သစ္စာဆိုကြကုန်၏။ သစ္စာဆိုလိုက်သည်နှင့် တစ်ပြိုင်နက် မိုးကြီးသည်းထန်စွာ ရွာလာ၏။ မင်းမြတ်၊ ထိုအချိန်တွင် ကောင်းကင်၌ မိုးရွာသွန်းခြင်း၏ အကြောင်းဖြစ်သော တိမ်တောင်တိမ်လိပ်များ ရှိနေပါ၏လော'

'အရှင်ဘုရား၊ တိမ်တောင် တိမ်လိပ်များ မရှိကြပါ။ သစ္စာဆိုခြင်းသည်ပင်လျှင် မိုးရွာခြင်း၏ အကြောင်း ဖြစ်နေပေ၏။

'မင်းမြတ်၊ သိဝိမင်းမှာ နတ်မျက်စိ ဖြစ်ပေါ်လာရာ၌ ပကတိသော အကြောင်းကား မရှိချေ။ သစ္စာဆိုခြင်းသည်ပင်လျှင် နတ်မျက်စိ ဖြစ်ပေါ်လာခြင်း၏ အကြောင်းဖြစ်ပေ၏။

'မင်းမြတ်၊ စိန္ဓုတိုင်းပြည်ကို အစိုးရသော မင်းသည် မဟာသမုဒ္ဒရာသို့ လေးလတစ်ကြိမ်၊ လေးလတစ်ကြိမ် သက်ဝင်၍ ရေကစားလေ့ရှိ၏။ ထိုမင်းသည် သစ္စာဆိုပြီးလျှင် မဟာသမုဒ္ဒရာ အတွင်းသို့ ရထားနှင့်အတူ သက်ဆင်း၏။ ရထားဦးမှာ ရှိနေကြသော ရေတို့သည် နံဘေးသို့ ခွာရှဲ၍ ပေးကြကုန်၏။ ထိုမင်းသည် တစ်ယူဇနာတိုင်တိုင် မဟာသမုဒ္ဒရာအတွင်းသို့ သက်ဆင်း၍ ရေကစားပြီးမှ ကမ်းပါးသို့ ပြန်တက်လာ၏။ သူပြန်တက်လာပြီးသောအခါ ခွာရှဲနေခဲ့သော ရေတို့သည် ပကတိအတိုင်း ပြန်ပြည့်လာကုန်၏။ မင်းမြတ်၊ နတ်လူတို့၏ ပကတိ အင်အားဖြင့် ထိုမဟာသမုဒ္ဒရာရေကို ခွဲရှဲစေရန် စွမ်းနိုင်ပါမည်လော'

'အရှင်ဘုရား၊ ရေအနည်းငယ်မျှသာရှိသော တစ်ဖက်ဆည်ကန်၌ပင် ခွာရဲစေရန် မစွမ်းနိုင်ပါ။ မဟာသမုဒ္ဒရာ၌ကား အဘယ်မှာ စွမ်းနိုင်ပါမည်နည်း'

'မင်းမြတ်၊ ဤအကြောင်းဖြင့် သစ္စာ၏စွမ်းအားကို သိပါလော့။ မင်းမြတ်၊ ပါဋလိပုတ် မြို့တော်၌ အသောက မင်းတရားကြီးသည်လည်း တိုင်းသူပြည်သားများ၊ မင်းခစားများ၊ စစ်သည်ဗိုလ်ပါများ၊ အမတ်ကြီးများ ခြံရံလျက် ဂင်္ဂါမြစ်ကြီးကို ကြည့်ရှု၍ နေခဲ့ဖူး၏။ ထိုအချိန်၌ ဂင်္ဂါမြစ်ကြီးတွင် ကမ်းပါးနှင့်အပြည့် ရေများစီးဆင်းနေ၏။ ဤတွင် အသောက မင်းတရားကြီးက အမတ်တို့၊ ဂင်္ဂါမြစ်ကြီးကို မြစ်ညာသို့ ပြန်၍ စီးသွားစေရန် စွမ်းဆောင်နိုင်သူ ရှိပါ၏လောဟု မေးမြန်း၏။ အမတ်တို့က စွမ်းဆောင်ရန် ခဲယဉ်းပါဘီ၏ဟု လျှောက်တင်ကြကုန်၏။

'မင်းမြတ်၊ ထိုသို့ အသောကမင်းကြီးက မေးမြန်းသော စကားကို မြစ်ကမ်းပါးမှာပင် နေထိုင်သော ဗန္ဓုဝတီမည်သော ပြည့်တန်ဆာမက ကြားသိသဖြင့် သစ္စာဆိုလိုက်၏။ သစ္စာဆိုလိုက်သည်နှင့် တစ်ပြိုင်နက် ဂင်္ဂါ မြစ်ကြီးသည် တဝုန်းဝုန်းမြည်သံပေးကာ မြစ်ညာသို့ ဆန်တက်ပေတော့၏။

'မင်းမြတ်၊ အသောကမင်းတရားကြီးသည် မဖြစ်စဖူး ထူးခြားလှသော ဖြစ်အင်ကို တွေ့မြင်ကာ အံ့ဩလှသဖြင့် အမတ်တို့အား မေးမြန်း၏။ အမတ်တို့ကလည်း အကြောင်းမှန်ကို လျှောက်တင်ကြ၏။ ဤတွင် အသောကမင်းတရားကြီးသည် ထိတ်လန့်တကြားဖြစ်ကာ ပြည့်တန်ဆာမရှိရာ သို့ ကိုယ်တိုင် သွားရောက်၏။ ဟယ်... ပြည့်တန်ဆာမ၊ သင်သည် သူ့လင် သူ့သားကို ခိုးယူသူဖြစ်၏။ ကာမကြူး၏၊ သတိမရှိ၊ အရှက်မရှိ၊ ယုတ်ညံ့လှဘိ၏။ မိုက်မဲသူတို့ကို ဖြားယောင်းသွေးဆောင်၏။ ဤသို့ ယုတ်ညံ့လှစွာသော သင်၌ အဘယ်သို့သော သစ္စာစွမ်းအား ရှိပါမည်နည်းဟု မေးမြန်း၏။

'ဗန္ဓုဝတီပြည့်တန်ဆာမက အရှင်မင်းကြီး၊ ကျွန်မသည် အရှင်မင်းကြီး မိန့်ကြားသည့်အတိုင်း အသက်မွေးမှု ယုတ်ညံ့သည် မှန်ပါ၏။ သို့ရာတွင် ကျွန်မမှာ သစ္စာဆိုခြင်းကား ရှိနေပါ၏ဟု လျှောက်၏။ သစ္စာဆိုခြင်းကား အဘယ်သို့နည်းဟု အသောကမင်းက မေးမြန်း၏။ ပြည့်တန်ဆာမက အရှင်မင်းကြီး မင်းဖြစ်စေ၊ ပုဏ္ဏားဖြစ်စေ၊ ကုန်သည်ဖြစ်စေ၊ သူဆင်းရဲ ဖြစ်စေ ကျွန်မကို တစ်စုံတစ်ယောက်က အခကြေးငွေ ပေးလာပါလျှင် ထိုသူကို ညီတူညီမျှသာ ပြုစုပါ၏။ မင်းဟူ၍လည်း ထူးထူးခြားခြား အရေးပေးခြင်း မပြုပါ။ သူဆင်းရဲဟူ၍လည်း မခန့်လေးစား မဆက်ဆံပါ။ ချစ်ခြင်း၊ မုန်းခြင်း လွတ်ကင်းလျက် အခကြေးငွေ ပေးလာသူ အဖြစ်ဖြင့်သာ ပြုစုပါ၏။ ဤသို့ ပြုစုပုံကို သစ္စာဆိုကာ အဓိဋ္ဌာန်ပြုလိုက်သဖြင့် ဂင်္ဂါမြစ်ကြီး မြစ်ညာသို့ ဆန်၍ စီးဆင်းသွားရခြင်း ဖြစ်ပါသည်ဟု လျှောက်တင်ခဲ့၏။

'မင်းမြတ်၊ သစ္စာတည်းသော သူတို့က သစ္စာဆိုလျှင် အကျိုးတစ်ခုခုကို ရလိမ့်မည်သာတည်း။ သိဝိမင်းသည် တောင်းခံလာသော ပုဏ္ဏားအား မိမိ၏ မျက်စိကို ထုတ်ယူပေးပြီးနောက် နတ်မျက်စိတို့ ဖြစ်ပေါ်လာကုန်၏။ ထိုသို့ ဖြစ်ပေါ်လာရခြင်းသည် သစ္စာပြုသောကြောင့် ဖြစ်၏။ မံသစက္ခုဟူသော တည်မှီရာ အကြောင်းမရှိလတ်သော နတ်မျက်စိ ဖြစ်ပေါ်ခြင်း မရှိဟူသော သုတ္တန်စကားမှာ ကမ္မဋ္ဌာန်းဘာဝနာ ပွားများ၍ ရနိုင်သော ဒိဗ္ဗစက္ခု အဘိညာဉ်ကို ရည်ရွယ်၍ ဟောတော်မူခြင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ ပြဿနာကို ပြေလည်စွာ ဖြေရှင်းနိုင်ပါပေ၏။ အရှင်ဘုရား မိန့်ဆိုတိုင်း တပည့်တော် ဝန်ခံပါ၏'

[ကျမ်းရင်း၌ သစ္စာဆို၍ မီးငြိမ်းစေပုံ၊ သစ္စာဆို၍ အဆိပ်ပြယ်စေပုံ တို့ကိုလည်း ဥပမာပြုသေး၏။]

## ၆။ မေထုန်မပါဘဲ ပဋိသန္ဓေ တည်နိုင်သလော

'အရှင်ဘုရား၊ ရဟန်းတို့၊ အကြောင်းသုံးပါးတို့ ပေါင်းဆုံခြင်းကြောင့် ကိုယ်ဝန်တည်၏။ အမိအဖတို့သည်လည်း ပေါင်းစုံစပ်ယှက်ကြကုန်၏။ အမိသည်လည်း ဥတုလာပြီးစ ဖြစ်၏။ ပဋိသန္ဓေ တည်နေလာမည့် သတ္တဝါသည်လည်း ဤဘဝသို့ ကပ်ရောက်ရန် ရှေးရှု တည်နေ၏။ ရဟန်းတို့၊ ဤအကြောင်း သုံးပါးတို့ ပေါင်းဆုံလာခြင်းကြောင့် ကိုယ်ဝန်တည်၏ဟု ဘုရားရှင် ဟောတော်မူခဲ့၏။

'အရှင်ဘုရား၊ ထိုမှတစ်ဖန် ဒုကူလရသေ့သည် ပါရိကာရသေ့မဥတုလာပြီးအခါ၌ ရသေ့မ၏ ချက်ကို လက်ဖြင့်ပွတ်သပ်၏။ ပွတ်သပ်သဖြင့် ပါရိကာရသေ့မမှာ သုဝဏ္ဏသာမ သတို့သား ဖွားမြင်လာ၏။ မာတင်္ဂသည်လည်း ဒိဋ္ဌမင်္ဂလိကာ ပုဏ္ဏေးမ ဥတုလာပြီးစ အချိန်၌ ပုဏ္ဏေးမ၏ ချက်လို လက်ဖြင့် ပွတ်သပ်၏။ ထိုသို့ ပွတ်သဖြင့် ဒိဋ္ဌမင်္ဂလိကာ ပုဏ္ဏေးမမှ မဏ္ဍဗျ သတို့သား ဖွင်းမြင်လာသည်ဟု အရှင်ဘုရားတို့ ပြောကြကုန်၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ပေငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေးစကားသည် မှားပေရာ၏။ နှစ်ဖက်အစွန်းထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာပေ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ အကြောင်းသုံးပါးတို့ ပေါင်းဆုံခြင်းကြောင်း ကိုယ်ဝန်တည်၏ ဟူသော စကားလည်း မှန်ပေ၏။ သုဝဏ္ဏသာမ သတို့သားနှင့် မဏ္ဍဗျ သတို့သားတို့သည် ချက်ကိုလက်ဖြင့် သုံးသပ်ခြင်းကြောင့် ဖွားမြင်လာကုန်၏ဟူသော စကားလည်း မှန်ပေ၏'

'အရှင်ဘုရား၊ စကားနှစ်ရပ်လုံး မှန်နေပါလျှင် ဤပြဿနာကို ပြေလည်အောင် ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ သံကိစ္စသတို့သား၊ ဣသိသိင်္ဂသတို့သားနှင့် ကုမာရကဿပ သတို့သားတို့ ပဋိသန္ဓေ တည်နေရခြင်း၏ အကြောင်းကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏။ ထိုသတို့သားတို့ ပဋိသန္ဓေ တည်နေပုံမှာ အကျော်တစောဖြစ်ကြကုန်၏။ ဥတုလာပြီးစ သမင်မ နှစ်ကောင်တို့သည် ရသေ့နှစ်ပါးတို့ ကျင်ငယ်စွန့်သောနေရာမှ သုက်ရည်ပါသော ကျင်ငယ်ရည်ကို သောက်ကြကုန်၏။ ထိုသို့ သောက်သဖြင့် ထိုသမင်မ နှစ်ကောင်မှ သံကိစ္စ သတို့သားနှင့် ဣသိသိင်္ဂ သတို့သားတို့ ဖွားမြင်လာကြ၏။ အရှင်ဥဒါယီသည်လည်း ဘိက္ခုနီမတို့၏ ကျောင်းသို့သွားစဉ် ဘိက္ခုနီမတစ်ပါး၏ အင်္ဂါဇာတ်ပေါ်နေသည်ကို တစိမ့်စိမ့်ကြည့်ကာ သင်္ကန်းထဲ၌ သုက်လွှတ်၏။ သုက်လွှတ်ထားသော သင်္ကန်းကို ဘိက္ခုနီမက ဖွပ်လျှော်ရန် ယူသွားပြီးလျှင် သင်္ကန်းမှ သုက်ရည်တချို့ကို ပါးစပ်ဖြင့် စုပ်ယူ၏။ တချို့ကို အင်္ဂါစပ်သို့ ထည့်သွင်း၏။ ထိုသို့ ပြုလုပ်သဖြင့် ကုမာရကဿပ သတို့သား ကို ဖွားမြင်လာပေ၏'

'မင်းမြတ်၊ ထိုစကားကို ယုံကြည်ပါ၏လော'

'အရှင်ဘုရား၊ ယုံကြည်လောက်သော အကြောင်း ခိုင်လုံသောကြောင့် ယုံကြည်ပါ၏။ ဥပမာအားဖြင့် တမန်းကြေအောင် ထွန်ယက်ထားပြီးသော လယ်ကွက်ထဲသို့ မျိုးစေ့ကြဲချသော အခါ ကောက်ပင်များ ကောင်းကောင်းကြီး ပေါက်လာကြပေ၏။ ဤအတူသာပင် ထိုဘိက္ခုနီမ၏ ဥတုတည်လာ၍ ပြတ်စဲသွားပြီးနောက် သားအိမ်သည် သန္ဓေ စွဲကပ်ရန် အသင့်တည်ရှိနေ၏။ ထိုသို့ တည်ရှိနေစဉ်တွင် သုက်ရည်များ ထည့်သွင်းလိုက်သဖြင့် ကိုယ်ဝန်တည်လာပေ၏'

'မင်းမြတ်၊ ထိုမှတစ်ပါး သမင်မနှစ်ကောင်တို့ သုတ်ရည်ပါသော ကျင်ငယ်ကို သောက်၍ ကိုယ်ဝန်ရခြင်းကိုကော ယုံကြည်ပါ၏လော'

'အရှင်ဘုရား၊ ယုံကြည်ပါ၏။ ဥပမာအားဖြင့် ရေစီးဆင်းနေသော မြစ်ကြီး မြစ်ငယ် အားလုံးတို့သည် မဟာသမုဒ္ဒရာသို့ သက်ဝင်ကြပါကုန်၏။ ဤအတူသာပင် အမ သတ္တဝါတို့ စားသောက်သော အစားအစာဟူသမျှသည် သားအိမ်သို့ ရောက်ကြကုန်၏။ အကြောင်း အခွင့်သင့်သော် သန္ဓေတည်ခြင်းသို့ ရောက်ကြကုန်၏'

'မင်းမြတ်၊ သုဝဏ္ဏသာမ သတို့သားနှင့် မဏ္ဍဗျ သတို့သားတို့ ဖွားမြင်ခြင်းမှာလည်း သုံးပါးသော အကြောင်းတို့တွင် အကျုံးဝင်သည်သာ ဖြစ်ပေ၏။

'မင်းမြတ်၊ ဤနေရာ၌ ဒုကူလနှင့် ပါရိကာတို့ အကြောင်းကို ဆိုပေဦးအံ့။ ဒုကူလရသေ့နှင့် ပါရိကာရသေ့မတို့လည်း တောသို့ ဝင်ပြီးလျှင် တရားကျင့်သုံး၍ နေကြကုန်၏။ နတ်တို့ကို အစိုးရသော သိကြားမင်းသည် ထိုရသေ့တို့ထံသို့ နေ့စဉ်လာ၍ ဆည်းကပ်၏။ တစ်နေ့သ၌ သိကြားမင်းသည် ထိုရသေ့တို့၏ နောင်ရေးကို မျှော်တွေးကြည့်ရာ ရသေ့နှစ်ပါးလုံး မျက်စိကွယ်ကြရမည့် အရေးကို မြင်မိ၏။ သို့ဖြစ်၍ အရှင်ရသေ့တို့၊ တပည့်တော်၏ စကားကို လိုက်နာကြကုန်လော့။ သားတစ်ယောက် ဖွားမြောက်အောင် ကြိုးစားပါကုန်လော့။ ထိုသားသည် အရှင်ရသေ့တို့၏ အလုပ်အကျွေးလည်း ဖြစ်ပါလိမ့်မည်။ လက်ကသုံး တောင်ဝှေးလည်း ဖြစ်ပါလိမ့်မည်ဟု လျှောက်ထား၏။

'ဤသို့ သုံးကြိမ်တိုင်အောင် လျှောက်ထားသော်လည်း ရသေ့များက လက်မခံကြပေ။ ဤတွင် သိကြားမင်းက အရှင်ရသေ့တို့၊ အရှင်တို့သည် တပည့်တော်၏ တိုက်တွန်းစကားကို မလိုက်နာနိုင်ကြပါလျှင် ပါရိကာ ရသေ့မ ဥတုလာပြီးသောအခါ၌ အရှင်ရသေ့က ရသေ့မ၏ ချက်ကို လက်ဖြင့် ပွတ်သပ်ပါလောဟု လျှောက်ထား၏။ ဤလျှောက်ထားချက်ကိုကား ရသေ့များ မငြင်းပယ်ကြပေ။ ဤစကားကိုကား ငါတို့လိုက်နာ နိုင်ကြပါ၏။ ဤမျှလောက်ဖြင့်ကား ငါတို့၏သီလ မပျက်ပါဟု ဒုကူလရသေ့က ဆို၏။

'ထို့နောက် သိကြားမင်းသည် နတ်ပြည်သို့ ပြန်လာပြီးလျှင် နတ်သက် ကုန်ခါနီးနေသော နတ်သားတစ်ယောက်ထံ ချဉ်းကပ်လာ၏။ ထိုနတ်သားသည် စကြဝတေးမင်းမျိုး၌ပင် ဖြစ်နိုင်လောက်သော ကုသိုလ်ကောင်းမှု ရှိပြီးသူဖြစ်၏။ သိကြားမင်းက ထိုနတ်သားအား ပါရိကာ ရသေ့မ၏ ဝမ်း၌ ပဋိသန္ဓေတည်နေပါရန် ပန်ကြား၏။ ထိုနတ်သားက ပန်ကြားချက်ကို လက်ခံလိုက်၏။ သိကြားမင်းသည် ရသေ့များထံ ပြန်လာကာ ထိုနတ်သား နတ်သက် ကုန်ဆုံးမည့်နေ့တွင် ရသေ့မ၏ချက်ကို ပွတ်သပ်ပေးရန် ဒုကူလရသေ့အား လျှောက်ထား၏။ ထိုနေ့၌ပင် ရသေ့မမှာ ဥတုလာ၍ ပြီးဆုံးသွား၏။ ဒုကူလရသေ့သည် ပါရိကာရသေ့မ၏ ချက်ကို လက်ယာလက်ဖြင့် ပွတ်သပ်ပေး၏။ ဤသို့ပွတ်သပ်ပေးသဖြင့် ရသေ့မမှာ တပ်မက်မှု ပေါ်ပေါက်လာ၏။

'မင်းမြတ်၊ မေထုန်မှု ပြုကျင့်ခြင်းကိုသာ မိဘနှစ်ဦးတို့ ပေါင်းဆုံ စပ်ယှက်ခြင်းဟု မမှတ်ယူလေလင့်။ နှစ်ဦးအတူ မြူးထူးပျော်ရွှင်စွာ စကားပြောဆိုခြင်းသည် လည်းကောင်း၊ တစ်ဦးနှင့်တစ်ဦး တစိမ့်စိမ့် ကြည့်ရှုခြင်းသည်လည်းကောင်း ရာဂ၏ ရှေ့သွားဖြစ်ခြင်းကြောင့် ပေါင်းဆုံ စပ်ယှက်ခြင်းသာ ဖြစ်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် တောက်လောင်နေသော မီးသည် မတို့မထိသော်လည်း အနားသို့ ကပ်လာသောသူအား ချမ်းအေးခြင်းကို ပယ်ဖျောက်၍ ပေးနိုင်၏။ ဤအတူသာပင် မေထုန်မှု

ကို ပြုလုပ်ကျူးလွန်ခြင်း မရှိသော်လည်း ပွတ်သပ်ကာမျှနှင့် ကိုယ်ဝန်တည်ပေ၏။

'မင်းမြတ်၊ သတ္တဝါတို့၏ ကိုယ်ဝန်တည်ခြင်းသည် အကြောင်းလေးပါးတို့ကြောင့် ဖြစ်၏။ ထိုအကြောင်း လေးပါးတို့ကား ကံ၊ ဘဝ၊ ယောနိ၊ အမျိုးစပ်နှင့် တောင့်တခြင်းတို့ ဖြစ်ကြကုန်၏။

'မင်းမြတ်၊ ကံ၏အစွမ်းကြောင့် သတ္တဝါတို့၏ ကိုယ်ဝန်တည်ပုံကား ဤသို့တည်း။ ဥပမာအားဖြင့် ပစ္စည်းဥစ္စာ ကြွယ်ဝ၍ သားချင်းမိတ်ဆွေ ပေါများသော သူသည် မိမိအလိုရှိရာ သက်ရှိသက်မဲ့ ပစ္စည်းတို့ကို တန်ဖိုးနှစ်ဆသုံးဆပေး၍ ဝယ်ယူနိုင်၏။ ဤအတူသာပင် ကုသိုလ်ကံ အရင်းခံ ရှိကုန်သော သူတို့သည် ကြွယ်ဝချမ်းသာသော မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သေဋ္ဌေးမျိုးတို့၌ ဖြစ်ကြရကုန်၏။ နတ်ပြည်၌သော်လည်းကောင်း၊ အဥ၌ ပဋိသန္ဓေတည်နေရသော အဏ္ဍဇ အမျိုး၌သော် လည်းကောင်း၊ သားအိမ်၌ ပဋိသန္ဓေ တည်နေရသော သံသေဒဇ အမျိုး၌သော် လည်းကောင်း၊ အညှိ၌ ပဋိသန္ဓေတည်နေရသော ဇလာဗုဇ အမျိုး၌သော် လည်းကောင်း၊ ရုတ်တရက်ချက်ချင်း ကိုယ်ကောင်ထင်ရှား ဖြစ်ပေါ်လာသော ဥပပတ္တိအမျိုး၌ သော် လည်းကောင်း မိမိနှစ်သက်ရာရာ အမျိုး၌ အလိုရှိတိုင်း ဖြစ်နိုင်ပေ၏။

'မင်းမြတ်၊ ဘဝယောနိ၏ အစွမ်းအားဖြင့် သတ္တဝါတို့၏ ကိုယ်ဝန်တည်ပုံကား ဤသို့တည်း။ ဥပမာအားဖြင့် လူတို့သည် အထူးထူးသော အသွင်အပြင်တို့ဖြင့် မြေပေါ်၌ သွားလာနေကြကုန်၏။ အချို့သည် ရှေ့မှာ အဝတ်ဖုံးထားကုန်၏။ အချို့သည် နောက်မှာ အဝတ်ဖုံးထားကုန်၏။ အချို့သည် ကိုယ်လုံးတီးဖြစ်ကုန်၏။ အချို့သည် ခေါင်းတုံးတုံး၍ အဝတ်ဖြူ ဝတ်ဆင်ကြကုန်၏။ အချို့သည် ခေါင်းတုံးတုံး၍ ဖန်ရည်ဆိုးသော အဝတ်ကို ဝတ်ဆင်ကြကုန်၏။ အချို့သည် ဆျောင်ထုံးကုန်၏။ အချို့သည် ဆံကျစ်ထုံးလျက် လျှော်တေသက်န်းကို ဝတ်ဆင်ကြကုန်၏။ အချို့သည် သားရေကို ဝတ်ဆင်ကြကုန်၏။ အချို့သည် ကြိုးတို့ကို ရစ်ပတ်၍ ဝတ်ဆင်ကြကုန်၏။ ဤအတူသာပင် သတ္တဝါတို့၏ ကိုယ်ဝန်သည်လည်း အမျိုးမျိုးသော ပုံသဏ္ဌာန်ဖြင့် တည်လာ၏။ ကြက်မတို့သည် လေကြောင့် ဥဥကြကုန်၏။ ဗျိုင်းအောက်မတို့သည် မိုးသံကြား၍ ဥဥကြကုန်၏။ နတ်တို့သည် အမိဝမ်း၌ မကိန်းအောင်းဘဲ ရုတ်တရက် ချက်ချင်း ကိုယ်ကောင် ထင်ရှား ဖြစ်လာကြကုန်၏။

'မင်းမြတ်၊ အမျိုးဇာတ်အားဖြင့် သတ္တဝါတို့၏ ကိုယ်ဝန်တည်ပုံကား ဤသို့တည်း။ ဟိမဝန္တာတော၌ နေရမည်သော ရွှေတောင်သည် တည်ရှိ၏။ ထိုတောင်သို့ ကပ်ရောက်လာကုန်သော သားကောင်မျိုးစုံနှင့် ကျေးငှက်သတ္တဝါမျိုးစုံတို့သည် မိမိတို့၏ ပင်ကို အလှအဆင်းရောင် ပျောက်ကာ ရွှေအဆင်းဖြင့် ဝါဝင်း ကုန်သည်ချည်း ဖြစ်ကုန်၏။ ဤအတူသာပင် အမျိုးမျိုးသော ဘုံဘဝမှ စုတေ၍ ပဋိသန္ဓေ တည်နေသောသူတို့သည် အဏ္ဍဇမျိုး၌ ဖြစ်လာလျှင်

အဏ္ဍဇမျိုးမှာ ဖြစ်ကြသော အခြားသတ္တဝါတို့ အတိုင်းသာ ဖြစ်လာရ၏။ ဇလာဗုဇမျိုးမှာ ဖြစ်လာလျှင် ဇလာဗုဇမျိုးမှာ ဖြစ်ကြသေး အခြားသတ္တဝါတို့ အတိုင်းသာ ဖြစ်လာကြရ၏။ သံသေဒဇမျိုးမှာ ဖြစ်လာလျှင် သံသေဒဇမျိုးမှာ ဖြစ်ကြသော အခြား သတ္တဝါတို့ အတိုင်းသာ ဖြစ်လာကြရ၏။ ဥပပတ္တိမျိုးမှာ ဖြစ်လာလျှင် ဥပပတ္တိမျိုးမှာ ဖြစ်ကြသော အခြားသတ္တဝါတို့ အတိုင်းသာ ဖြစ်လာရ၏။

'မင်းမြတ်၊ တောင့်တခြင်း၏ စွမ်းအားဖြင့် သတ္တဝါတို့၏ ကိုယ်ဝန်ဆောင်တည်ပုံကား ဤသို့တည်း။ ဥပမာအားဖြင့် ကုသိုလ်ကောင်းမှု ပြုလိုသော လူတို့သည် မိမိတို့ ဆွေမျိုးများ၏ အကျိုးစီးပွားကို ဆောင်ရွက်နိုင်မည့် ကြည်ညိုဖွယ်ရာ ရဟန်းတစ်ပါးကို အိမ်သို့ ပင့်ဖိတ်ကြကုန်၏။ ဤအတူသာပင် ကံ၊ ကံ၏အကျိုးတရားကို ယုံကြည်၍ ရတနာသုံးပါးကို ဆည်းကပ်သော သီလရှိသော၊ သားသမီး မရှိသော အမျိုးများ ရှိကြကုန်၏။ ထိုအမျိုးတို့ကို စောင့်ရှောက်လိုသဖြင့် သိကြားမင်းသည် စုတေခါနီးသော နတ်သားတစ်ယောက်အား ထိုအမျိုး၌ ပဋိသန္ဓေ တည်နေပါရန် တောင်းပန်၏။ သိကြားမင်း၏ တောင်းပန်မှုကြောင့် ထိုနတ်သားသည် ထိုအမျိုး၌ ပဋိသန္ဓေ တည်နေရန် တောင့်တလိုက်၏။ ဤသို့ဖြင့် ထိုနတ်သားသည် နတ်ပြည်မှ စုတေကာ ထိုအမျိုးရှိ မိခင်ဝမ်း၌ ပဋိသန္ဓေ တည်နေလာ၏။

'မင်းမြတ်၊ သုဝဏ္ဏသာမ သတို့သားသည် နတ်တို့ကို အစိုးရသော သိကြားမင်းက တောင်းပန်သဖြင့် ပါရိကာ ရသေ့မ၏ဝမ်း၌ ပဋိသန္ဓေ တည်နေလာ၏။ သုဝဏ္ဏသာမ သတို့သားသည် ကုသိုလ်ကောင်းမှု ဆည်းပူးခဲ့ပြီးသူ ဖြစ်၏။ မိခင်ဖခင် တို့သည်လည်း သီလ စင်ကြယ်ကြကုန်၏။ တောင်းပန်သော သူကလည်း သိကြားမင်းဖြစ်၏။ ဂုဏ်ထူးကိုယ်စီ ရှိကြကုန်သော ဤသူသုံးယောက်တို့၏ တောင့်တခြင်းကြောင့် သုဝဏ္ဏသာမ သတို့သား ဖွားမြင်လာပေ၏။

'မင်းမြတ်၊ ရသေ့တို့ကို ပြစ်မှားသောကြောင့် စည်ပင်ကြွယ်ဝသော မြို့ရွာနယ်ပယ်များသည် လူများနှင့်တကွ ပျက်စီးကာ တောကြီးအတိ ဖြစ်သွားကြောင်းကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏။ ဒဏ္ဍကတော၊ မဇ္ဈတော၊ ကာလိင်္ဂတောနှင့် မာတင်္ဂတောတို့ သည် ရသေ့များကို ပြစ်မှားသောကြောင့် ပျက်စီးသွားသော တောများပင် ဖြစ်ကြပေ၏'

'မင်းမြတ်၊ ဤသို့ဖြစ်လျှင် ရသေ့တို့ကို ကြည်ညိုစိတ်ကြောင့်ကော တစ်စုံတစ်ရာ ကောင်းကျိုး ချမ်းသာ ဖြစ်ပေါ်ပါမည်လော'

'အရှင်ဘုရား၊ ဖြစ်နိုင်ပေ၏'

'မင်းမြတ်၊ ဤသို့ဖြစ်လျှင် သုဝဏ္ဏသာမ သတို့သားသည် ကောင်းမှု အင်အား ကြီးမားကြကုန်သော သုံးဦးသားတို့ စိတ်ကြည်လင်မှုကြောင့် ဖြစ်ပေါ်လာရပေ၏။ သုဝဏ္ဏသာမ

သတို့သားသည် ရသေ့နှစ်ဦးတို့ ဖန်ဆင်းထားသူ၊ သိကြားမင်းက ဖန်ဆင်းထားသူ၊ ကုသိုလ်ကောင်းမှုက ဖန်ဆင်းထားသူ ဖြစ်ပေ၏။ သုဝဏ္ဏသာမ သတို့သားကဲ့သို့ပင် သိကြားမင်း တောင်းပန်၍ လူ့ပြည်၌ ပဋိသန္ဓေ တည်နေသော သူတို့ကား မဟာပနာဒမင်းနှင့် ကုသမင်းတို့ ဖြစ်ကုန်၏'

'အရှင်ဘုရား၊ အရှင်ဘုရားသည် ကိုယ်ဝန်တည်ခြင်း၏ အကြောင်းတို့ကို ကောင်းမွန်စွာ ပြဆိုတော်မူပါပြီ။ အရှင်ဘုရား မိန့်ဆိုသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ဝိနယပိဋက၊ နိဿယဂ္ဂိယပါစိတ် ပါဠိတော်နှင့် ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ သုဒ္ဒိန္နဘာဏဝါရအဖွင့်တို့တွင် အရှင်ဥဒါယီ၏ သင်္ကန်းဟောင်းကို ဖွပ်လျှော်သူမှာ သူ၏ မယားဟောင်း ဘိက္ခုနီမဖြစ်ကြောင်း ဖော်ပြထား၏။ ဧကနိပါတ်၊ နိဂြောဓမိဂဇာတ်၏ ပစ္စုပ္ပန်ဝတ္ထုနှင့် ထေရဂါထာ အဋ္ဌကထာ၊ ကုမာရကဿပတ္ထေရဂါထာ အဖွင့်တို့တွင် အရှင် ကုမာရကဿပ၏ မယ်တော် ဘိက္ခုနီမှာ လူ့ဘဝတုန်းက ကိုယ်ဝန်ရလာခဲ့ပုံ၊ ကိုယ်ဝန်ရှိမှန်း မသိဘဲ ရဟန်းပြုခဲ့ပုံ၊ ကိုယ်ဝန် ရင့်လာသောအခါ ဒေဝဒတ်က အတင်းလူထွက်ခိုင်းသဖြင့် ဘုရားရှင်ထံသို့ လာခဲ့ပုံ၊ ဘုရားရှင်က အရှင်ဥပါလိနှင့် ဝိသာခါ ကျောင်းအမကြီးတို့အား အမှုမှန် ပေါ်လွင်ထင်ရှားလာစေရန် စေခိုင်းတော်မူပုံများ ပါရှိပါ၏။ ပညာရှင်ကြီးများ သင့်လျော်ရာယူကြရန် ဖြစ်ပါသည်။

ထို့ပြင် ပါရာဇိကကဏ္ဍအဋ္ဌကထာ၊ သုဒ္ဒိန္နဘာဏဝါရမှာပင် ဤပြဿနာမှာ ပြဆိုထားသော ကိုယ်ဝန်တည်ပုံများ အပါအဝင် ကိုယ်ဝန်တည်ပုံ ရှစ်မျိုးကို ပြဆိုထားပေ၏။ ထိုရှစ်မျိုးကား ၁။ ကိုယ်လက်နီးနှောခြင်း ၂။ အဝတ်စကို ဆောင်ယူခြင်း ၃။ သုက်ရည်ကို သောက်မျိုခြင်း ၄။ ချက်ကိုပွတ်သပ်ခြင်း ၅။ အဆင်းကိုမြင်ခြင်း ၆။ အသံကို ကြားခြင်း ၇။ အနံ့ကိုရှုရခြင်းနှင့် မေထုန်မှုတို့ ဖြစ်ကြ၏။

(၁) ကိုယ်လက် နီးနှောခြင်းကြောင့် ကိုယ်ဝန်တည်ပုံမှာ ဥတုလာဆဲ၊ လာပြီးစအခါများတွင် မိန်းမတို့သည် သာယာတပ်မက်မှု အားကြီးကြသဖြင့် ယောကျ်ားတို့က လက်ကိုဆုပ်ကိုင်ခြင်း၊ ဆံထုံးကို ဆုပ်ကိုင်ခြင်း၊ အင်္ဂါကြီးငယ်ကို ကိုင်တွယ် ပွတ်သပ်ခြင်းကို သာယာကြ၏။ ဤသို့ သာယာခြင်းဖြင့်ပင် ကိုယ်ဝန်ကို ရရှိကြကုန်၏။

(၂) အဝတ်စကို ဆောင်ယူခြင်းကြောင့် ကိုယ်ဝန်တည်ပုံကား ဤပြဿနာမှာ ဖော်ပြထားသည့်အတိုင်း ဖြစ်၏။ သင်္ကန်းဟောင်းကို ဖွပ်လျှော်သူမှာ အရှင်ဥဒါယီ၏ မယားဟောင်းဖြစ်ကြောင်း ဖော်ပြထားပုံသာ ကွာခြား၏။

(၃) (၄) သုက်ရည်သောက်ခြင်းနှင့် ချက်ကို ပွတ်သပ်ခြင်းတို့ကြောင့် ကိုယ်ဝန်တည်ပုံတို့မှာ ဤပြဿနာမှာ ဖော်ပြထားသည့်အတိုင်း ဖြစ်ကြ၏။

(၅) အဆင်းကို မြင်ခြင်းကြောင့် ကိုယ်ဝန်တည်ပုံကား မင်းမောင်းမတို့ကဲ့သို့ အိမ်တွင်းပုန်း မိန်းမတို့သည် ယောကျ်ားတစ်ယောက်ယောက်ကို တွေ့ရသောအခါ သာယာတပ်မက်စွာ တစိမ့်စိမ့် ကြည့်ကြကုန်၏။ ဤသို့ကြည့်ခြင်းဖြင့်ပင် ကိုယ်ဝန်ရလာကြ၏။

(၆) အသံကြား၍ ကိုယ်ဝန်တည်ပုံမှာ ဤပြဿနာတွင် ဖော်ပြထားသည့်အတိုင်း ဖြစ်၏။

(၇) အနံ့ကိုရှူရ၍ ကိုယ်ဝန်တည်ပုံကား နွားမတို့သည် တစ်ခါတစ်ရံ နွားထီး၏အနံ့ကို ရှူရှိုက်ရခြင်းဖြင့် ကိုယ်ဝန်ရရှိကြကုန်၏။

(၈) မေထုန်မှုကြောင့် ကိုယ်ဝန် တည်ပုံကား ထင်ရှားပေ၏။

## ၇။ သာသနာ ဘယ်ဒါ ကွယ်မည်နည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် အာနန္ဒာ၊ ယခုအခါ သာသနာသည် နှစ်ပေါင်းငါးရာမျှသာ တည်လတ္တံ့ဟု ဟောကြားတော် မူခဲ့၏။ ထိုမှတစ်ဖန် ပရိနိဗ္ဗာန် စံတော်မူခါနီးအချိန်၌ သုဘဒ္ဒပရိဗိုဇ်က သူသိလိုရာ မေးလျှောက် လာသောအခါ သုဘဒ္ဒ၊ ဤရဟန်းတို့သည် ကောင်းမွန်စွာ နေထိုင်ကျင့်သုံးကြကုန်ငြားအံ့။ လောကသည် ရဟန္တာတို့မှ မဆိတ်သုဉ်းပေရာဟု မိန့်ကြားတော် မူခဲ့ပြန်ပါ၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားက မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသာ မှန်ခဲ့ငြားအံ့။ ရှေးစကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ အာနန္ဒာ၊ ယခုအခါ သာသနာသည် နှစ်ပေါင်းငါးရာမျှသာ တည်လတ္တံ့ဟူသော စကားသည်လည်း မှန်၏။ သုဘဒ္ဒ၊ ဤရဟန်းတို့သည် ကောင်းမွန်စွာ နေထိုင် ကျင့်သုံးကြကုန်ငြားအံ့။ လောကသည် ရဟန္တာတို့မှ မဆိတ်သုဉ်းပေရာ ဟူသော စကားသည်လည်း မှန်၏။ ထိုစကား နှစ်ရပ်တို့ကား အနက်ရော သဒ္ဒါပါ ကွာခြားကြကုန်၏။ ရှေ့စကားသည် သာသနာတော် နှစ်ကို ပိုင်းခြား၍ ပြသော စကားဖြစ်၏။ နောက်စကားကား ပဋိပတ်၏ စွမ်းအင်ကို ဖော်ပြသော စကားဖြစ်၏။ စကားနှစ်ရပ်တို့သည် ကောင်းကင်နှင့် မြေကြီးပမာ၊ နတ်ပြည်နှင့် ငရဲပမာ၊ ကုသိုလ်နှင့်အကုသိုလ်ပမာ၊ ချမ်းသာခြင်းနှင့် ဆင်းရဲခြင်းပမာ အလွန်တရာ ကွာခြား ကြပေကုန်၏။

'မင်းမြတ်၊ ရှေ့စကားသည် ကုန်ဆုံး လျော့ပါး သွားပြီးသော သာသနာကို ဖော်ပြပြီးမှ ကြွင်းကျန်ဦးမည့် သာသနာကို ဖော်ပြခြင်းဖြစ်၏။ ဥပမာအားဖြင့် ဥစ္စာပျောက်သော ယောကျ်ား တစ်ယောက်သည် ကြွင်းကျန်ရစ်သော ဥစ္စာများကို ယုတ်ယူလာကာ ငါ့မှာ ဤမျှလောက်သော ဥစ္စာများ ပျောက်ဆုံးကုန်၏။ ဤဥစ္စာမျှသာ ကျန်တော့၏ဟု ပြောဆိုရာ၏။ ဤအတူပင် အာနန္ဒာ၊ ဘိက္ခုနီတို့သည် အကယ်၍ သာသနာတော်၌ ရဟန်းမပြုကြကုန်ငြားအံ့။

သာသနာတော်သည် နှစ်တစ်ထောင်တိုင်တိုင် တည်လေရာ၏။ ယခုမူကား ဘိက္ခုနီတို့ ရဟန်းပြုလာကြသဖြင့် နှစ်ပေါင်း ငါးရာမျှသာ တည်လတ္တံ့ဟု ပိုင်းခြား၍ ပြတော်မူ၏။ ဤသို့ ဟောကြားတော်မူခြင်းဖြင့် ဘုရားရှင်သည် သာသနာတော်ကြီး ကွယ်ပမည့် အရေးကို ဟောကြားတော်မူပါသလော။ သစ္စာလေးပါး သိမြင်ရေးကို တားမြစ်တော် မူပါသလော'

'အရှင်ဘုရား၊ ထိုသို့မဟုတ်ပေ'

'မင်းမြတ်၊ နောက်စကားသည်ကား ပဋိပတ်၏ စွမ်းအင်ကို ဖော်ပြသော စကားဖြစ်၏။ ဥပမာအားဖြင့် ထက်ဝန်းကျင်မှ ကန်ပေါင်ကို အခိုင်အမာ ဖို့ထားသော ကန်ကြီးထဲတွင် ရေအပြည့်ရှိနေရာ၏။ ထိုရေမကုန်ခန်းမီမှာပင် ကန်ပေါ်သို့ မကြာခဏ မိုးကြီးသည်းစွာ ရွာချရာ၏။ ဤသို့ဆိုလျှင် ထိုကန်ရေသည် လျော့ပါး ပါဦးမည်လော။ ခန်းခြောက်ပါဦးမည်လော'

'အရှင်ဘုရား၊ မလျော့ပါးနိုင်ပါ။ မခန်းခြောက်နိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်၏ သာသနာတော်ကို ဖြူစင်မြင့်မြတ်လှစွာသော ကျင့်သုံးမှုတို့ဖြင့် ဆရာစဉ်ဆက် မပျက်မကွက် ဆက်ကာဆက်ကာ ပြုစုသွားကြပါလျှင် လောကကြီး တစ်ခုလုံးတွင် ရဟန္တာများ ဆိတ်သုဉ်းသွားသောအခါ ဟူ၍ မရှိလာပေရာ။ ဤသာသနာတော် မကွယ်မပျောက်ပေရာ။ ဤအကြောင်းကို ရည်ရွယ်၍ နောက်စကားကို ဘုရားရှင် မိန့်ကြားတော်မူပေ၏'

'အရှင်ဘုရား၊ ဤသာသနာတော် ကွယ်ပျောက်ခြင်းတို့သည်ကား အဘယ်ပါနည်း'

'မင်းမြတ်၊ အဓိဂမဟူသော မဂ်ဖိုလ်ရမှု ကွယ်ပျောက်ခြင်း၊ ပဋိပတ္တိဟူသော ကျင့်သုံးပွားများမှု ကွယ်ပျောက်ခြင်း၊ လိင်္ဂဟူသော ရဟန်းအသွင် ကွယ်ပျောက်ခြင်းတို့ပေတည်း။ ထိုသုံးပါးတို့တွင် အဓိဂမ ကွယ်ပျောက်သော် တရားတော်အတိုင်း ကောင်းစွာ ကျင့်သုံးပွားများသော်လည်း မဂ်ဖိုလ်မရနိုင်တော့ချေ။ ပဋိပတ္တိ ကွယ်ပျောက်သော် ရဟန်းအသွင် ရှိနေသေးသော်လည်း ကျင့်ဝတ်သိက္ခာပုဒ်များ ကွယ်ပျောက်ကြကုန်၏။ လိင်္ဂ ဟူသော ရဟန်းအသွင် ကွယ်ပျောက်သော်ကား သာသနာတော်ကြီး တစ်ခုလုံး ကွယ်ပျောက် ပြတ်စဲလေတော့၏'

'အရှင်ဘုရား၊ အရှင်ဘုရားသည် ပြဿနာကို ကောင်းစွာ ဖြေရှင်းတော်မူပါပေ၏'

[ မဟာပရိနိဗ္ဗာန်သုတ် အဋ္ဌကထာ၌ အဂ္ဂဋ္ဌာန် လေးယောက်၊ ဖလဋ္ဌာန် လေးယောက်တို့နှင့်တကွ မဂ်လေးတန်ရရှိရေးအတွက် ကမ္မဋ္ဌာန်းစီးဖြန်းနေကြသော ပုဂ္ဂိုလ်လေးယောက်အားဖြင့် ၁၂ယောက်သော ဤပုဂ္ဂိုလ်တို့သည် မိမိတို့ ရောက်ရှိနေသော အဆင့်သို့ အခြားသူများလည်း ရောက်ရှိလာစေရန် ဟောကြား ပြသနိုင်ကြပါလျှင် ဤကမ္ဘာ၌ ရဟန္တာ မဆိတ်သုဉ်းနိုင်ပုံကို ဖွင့်ပြထားပေ၏။

ကျမ်းရင်း၌ သာသနာတော်စဉ်ဆက်မပြတ် တည်နေပုံကို မီးပုံကြီးထဲ၌ မီးစာအသစ်များ ထပ်ကာထပ်ကာ ထည့်ပေးပုံဖြင့် လည်းကောင်း၊ ကြေးမုံပြင်ကို ထပ်ကာထပ်ကာ ပွတ်တိုက်ပေးပုံဖြင့် လည်းကောင်း ဥပမာပြုသေး၏။]

## ၈။ ဘုရားရှင်မှာ အကုသိုလ် ကြွင်းကျန်သေးသလော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် သဗ္ဗညုဘုရား အဖြစ်သို့ ရောက်တော်မူရာကွင် အကုသိုလ် အားလုံးကို ကုန်ခန်းစေ၊ လောင်ကျွမ်းစေပါသလော။ သို့မဟုတ် အကုသိုလ် အကြွင်းအကျန် ရှိပါသေးသလော'

'မင်းမြတ်၊ ဘုရားရှင်သည် အကုသိုလ်အားလုံးကို ကုန်ခန်းစေ၊ လောင်ကျွမ်းစေ၍ သဗ္ဗညုဘုရား အဖြစ်သို့ ရောက်တော်မူ၏။ အကုသိုလ် အကြွင်းအကျန် မရှိတော့ချေ။

'အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် ဘုရားရှင်အား ဒုက္ခဝေဒနာတို့ ဖြစ်ဖူးပါ၏လော'

'မင်းမြတ်၊ ဖြစ်ဖူးပေ၏။ ရာဇဂြိုဟ်မြို့တော်မှာ သီတင်းသုံးတော်မူ၍ ဂိဇ္ဈကုဋ်တောင်ခြေရင်း၌ စကြံ ကြွတော်မူစဉ် ခြေတော်ကို ကျောက်ချပ်လွှာ ထိမှန်၍ သွေးစိမ်းရှင်ရှင် ကျတော်မူခဲ့ရ၏။ ဝမ်းသွေးသွန်သော ရောဂါလည်း ဖြစ်ခဲ့ဖူး၏။ ကိုယ်တော်တွင်စမြင်းဒေါသတို့ ခုခံနေသဖြင့် ဆရာဇီဝကက ဝမ်းဆေးများ ဆက်ကပ်ရ၏။ လေနာရောဂါ ခံစားတော်မူရစဉ်က အလုပ်အကျွေး ဖြစ်သော အရှင် ဥပဝါနသည် ရေနွေးနှင့် တင်လဲကို အလှူခံ၍ ဆက်ကပ်ခဲ့ရ၏'

'အရှင်ဘုရား၊ အရှင်ဘုရား မိန့်ကြားခဲ့သော စကားနှစ်မျိုးတို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ ဝေဒနာအားလုံးကို ကံကြောင့်သာလျှင် ခံစားရကုန်၏။ အစွန်း နှစ်ဖက်ထွက်သော ဉာဏ်ပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဉာဏ်ပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ ဝေဒနာအားလုံးကို ကံတစ်ခုတည်းကြောင့်သာ ခံစားရသည် မဟုတ်ချေ။ ဝေဒနာခံစားမှုတို့သည် အကြောင်းရှစ်ပါးတို့ကြောင့် ဖြစ်ကုန်၏။ ဝေဒနာခံစားမှုတို့သည် လေကြောင့်သော် လည်းကောင်း၊ သည်းခြေကြောင့်သော် လည်းကောင်း၊ သလိပ်ကြောင့်သော် လည်းကောင်း၊ လေသည်းခြေ သလိပ်သုံးပါးတို့ ပေါင်းဆုံမှု သန္နိပါတ်ကြောင့်သော် လည်းကောင်း၊ ဥတုဖောက်ပြန်ခြင်းကြောင့်သော် လည်းကောင်း၊ မသင့်တင့်သော အစားအသောက်ကြောင့်သော် လည်းကောင်း၊ တစ်စုံတစ်ခုသော လုံ့လ ပယောဂကြောင့်သော် လည်းကောင်း ဖြစ်ပေါ်လာကုန်၏။

ဤသို့ အကြောင်းရှစ်ပါး ထင်ရှား ရှိနေပါလျက် သတ္တဝါတို့ကို ကံကသာလျှင် ညှဉ်းဆဲကုန်၏ဟု ဆိုကုန်သော သူတို့သည် အခြားအကြောင်း ခုနစ်ပါးတို့ကို ငြင်းပယ်ကြကုန်၏'

'အရှင်ဘုရား၊ အခြားအကြောင်း ခုနစ်မျိုးကြောင့် ဖြစ်ပေါ်လာသော အနာရောဂါတို့သည် ကံကြောင့်သာလျှင် ဖြစ်ပေါ်ကြရကုန်၏'

'မင်းမြတ်၊ အနာရောဂါ အားလုံးတို့သည် ကံတစ်ခုတည်းကြောင့်သာ အကယ်၍ ဖြစ်ကုန်ငြားအံ့။ ထိုအနာရောဂါတို့၏ သီးခြား လက္ခဏာတို့ မပေါ်ပေါက်လာကြပေရာ။ အအေး၊ အပူ၊ ဆာလောင်ခြင်း၊ ရေငတ်ခြင်း၊ အစားလွန်ခြင်း၊ အထိုင်အရပ်များခြင်း၊ အလုပ် ပင်ပန်းခြင်း၊ အပြေးအလွှား များလွန်းခြင်း၊ လုံ့လပယောဂ လွန်ကဲခြင်းနှင့် ကံဟူသော အကြောင်းဆယ်ပါးတို့ကြောင့် လေပျက်၏။ ထိုအကြောင်း ဆယ်ပါးတို့တွင် ရှေ့အကြောင်း ကိုးပါးတို့သည် ယခုပစ္စုပ္ပန်ဘဝ၌သာ ဖြစ်ကုန်၏။ ထို့ကြောင့် ကံတစ်ခုတည်းကြောင့်သာ ဝေဒနာ ခံစားမှု အားလုံးဖြစ်ရသည်ဟု မဆိုသင့်ချေ။

'မင်းမြတ်၊ အအေး၊ အပူ၊ မသင့်တင့်သော အစားအစာဟူသော အကြောင်းသုံးပါးတို့ကြောင့် သည်းခြေပျက်၏။ သလိပ်လည်းပျက်၏။ လေ၊ သည်းခြေ၊ သလိပ်တို့သည် ထိုအကြောင်းတို့ကြောင့် ပျက်ဆီးကြပြီးလျှင် ပျက်ဆီးခြင်းသုံးမျိုး ပေါင်းစုံ၍ ရောဂါဝေဒနာ တိုးပွားအောင် ဆွဲဆောင်ကြကုန်၏။ ဤသို့အားဖြင့် ရှေးကံသက်သက်ကြောင့်ဖြစ်သော ရောဂါဝေဒနာသည် နည်း၏။ အခြားအကြောင်းတို့ကြောင့် ဖြစ်သော ရောဂါဝေဒနာတို့သာလျှင် များပြားကုန်၏။ ဤသို့များပြားပါလျက် ရောဂါဝေဒနာအားလုံးသည် ရှေးကံကြောင့်သာလျှင် ဖြစ်ရကုန်၏ဟု သူမိုက်တို့က အယူသည်းကြကုန်၏။ ဘုရားရှင် သဗ္ဗညုတဉာဏ်တော်နှင့်ကင်း၍ မည်သူမျှ ထိုကံကို ပိုင်းခြားဝေဖန်ရန် မစွမ်းနိုင်ချေ။

'မင်းမြတ်၊ ခြေတော်ကို ကျောက်ချပ် ခိုက်မိ၍ ဘုရားရှင်ခံစားရသော ဝေဒနာသည် လေ၊ သည်းခြေစသော အကြောင်းတို့ကြောင့် မဟုတ်ချေ။ လုံ့လပယောဂဟူသော အကြောင်းကြောင့်သာ ဖြစ်၏။ ဘဝသိန်းပေါင်းများစွာက ဘုရားရှင်အပေါ် ရန်ငြိုးထားခဲ့သော ဒေဝဒတ်၏ လုံ့လပယောဂကြောင့်သာ ဖြစ်ပေါ်လာရ၏။ ဒေဝဒတ်သည် ဂိဇ္ဈကုဋ်တောင်ပေါ်မှ ကျောက်မောင်းဆင်၍ ကြီးမားလှသော ကျောက်တုံးကြီးကို ဘုရားရှင်ခေါင်းပေါ် ကျသွားစေရန် လိမ့်ချလိုက်၏။ အရှိန်အဟုန်ပြင်းစွာ လိမ့်ဆင်းလာသော ကျောက်တုံးကြီး ဘုရားရှင်ထံ မရောက်သေးမီတွင် ကျောက်ဆောင်နှစ်ခုတို့က ကျောက်တုံးကြီးကို ဆီး၍ ထိန်းထားလိုက်ကြ၏။ အတိုက်အခံ ကျောက်တုံးနှစ်ခုတို့ ထိခိုက်ကြရာမှ ကွဲထွက်လာသော ကျောက်ချပ်လွှာတစ်ခုသည် ဘုရားရှင်၏ ခြေတော်ကို ထိမှန်သဖြင့် သွေးစိမ်းရှင်ရှင် စီးယိုခဲ့ရ၏။

'မင်းမြတ်၊ စင်စစ်အားဖြင့် ဘုရားရှင်အား ကံကြောင့် ဖြစ်ပေါ်သော ဝေဒနာလည်း မရှိချေ။ မသင့်တင့်သော အစားအစာကြောင့် ဖြစ်ပေါ်သော ဝေဒနာလည်း မရှိချေ။ ကြွင်းကျန်သော အကြောင်း ခြောက်မျိုးတို့ကြောင့် ဘုရားရှင်အား ဝေဒနာဖြစ်ပေါ်ရ၏။ အကြောင်းခြောက်ပါးကြောင့် ဖြစ်ပေါ်လာသော ထိုဝေဒနာသည်လည်း ဘုရားရှင်၏ အသက်အန္တရာယ်ကို မပြုနိုင်ချေ။ မင်းမြတ်၊ မဟာဘုတ်လေးပါး အရင်းခံရှိသော ဤခန္ဓာကိုယ်၌ ကောင်းကောင်းဆိုးဆိုး ဝေဒနာ အမျိုးမျိုးတို့ ကျရောက်တတ်သည်သာ ဖြစ်ပေ၏။

'မင်းမြတ်၊ ကောင်းကင်၌ ပစ်မြှောက်လိုက်သော ခဲသည် မြေကြီးပေါ်သို့ ပြန်ကျလာ၏။ ထိုခဲ ကျရခြင်းမှာ မြေကြီး၏ ရှေးကပြုခဲ့သော ကံကြောင့် ဖြစ်ပါသလော'

'အရှင်ဘုရား၊ မဟုတ်ပါ။ မြေကြီးသည် ကုသိုလ်ကံ၊ အကုသိုလ်ကံကို မပြုလုပ်နိုင်ပါ။ ရှေးကံဟောင်းကြောင့် မဟုတ်ဘဲ ပစ္စုပ္ပန် ပစ်မြှောက်လိုက်သော ပယောဂကြောင့်သာ ကျလာ ရပေသည်'

'မင်းမြတ်၊ ဤလောက၌ လူတို့သည် မြေကြီးကို တူးကြ ဆွကြကုန်၏။ ဤသို့ အတူးအဆွ ခံရခြင်းမှာ မြေကြီးက ရှေးကပြုခဲ့ဖူးသော ကံကြောင့် ဖြစ်ပါသလော'

'အရှင်ဘုရား၊ မဟုတ်ပါ။ မြေကြီးသည် ကုသိုလ်ကံ၊ အကုသိုလ်ကံကို မပြုလုပ်တတ်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဂိဇ္ဈကုဋ်တောင်မှ ကျောက်ချပ်လွှာသည် ရှေးကံကြောင့် မဟုတ်ဘဲ ဒေဝဒတ်၏ ပယောဂကြောင့်သာ ကျလာရပေ၏။ ဘုရားရှင်၏ ဝမ်းသွေးသွန်သော ရောဂါသည်လည်း ရှေးကံကြောင့် ဖြစ်ပေါ်လာသည် မဟုတ်ချေ။ သွေး၊ သည်းခြေ၊ သလိပ် သုံးပါးစုံတို့ ပျက်စီးသော သန္နိပါတ်ကြောင့်သာ ဖြစ်ပေါ်လာပေ၏။

'မင်းမြတ်၊ နတ်တကာတို့ထက် မြင့်မြတ်၍ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် သံယုတ္တနိကာယ်၌ မောဠိယသီဝက၏ အမေးကို ဖြေကြားရာ၌ ဤသို့ ဟောကြားတော် မူခဲ့၏။

'သီဝက၊ ဤလောက၌ သည်းခြေ၊ သလိပ်စသော ရှစ်ပါးသောအကြောင်းတို့ကြောင့် ဖြစ်ကုန်သော အချို့သော ရောဂါဝေဒနာတို့ ရှိကြကုန်၏။ ဤသို့သော အကြောင်းကို ရောဂါရှင် ကိုယ်တိုင်လည်း သိနိုင်၏။ သည်းခြေကြောင့် ဖြစ်လာပုံကို လူအပေါင်းကလည်း မှန်ကန်ကြောင်း ထောက်ခံကြ၏။ ဤသို့ ဖြစ်ပါလျက် အချို့သော သမဏ၊ ဗြာဟ္မဏတို့သည် သုခ ဒုက္ခ ခံစားရလေသမျှကို ရှေးကံကြောင့်သာ ဖြစ်၏ဟု ဆိုလေ့ ယူလေ့ရှိကြကုန်၏။ ထိုသမဏ၊ ဗြာဟ္မဏတို့သည် ကိုယ်တိုင်သိနိုင်သော အရာကိုလည်း ကျော်လွန်ကြကုန်၏။ လူအပေါင်းက မှန်ကန်သည်ဟု ထောက်ခံထားသော အရာကိုလည်း ကျော်လွန်ကြကုန်၏။ ထို့ကြောင့် သမဏ၊ ဗြာဟ္မဏတို့၏ စကားကို အမှားဟု ငါဘုရားမိန့်ကြား၏'

'မင်းမြတ်၊ ဤဒေဿနာတော်နှင့်အညီ ဝေဒနာခံစားမှုအားလုံးသည် ရှေးကံတစ်ခုတည်း ကြောင့် မဟုတ်ချေ။ ဘုရားရှင်သည် အကုသိုလ်ကံအားလုံးကို ကုန်ခန်းစေ၊ လောင်ကျွမ်းစေ၍ ဘုရားအဖြစ်သို့ ရောက်တော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အရှင်ဘုရား ဖြေကြားသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ မိလိန္ဒမင်း၏ ရှေ့ပိုင်းက အာဘောမှာ ဘုရားရှင်၌ အကုသိုလ်များ ကြွင်းကျန်နေသေးသော ကြောင့်သာ ဒုက္ခဝေဒနာများ ခံစားရပေသလော ဟု ဟူ၍ ဖြစ်၏။ အမှန်အားဖြင့် ဘုရားရှင် ဒုက္ခဝေဒနာ ခံစားတော်မူရခြင်းမှာ အကုသိုလ်ကြွင်းကျန်သောကြောင့် မဟုတ်ပေ။ ခန္ဓာရုပ်နာမ် ကြွင်းကျန်နေသေးသောကြောင့်သာ ဖြစ်၏။ သို့ရာတွင် ပြောရင်းဆိုရင်း စကားလမ်းကြောင်း ပြောင်းသွားကာ ဝေဒနာခံစားမှု ဟူသမျှ ရှေးကံကြောင့်သာ ဖြစ်ရကြောင်း လျှောက်ထားသဖြင့် အရှင်နာဂသေနက ရှေးကံတစ်ခုတည်းကြောင့် မဟုတ်ပုံကို အကျယ်တဝင့် ဖြေဆိုရပေ၏။

ကျမ်းရင်း၌ အရှင်နာဂသေန၏ ဖြေကြားချက်ထဲတွင် လယ်မြေညံ့ဖျင်းခြင်း၊ မျိုးစေ့ညံ့ဖျင်းခြင်း နှစ်မျိုးကြောင့် စပါးထွက်မကောင်းရသကဲ့သို့ ဘုရားရှင်၏ ခြေတော်၌ ကျောက်ချပ်လွှာကျကာ ဒုက္ခ ဝေဒနာခံစားရခြင်းမှာလည်း ရှေးကံနှင့် ပစ္စုပ္ပန် ပယောဂဟူသော အကြောင်းနှစ်ပါးကြောင့် ဖြစ်ရပုံ ပါရှိ၏။ ထိုစကားမှာ နောက်နားက ဆက်လက်ပါလာသော စကားများနှင့် မေဠိယသိဝက သုတ်လာ စကားရပ်များနှင့် ဆန့်ကျင်ဘိသကဲ့သို့ ရှိပေ၏။]

## ၉။ ဘုရားရှင်မှာ ဆက်လက်ပွားများဖွယ် ရှိသေးသလော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်အား ပြုဖွယ်ကိစ္စအားလုံးသည် ဗောဓိပင်ရင်း၌ပင်လျှင် ပြီးဆုံးခဲ့၏။ ဘုရားရှင်အား ထို့ထက်ပို၍ ပြုဖွယ်ကိစ္စမရှိတော့ပြီ။ ပြုအပ်ပြီးသည်ကိုလည်း နောက်ထပ်တစ်ဖန် ပွားများရန် မရှိပေ။ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထို့မှတစ်ဖန် ဘုရားရှင်သည် သုံးလပတ်လုံး တစ်ပါးတည်း ကိန်းအောင်းတော် မူသည်ဟုလည်း မိန့်ဆိုတော် မူကြ၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ ဥပမာအားဖြင့် အနာရောဂါ ကပ်ရောက်နေသော သူမှာသာလျှင် ဆေးကုရန် ကိစ္စရှိ၏။ အနာ ရောဂါ မကာမ်ရောက်သောသူအား အဘယ်မှာ ဆေးကုရန်ကိစ္စ ရှိပါမည်နည်း။ ဤအတူသာပင် ပြုဖွယ်ကိစ္စမရှိတော့သူအား တစ်ပါးတည်းကိန်းအောင်းခြင်း မရှိသင့်ပါ။ ပြုဖွယ်ကိစ္စ ရှိသူအားသာ လျှင် တစ်ပါးတည်း ကိန်းအောင်းခြင်းအမှု ရှိသင့်ပေ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဥဘတောကောဋိကပြဿနာသည် အရှင်ဘုရားထံသို့ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော'

'မင်းမြတ်၊ ဘုရားရှင်မှာ ပြုဖွယ် ကိစ္စ မရှိတော့သော်လည်း သုံးလပတ်လုံး တစ်ပါးတည်း ကိန်းအောင်းတော်မူခဲ့၏။ ထိုသို့ တစ်ပါးတည်း ကိန်းအောင်းတော်မူခြင်းသည် ကျေးဇူးဂုဏ် ကြီးမားလှပေ၏။ မင်းမြတ်၊ ဥပမာအားဖြင့် အနာရောဂါ ကြီးကျယ်စွာ ခံစားနေရသော ယောကျ်ားတစ်ယောက်သည် မိမိအား ရောဂါပျောက်အောင် ဆေးကုသပေးသော ဆေးဆရာကြီး၏ ဂုဏ်ကျေးဇူးကို ထူးထူးကဲကဲ အောက်မေ့ကာ ထိုဆေး ဆရာကြီးထံသို့ ထပ်ကာထပ်ကာ ဆည်းကပ်ရာ၏။ ဤအတူသာပင် အလုံးစုံသော ဘုရားရှင်တို့သည် တစ်ပါးတည်း ကိန်းအောင်း၍ သဗ္ဗညုတဉာဏ်တော် ရတော်မူကြကုန်၏။ ထို ဘုရားရှင်တို့သည် ထိုဂုဏ်ကျေးဇူးကို ထူးထူး ကဲကဲ အောက်မေ့ကာ တစ်ပါးတည်း နေထိုင်ခြင်းကို ထပ်ကာထပ်ကာ မှီဝဲတော်မူကြကုန်၏။

'မင်းမြတ်၊ တစ်ပါးတည်း ကိန်းအောင်းခြင်း၏ အကျိုးကျေးဇူးတို့သည် နှစ်ဆယ့်ရှစ်ပါး ရှိကုန်၏။ ထို နှစ်ဆယ့်ရှစ်ပါးတို့ကား တစ်ပါးတည်း ကိန်းအောင်းခြင်းဖြင့် မိမိကိုယ်ကို စောင့်ရှောက်နိုင်၏။ အသက်ရှည်၏။ ကိုယ်အား ဉာဏ်အား ကြီးမား၏။ အပြစ်ဒေါသကို ပိတ်ပင်တားမြစ်နိုင်၏။ မကောင်းသတင်းကို ပယ်နိုင်၏။ ကောင်းသတင်း ကျော်စော၏။ မမွေ့လျော်ခြင်းကို ပယ်ဖျောက်နိုင်၏။ မွေ့လျော်ခြင်းကို ဖြစ်စေ၏။ ကြောက်လန့်ခြင်းကို ပယ်ဖျောက်နိုင်၏။ ရဲရင့်ခြင်းကို ဖြစ်စေနိုင်၏။ ပျင်းရိခြင်းကို ပယ်ဖျောက်နိုင်၏။ ဖွဲလုံ့လကို ဖြစ်စေနိုင်၏။ ရာဂကို ပယ်နိုင်၏။ ဒေါသကို ပယ်နိုင်၏။ မောဟကို ပယ်နိုင်၏။ မာနကို ချိုးနှိမ်နိုင်၏။ ဝိတက်ကို ချိုးဖျက်နိုင်၏။ စိတ်ကို တည်ကြည်အောင် ပြုနိုင်၏။ စိတ်ကို ပျော့ပျောင်းစေနိုင်၏။ စိတ်ကို ကြည်လင် ရွှင်လန်းစေနိုင်၏။ စိတ်ကို လေးလေးမြတ်မြတ် ဖြစ်စေနိုင်၏။ လာဘ်ပေါ်များ၏။ ရှိခိုးခံ ထိုက်သူ ဖြစ်စေနိုင်၏။ နှစ်သက်စေနိုင်၏။ ဝမ်းမြောက်ခြင်းကို ပြုနိုင်၏။ သင်္ခါရတို့၏ သဘောလက္ခဏာကို သိမြင်စေနိုင်၏။ ဘဝတို့ကို ဆက်စပ်ပေးသော ပဋိသန္ဓေကို ခွဲဖြတ်နိုင်၏။ အလုံးစုံသော ငြိမ်းအေးခြင်းကို ပေးနိုင်၏။ ဤကား တစ်ပါးတည်း ကိန်းအောင်းခြင်း၏ အကျိုးပေတည်း။

'မင်းမြတ်၊ ဖလသမာပတ် ဝင်စား၍ ချမ်းသာစွာ နေထိုင်ရသောကြောင့် လည်းကောင်း၊ အပြစ်မရှိသော ဂုဏ်ကျေးဇူးများ ရှိသောကြောင့် လည်းကောင်း၊ အလုံးစုံသော ဘုရားရှင်တို့သည် ချီးမွမ်းအပ်သောကြောင့် လည်းကောင်း၊ ဤလေးပါးသော အကြောင်းတို့ဖြင့် ဘုရားရှင်တို့သည် တစ်ပါးတည်း ကိန်းအောင်းတော် မူကုန်၏။ ပြုဖွယ်ကိစ္စရှိနေသောကြောင့် လည်းကောင်း၊ ပြုလုပ်ပြီးသည်ကို နောက်ထပ်တစ်ဖန် ပွားများရန် လိုနေသေးသောကြောင့် လည်းကောင်း ကိန်းအောင်းမူ ပြုတော် မမူကြပေ။ ကျေးဇူးဂုဏ်ကို အောက်မေ့ သိမြင်တော်မူကြ၍သာ တစ်ပါးတည်း ကိန်းအောင်းတော် မူကြပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အရှင်ဘုရား ဖြေကြားသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ ကျမ်းရင်း၌ ဘုရားရှင်တို့ ထပ်ကာထပ်ကာ တစ်ပါးတည်း ကိန်းအောင်းခြင်းကို ပြည့်ရှင်မင်းကြီးထံမှ ဆုရရှိသူက ပြည့်ရှင်မင်းထံ ထပ်ကာထပ်ကာ ဆည်းကပ်ပုံနှင့်လည်း ဥပမာပြုသေး၏။]

## ၁၀။ ဘုရားရှင်မှာ တန်ခိုးဣဒ္ဓိပါဒ် ရှိပါ၏လော

'အရှင်နာဂသေနဘုရား၊ အာနန္ဒာ ၊ ငါဘုရားသည် ဣဒ္ဓိပါဒ်လေးပါးတို့ကို ပွားများထားပြီး ဖြစ်ပေ၏။ လေ့ကျက်ထားပြီးဖြစ်၏။ အသင့်ကပြီးသည့် ယာဉ်ကဲ့သို့ ပြုထားပြီးဖြစ်၏။ တည်ရာကဲ့သို့ ပြုထားပြီးဖြစ်၏။ ဆောက်တည်ထားပြီးဖြစ်၏။ ကောင်းစွာ ဆည်းပူးထားပြီး ဖြစ်၏။ ကောင်းစွာ အားထုတ်ထားပြီးဖြစ်၏။ အာနန္ဒာ၊ ထိုသို့ဖြစ်သောကြောင့် ငါဘုရားသည် အလိုရှိခဲ့သော် အာယုကပ်တစ်ကပ်လုံးဖြစ်စေ၊ တစ်ကပ်ထက် ကျော်လွန်၍ ဖြစ်စေ တည်နေနိုင်သည်ဟု ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထို့မှတစ်ဖန်လည်း ဤနေ့ရက်မှ သုံးလလွန် မြောက်သောအခါ ငါဘုရားသည် ပရိနိဗ္ဗာန် ပြုပေအံ့ဟူ၍လည်း ဘုရားရှင် ဟောကြားတော် မူပြန်၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ ဘုရားရှင်တို့အား အရာ မဟုတ်သည်၌ ကြုံးဝါးခြင်းဟူ၍ မရှိပါချေ။ ဘုန်းတော်ကြီးသော ဘုရားရှင်တို့သည် အချည်းနှီးသော စကားကို ပြောဆိုတော် မမူကြကုန်။ စကားနှစ်ခွ ပြောဆိုခြင်းမရှိဘဲ တစ်ခွန်းတည်း မှန်ကန်သော စကားကိုသာ ပြောဆိုတော်မူကြကုန်၏။ အစွန်းနှစ်ဖက် ထွက်၍ နေသော ပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ ရှေ့စကားသည်လည်း မှန်ပေ၏။ နောက်စကားသည်လည်း မှန်ပေ၏။ ရှေ့စကားကို မိန့်ကြားရာတွင် ဘုရားရှင်သည် ကိုယ်တော်၏ အသက်အင်အားကို ပြသလို၍ မိန့်ကြားတော်မူခြင်း မဟုတ်ပေ။ ဣဒ္ဓိပါဒ်၏ တန်ခိုးအာနုဘော်ကို ပြသလို၍သာ မိန့်ကြားတော် မူခြင်းဖြစ်၏၊

'မင်းမြတ်၊ ဥပမာအားဖြင့် ပြည့်ရှင်မင်းသည် လေအဟုန်တမျှ လျှင်မြန်စွာ ပြေးနိုင်စွမ်း ရှိသော မိမိ၏ မြင်းအာဇာနည်ကို ပရိသတ် ဗိုလ်ပုံအလယ်၌ ချီးကျူးလိုသဖြင့် အချင်းတို့၊ ငါ၏

ဤမြင်းအာဇာနည်သည် အလိုရှိခဲ့သော် သမုဒ္ဒရာကမ်းအထိ ဤခြေအပြင်ကို ဖြတ်သန်း၍ သွားပြီးလျှင် တစ်ခဏချင်းဖြင့်ပင် ဤနေရာသို့ ပြန်ရောက်နိုင်၏ဟု ထုတ်ဖော် ပြောကြားရာ၏။ သို့ရာတွင် မြင်းအာဇာနည်၏ အစွမ်းသတ္တိတို့ကား လက်တွေ့အားဖြင့် မပြသပေ။ မင်းမြတ် ဤအတူသာပင် ဣဒ္ဓိပါဒ်၏ တန်ခိုးအာနုဘော်ကို ပြသတော်မူလို၍သာ မိန့်ကြားတော်မူ၏။ သို့ရာတွင် ဘုရားရှင်သည် အာယုကပ်တစ်ကပ်လုံးဖြစ်စေ၊ တစ်ကပ်ထက်ပို၍ဖြစ်စေ နေတော်မူခြင်းဖြင့် ဣဒ္ဓိပါဒ်၏ တန်ခိုးအာနုဘော်ကို လက်တွေ့အားဖြင့် ပြသတော် မမူပေ။

'မင်းမြတ်၊ ဘုရားရှင်သည် ဘဝအားလုံးကို အလိုရှိတော် မမူပေ။ ဘဝအားလုံးကို ကဲ့ရဲ့တော်မူ၏။ ရဟန်းတို့၊ ဥပမာအားဖြင့် အနည်းငယ်မျှသော မစင်ကျင်ကြီးသည် အနံ့နံဘိသကဲ့သို့ ဤအတူသာပင် ငါဘုရားသည် အနည်းငယ်မျှသော ဘဝကိုလည်း မချီးမွမ်းပေ။ အတိုဆုံးအားဖြင့် လက်ဖျစ်တစ်တွက်စာမျှသော ဘဝကိုလည်း မချီးမွမ်းပေဟု ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ အလုံးစုံသော ဘဝ၊ ဂတိ၊ ပဋိသန္ဓေတို့ကို မစင်နှင့်ထပ်တူ ရှုမြင်တော်မူ၏။ ထိုဘုရားရှင်သည် ဣဒ္ဓိပါဒ်၏ တန်ခိုးအာနုဘော်ကို အမှီပြုကာ ထိုထိုဘဝတို့ ဖြစ်ရန်၊ တည်နေရန် အလိုဆန္ဒရှိတော်မူပါဦးမည်လော'

'အရှင်ဘုရား၊ ရှိတော်မမူနိုင်ပါ'

'မင်းမြတ်၊ ဤသို့ ဖြစ်လျှင် ဘုရားရှင်သည် ဣဒ္ဓိပါဒ်၏ တန်ခိုး အာနုဘော်ကို ပြသရန်အတွက် ဤသို့ သဘောရှိသော စကားတော်ကို ကြုံးဝါးတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အရှင်ဘုရား မိန့်ကြားသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ မဟာပရိနိဗ္ဗာနသုတ်၌ ပါဠိတော်၌ အရှင်အာနန္ဒာအား ဣဒ္ဓိပါဒ်၏ တန်ခိုးအာနုဘော်ကို အထက်ပါအတိုင်း မိန့်ကြားတော်မူကာ 'အာယုကပ်ပတ်လုံး တည်နေတော်မူပါ' ဟု အရှင်အာနန္ဒာက တောင်းပန်လာစေရန် အရိပ်အမြွက် ပြတော်မူကြောင်း ပြဆိုထား၏။ မာရ်နတ်၏ ဆို့ပိတ်ဟန့်တားမှုကြောင့် အရှင်အာနန္ဒာက မတောင်းပန်နိုင်သဖြင့် ''သုံးလလွန်လျှင် ပရိနိဗ္ဗာန် ပြုတော်မူတော့မည်ဟု မိန့်ကြားတော်မူကာ အာယုသင်္ခါရ လွှတ်တော်မူ၏။ အာယု သင်္ခါရလွှတ်ခြင်း ဟူသည်မှာ အသက်ခန္ဓာ တည်မြဲရေးအတွက် ဘုရားရှင်သည် ဖလသမာပတ်ကို ဆက်ကာဆက်ကာ ဝင်စားတော်မူရ၏။ ဤနေ့မှ နောက်သုံးလမြောက်လျှင်ကား ထို ဖလသမာပတ်ကို မဝင်စားတော့ပြီဟု ဆုံးဖြတ်တော်မူလိုက်ခြင်း ဖြစ်ပေ၏။]




## ၁။ ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ်များကို အဘယ့်ကြောင့် နုတ်ပယ်စေသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်က....ရဟန်းတို့၊ ငါဘုရားသည် ထူးသော ဉာဏ်ဖြင့် သိ၍သာလျှင် တရားဟော၏။ မသိဘဲ ဟောသည် မဟုတ်ဟူ၍ မိန့်ကြားတော်မူ၏။ ထိုမှတစ်ဖန် ပရိနိဗ္ဗာန် ပြုတော်မူခါနီးတွင် အာနန္ဒာ၊ ငါဘုရား ပရိနိဗ္ဗာန် ပြုပြီးသောအခါ သံဃာသည် ခုဒ္ဒါနု ခုဒ္ဒကသိက္ခာပုဒ်များကို နုတ်ပယ်လိုလျှင် နုတ်ပယ်လေလော့ဟုလည်း မိန့်ကြားတော်မူ၏။

'အရှင်ဘုရား၊ အသို့ပါနည်း။ ဘုရားရှင်သည် ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ်များကို တော်စွလျော်စွ ပညတ်တော်မူခဲ့ပါသလော။ သို့မဟုတ် သိက္ခာပုဒ် ပညတ်ရန် အခွင့်အရာ မဟုတ်သေးသည်ကိုမသိဘဲ ပညတ်တော်မူခဲ့ပါသလော။ ထိုစကားနှစ်ရပ် တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေကြားတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင်မှန်၏။ ဘုရားရှင်က ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ်များကို နုတ်ပယ်ရန် ခွင့်ပြုတော်မူခြင်းမှာ ရဟန်း သံဃာသည် ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ်များကို စွန့်ပယ်မည်လော။ မစွန့်ပယ်မည်လောဟု ရဟန်းသံဃာ၏ အလိုဆန္ဒကို စူးစမ်းတော် မူလို၍သာ မိန့်ကြားတော်မူရခြင်း ဖြစ်ပေ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် စကြဝတေးမင်းကြီးက သားတော်တို့ကို ဤသို့ မိန့်ဆိုရာ၏။ သားတော်တို့၊ ခမည်းတော်၏ တိုင်းနိုင်ငံကြီးသည် အရပ်လေးမျက်နှာရှိ သမုဒ္ဒရာထိအောင် ပေါက်ရောက် ကျယ်ပြန့်လှ၏။ ထိုမျှလောက် ကျယ်ဝန်းသော တိုင်းနိုင်ငံကြီးကို တော်ရုံသင့်ရုံ စစ်သည် ဗိုလ်ပါအင်အားဖြင့် ထိန်းချုပ်ထားရန် မလွယ်ကူချေ။ သို့ဖြစ်၍ ခမည်းတော် နတ်ရွာစံပြီးသောအခါ သားတော်တို့သည် တိုင်းစွန် နယ်ဖျားအရပ်တို့ကို စွန့်လွှတ်ကြကုန်လော့

ဟု မိန့်ဆိုရာ၏။ မင်းမြတ်၊ ထိုမင်းသားတို့သည် ခမည်းတော် နတ်ရွာစံပြီးသောအခါ ခမည်းတော် မိန့်ဆိုထားခဲ့သည့်အတိုင်း တိုင်းစွန်နယ်ဖျား အရပ်များကို စွန့်လွှတ်ကြပါမည်လော'

'အရှင်ဘုရား၊ စွန့်လွှတ်ကြမည် မဟုတ်ပါ။ နယ်မြေ ပိုင်စိုးလိုသော လောဘဖြင့် ထို့ထက်ပင် ရှေ့တိုး၍ သိမ်းပိုက်ကြပါလိမ့်ဦးမည်။ ရရှိပြီးသော နယ်မြေများကို အဘယ်မှာ စွန့်လွှတ်ကြပါအံ့နည်း'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ်များကို ပယ်နုတ်ရန် ခွင့်ပြုတော်မူခြင်းမှာ ရဟန်းသံဃာ၏ အလိုဆန္ဒကို စူးစမ်းတော် မူလို၍သာ မိန့်ကြားတော်မူလိုခဲ့ခြင်းဖြစ်၏။ ဘုရားသားတော်တို့သည် ဝဋ်ဆင်းရဲမှ လွတ်ကင်းကြောင်းဖြစ်သော သိက္ခာပုဒ်ကို ကျင့်သုံးလိုကြကုန်သည်ဖြစ်၍ ပညတ်တော်မူပြီးသော သိက္ခာပုဒ်များအပြင် အခြားသိက္ခာပုဒ် တစ်ရာ့ငါးဆယ်ကိုပင် စောင့်ထိန်းနိုင်ကုန်ရာ၏။ ပညတ်တော်မူထားပြီးသော သိက္ခာပုဒ်များကို အဘယ်မှာ စွန့်ပယ်ကြပါအံ့နည်း'

'အရှင်ဘုရား၊ ခုဒ္ဒါနု ခုဒ္ဒက သိက္ခာပုဒ် ဟူသော စကား၌ ခုဒ္ဒက သိက္ခာပုဒ်တို့သည် အဘယ်ပါနည်း။ အနုခုဒ္ဒက သိက္ခာပုဒ် တို့သည် အဘယ်ပါနည်း'

'မင်းမြတ်၊ ဒုက္ကဋ်အာပတ်သည် ခုဒ္ဒကသိက္ခာပုဒ် မည်ပေ၏။ ဒုဗ္ဘာသိအာပတ်သည် အနုခုဒ္ဒက သိက္ခာပုဒ် မည်ပေ၏'

'အရှင်ဘုရား၊ အရှင်ဘုရားသည် ကွယ်ဝှက်နေသော ပြဿနာကို ထင်ရှားစွာ ပြဆို၍ ဖြေကြားတော် မူပါပေ၏'

## ၂။ အချို့ပြဿနာများကို အဘယ့်ကြောင့် ဘုရားရှင် မဖြေကြားသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် အာနန္ဒာ၊ ငါဘုရားအား တရားရေးရာ၌ ဆရာ့လက်ဆုပ်ဟူ၍ လျှို့ဝှက်စွာ ထားရှိသော တရားဟူ၍ မရှိချေဟု မိန့်ကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် မာလုကျပုတ္တက လောကသည် မြဲသလော၊ မမြဲသလော စသည်ဖြင့် ဆယ်ချက်သော ပြဿနာတို့ကို မေးလျှောက်ရာတွင်ကား ဘုရားရှင်က ဖြေကြားတော် မမူပါချေ။

'အရှင်ဘုရား၊ ဤကဲ့သို့ ဘုရားရှင်ဖြေကြားတော် မမူခြင်းမှာ အဖြေကို မသိ၍သော်လည်းကောင်း၊ သိပါလျက် လျှို့ဝှက်ထားလို၍သော် လည်းကောင်း ဤအကြောင်းနှစ်ခုတို့တွင် အကြောင်းတစ်ခုခုကြောင့် ဖြစ်ပေရာ၏။ အကယ်၍ အာနန္ဒာ၊ ငါဘုရားအား တရားရေးရာ၌ ဆရာ့လက်ဆုပ်ဟူ၍ လျှို့ဝှက်စွာ ထားရှိသော တရားဟူ၍ မရှိချေဟူသော စကားကို ဘုရားရှင် ဟောကြားတော် မူခဲ့ငြားအံ့။ မာလုကျပုတ္တမေးသော ပြဿနာတို့ကို မသိ၍သာ မဖြေကြားခြင်း ဖြစ်ပေရာ၏။ အကယ်၍ သိပါလျက် မဖြေကြားခြင်း ဖြစ်ခဲ့ငြားအံ့။ ဆရာ့လက်ဆုပ် ဟူ၍

လျှို့ဝှက်စွာ ထားလို၍သာ မဖြေကြားခြင်း ဖြစ်ပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေကြားတော် မူပါလော့'

'မင်းမြတ်၊ ဘုရားရှင်သည် အာနန္ဒာ၊ ငါဘုရားအား တရားရေးရာ၌ ဆရာ့လက်ဆုပ်ဟူ၍ လျှို့ဝှက်စွာ ထားရှိသော တရားဟူ၍ မရှိချေဟု ဟောကြားတော်မူခဲ့၏။ ထိုသို့ ဟောကြားတော် မူပါလျက် မာလုကျပုတ္တ အမေးပြဿနာကို ဖြေကြားတော် မမူခြင်းမှာ မသိ၍လည်း မဟုတ်ပေ။ ဆရာ့လက်ဆုပ်ဟူ၍ လျှို့ဝှက်စွာ ထားလို၍လည်း မဟုတ်ချေ။ ဖြေကြား၍ မဖြစ် နိုင်သော ပြဿနာဖြစ်နေ၍ပင် မဖြေကြားဘဲ ထားရှိတော်မူခြင်း ဖြစ်ပေ၏။

'မင်းမြတ်၊ တစ်ခွန်းတည်းသော စကားဖြင့် ဖြေကြားအပ်သော ဧကံသဗျာကရဏီယ ပုစ္ဆာ၊ ခွဲခြားဝေဖန်၍ ပြောဆိုအပ်သော ဝိသဇ္ဇဗျာကရဏီယ ပုစ္ဆာ၊ တုံ့ပြန်မေးခွန်းထုတ်၍ ဖြေကြားအပ်သော ပဋိပုစ္ဆာဗျာကရဏီယပုစ္ဆာ မဖြေကြားဘဲ ထားအပ်သော ထပနီယပုစ္ဆာဟူ၍ ပုစ္ဆာလေးမျိုး ရှိကုန်၏။

'မင်းမြတ်၊ ပုစ္ဆာလေးမျိုးတို့တွင် ရုပ်သည် အနိစ္စလော ဟူသော အမေးပုစ္ဆာသည် အိမ်း၊ ဟုတ်ပေ၏ဟူ၍ တစ်ခွန်းတည်းသော စကားဖြင့် ဖြေကြားအပ်သောကြောင့် ဧကံသဗျာကရဏီယ ပုစ္ဆာ မည်၏။

'မင်းမြတ်၊ ရုပ်သည် အနိစ္စသာ ဖြစ်သလော ဟူသော အမေးပုစ္ဆာသည် ရုပ်သည် အနိစ္စသာ ဖြစ်သည်မဟုတ်။ ဒုက္ခလည်း ဖြစ်ပေ၏။ အနတ္တလည်း ဖြစ်ပေ၏ဟူ၍ ခွဲခြားဝေဖန်၍ ဖြေကြား အပ်သောကြောင့် ဝိဘဇ္ဇဗျာကဏီယပုစ္ဆာ မည်၏။

'မင်းမြတ်၊ စက္ခုနှင့် သောတသည် အတူတူလော ဟူသော အမေးပုစ္ဆာသည် 'အသို့နည်း။ စက္ခုဝိညာဉ်ဖြင့် အလုံးစုံကို သိနိုင်သလော' ဟု တုံ့ပြန်မေးခွန်းထုတ်၍ ဖြေကြားအပ်သောကြောင့် ပဋိပုစ္ဆာဗျာကရဏီယ ပုစ္ဆာ မည်၏။

'မင်းမြတ်၊ လောကသည် မြဲသလော။ လောကသည် မမြဲသလော။ လောကသည် အဆုံးရှိသလော။ လောကသည် အဆုံးမရှိသလော။ လောကသည် အဆုံးရှိသည်လည်း ဟုတ်၍ အဆုံးမရှိသည်လည်း ဟုတ်သလော။ လောကသည် အဆုံးရှိသည်လည်း ဟုတ်၍ အဆုံးမရှိ သည်လည်း ဟုတ်သလော။ အသက်နှင့် ကိုယ်ခန္ဓာသည် အတူတူလော။ အသက်နှင့် ကိုယ်ခန္ဓာ သည် တခြားစီလော။ သတ္တဝါသည် သေပြီးသည့်နောက် ဘဝသစ်မှာ ဖြစ်သေးသလော။ ဘဝသစ်မှာ မဖြစ်တော့ပြီလော။ ဘဝသစ်မှာ ဖြစ်သည်လည်း မဟုတ်၍ မဖြစ်သည်လည်း မဟုတ်သလော ဟူသော အမေးပုစ္ဆာ မျိုးကား မဖြေကြားဘဲ ထားအပ်သောကြောင့် ထပနီယပုစ္ဆာ မည်၏။

'မင်းမြတ်၊ မာလုကျပုတ္တမေးမြန်းခဲ့သော ဤပြဿနာတို့ကို ဘုရားရှင် ဖြေကြားတော်

မမူခဲ့ခြင်းမှာ ဖြေကြားရန် အကြောင်းတစ်စုံတစ်ရာမျှ မရှိသောကြောင့် ဖြစ်ပေ၏။ ဘုန်းတော်ကြီးသော ဘုရားရှင်တို့သည် အကြောင်း ယုတ္တိမရှိသော၊ အကျိုးမရှိသောစကားကို မိန့်ကြားတော်မမူကြကုန်'

'အရှင်ဘုရား၊ ကောင်းမွန်လှပါပေ၏။ အရှင်ဘုရား ဖြေကြားသည့်အတိုင်း တပည့်တော်ဝန်ခံပါ၏'

[ မဇ္ဈိမပဏ္ဏာသ၊ စူဠမာလုကျသုတ်၌ ဤပြဿနာများ မေးမြန်းပုံကို အကျယ်တဝင့် ပြဆိုထား၏။ အရှင်မာလုကျပုတ္တက 'ဤပြဿနာများကို ဘုရားရှင် သိတော်မူလျှင် ပြတ်ပြတ် သားသား ဖြေကြားတော်မူပါ။ မသိလျှင်လည်း ရိုးရိုးဖြောင့်ဖြောင့် မသိကြောင်း ဝန်ခံတော်မူပါ။ ဤပြဿနာများကို ဖြေကြားတော်မူမှသာလျှင် အရှင်ဘုရား၏ သာသနာတော်မှာ နေထိုင်ပါမည်။ ဤပြဿနာများကို မဖြေကြားလျှင်ကား သာသနာတော်ကို စွန့်ပယ်ရပါလိမ့်မည်' ဟု အကျပ်ကိုင်ကာ လျှောက်ထား၏။

ဤတွင် ဘုရားရှင်က 'မာလုကျပုတ္တ၊ သင်သည် ငါဘုရား သာသနာတော်တွင်းသို့ ဝင်လာစဉ်တုန်းက အရှင်ဘုရား၊ ဤပြဿနာများ ဖြေကြားတော်မူပါမှ ဝင်ရောက်လိုပါသည် ဟူ၍ တောင်းဆိုခြင်း မပြုခဲ့။ ငါဘုရားကလည်း မာလုကျပုတ္တ၊ ငါဘုရားသာသနာတော်သို့ ဝင်လာခဲ့ပါ။ ဤပြဿနာများကို ဖြေကြားပါမည်ဟု ဖိတ်ကြားခြင်းလည်း မပြုခဲ့။ ဤသို့ ဖြစ်ပါလျက် အချည်းနှီးသော ယောကျ်ားသည် တောင်းဆိုသူ၊ လက်ခံသူတို့တွင် မည်သူဖြစ်၍ မည်သူ့ကို ပစ်ပယ်နေရပါသနည်း' ဟု ကြိမ်းမောင်းတော်မူရ၏။

ထို့နောက် ဆိပ်လူးမြားမှန်ခံထားရသည်ကို ဥပမာပြု၍ မိန့်ကြားတော်မူ၏။ အဆိပ် ထူထပ်စွာ လူးထားသော မြားဖြင့် အထိအမှန် ခံထားရသော သူကို ဆွေမျိုးများ၊ မိတ်ဆွေများက မြားကိုကျွတ်စေရန် ဆေးကုနိုင်သော သမားတော်ကို ပင့်ခေါ်လာကြ၏။ ဤတွင် မြားမှန်ခံထားရသူက အချင်းတို့၊ ဤမြားကို ပစ်လိုက်သောသူ၏ အမျိုးအနွယ်၊ အမည်နာမ၊ အရပ်အမောင်း၊ အဆင်းအရောင်၊ နေရပ်ဌာန စသည်တို့ကို မသိရသေးမီ ဤမြားကို အနုတ်မခံနိုင်ပါဟု ဆိုငြားအံ့။ ထိုလူနာသည် သူသိလိုရာကိုကား သိရမည်မဟုတ်။ မြားဆိပ်တက်၍ သေရမည်ကား မချွတ်တည်း။

ဤအတူပင် ဤပြဿနာ၏ အဖြေကို မေးမြန်းရှာဖွေ နေလျှင်လည်း လက်ဆုပ်လက်ကိုင် သက်သေပြ၍ ဖြေကြားချက်ကိုကား ရမည်မဟုတ်။ မေးရင်းမြန်း ရင်းသက်တမ်းကုန်၍ သေဆုံးရမည်သာ ဖြစ်ပေသည်။

လောကသည် မြဲ၊ မမြဲ စသည်ဖြင့် မိစ္ဆာအယူ တစ်ခုခု စွဲယူထားသူသည် သာသနာတော်၏ အဆုံးအမကို မခံယူနိုင်တော့ပေ။ မြတ်သော ဝိပဿနာအကျင့်ကို မကျင့်နိုင်တော့ပေ။ လောကသည် မြဲသည်ဖြစ်စေ၊ မမြဲသည်ဖြစ်စေ ဇာတိ၊ ဇရာ၊ မရဏ စသော ဒုက္ခတရားတို့ကား ထင်ရှားရှိနေကြသည်သာ။ ဤ ဒုက္ခတရားတို့ကို လက်ငင်း လက်တွေ့ မျက်မှောက်ဘဝမှာပင် အဆုံးသတ်ဖျက်ဆီးနိုင်ရေးအတွက် ဘုရားရှင်က တရား ဟောတော်မူ၏။ ဤပြဿနာကို ဖြေကြားခြင်းဖြင့် မည်သည့် အကျိုးတရားမျှ မရနိုင်ချေ။ မည်သည့် ဝိပဿနာ အကျင့်မျှ မကျင့်နိုင်ချေ။ ဘဝသံသရာကို ငြိမ်းငွေ့စေရန် မစွမ်းနိုင်ချေ။ ရာဂကင်းစေရန် မစွမ်းနိုင်ချေ။ နိဗ္ဗာန်ကို မျက်မှောက်ပြုစေရန် မစွမ်းဆောင်နိုင်ချေ၊

ထိုအကြောင်းများကို ဟောကြားတော်မူပြီးနောက် ဘုရားရှင်က ''မာလုကျပုတ္တ၊ ထိုသို့ ဖြစ်သောကြောင့် ငါဘုရား မဖြေကြားသည်ကို မဖြေကြားသည့် အတိုင်း မှတ်သားထားလေလော့'။ ငါဘုရား ဖြေကြားသည်ကိုလည်း ဖြေကြားသည့် အတိုင်းသာ မှတ်သားထားလေလော့ ဟု မိန့်ကြားတော်မူကာ ဘုရားရှင် ဖြေကြားတော်မူသော သစ္စာလေးပါး တရားတော်ကိုသာ လေ့လာ မှတ်သားထားစေရန် မိန့်ကြားတော် မူပေ၏။

မာလုကျပုတ္တ မေးမြန်းခဲ့သော အထက်ပါ ပြဿနာများမှာ ကမ္ဘာပေါ်ရှိ လူသားများ တွေးခေါ်မြော်မြင်လာတတ်ကြသော အချိန်မှစ၍ ပေါ်ပေါက်လာခဲ့ကြပေလိမ့်မည်။ အယူဝါဒ အမျိုးမျိုး၊ ဂိုဏ်းဂဏအမျိုးမျိုး ရှိ ပုဂ္ဂိုလ်များထံ မေးမြန်းကြည့်လျှင် ကိုယ့်ရှုထောင့်နှင့်ကိုယ်၊ ကိုယ့်အကြိုက်နှင့်ကိုယ် အမျိုးမျိုး ဖြေဆိုကြမည်သာ ဖြစ်၏။ အခြားပုဂ္ဂိုလ်များ ငြင်းဆို၍ မရနိုင်အောင် လက်ဆုပ်လက်ကိုင် သက်သေပြကာ တစ်ကမ္ဘာလုံးက လက်ခံလာအောင် ဖြေရှင်းနိုင်ရန်ကား မဖြစ်နိုင်ချေ။ ဤတစ်ဖက်က ဤအဖြေကိုပေးလျှင် အခြား တစ်ဖက်ကလည်း အခြားအဖြေကို ပေးနိုင်သည်သာဖြစ်၏။ ထို့ကြောင့် ယတိပြတ်အဖြေ မရှိနိုင်သော ဤပြဿနာမျိုးကို အဖြေရလိုရငြား လိုက်လံရှာဖွေ နေမည့်အစား မည်သူမျှ ငြင်းကွယ်၍ မရနိုင်သော သစ္စာလေးဖြာ ဒေသနာတော်ကို သဘောပေါက်ရန်သာ လိုပေသည်။ အလိုတဏှာ ဟူသော သမုဒယသစ္စာဖြင့် အကြောင်းပြုပေးလေသမျှ မည်သူမဆို ဆင်းရဲဒုက္ခ ရောက်ကြရ၏။ အလိုတဏှာကို လျှော့ပေါ့နိုင်လျှင်လည်း မည်သူမဆို ဆင်းရဲဒုက္ခ လျှော့ပေါ့နိုင်၏။ အလိုတဏှာတို့၏ အကြွင်းမဲ့ချုပ်ငြိမ်းရာ နိဗ္ဗာန်တရားတော်ကို မျက်မှောက် ပြုနိုင်လျှင်ကား ဆင်းရဲဒုက္ခ ဟူသမျှတို့ ချုပ်ငြိမ်းကြရပေတော့သည်။

[ဤသည်လျှင် အဖြေမရှိသော ပြဿနာတို့အတွက် ဖြေရှင်းချက် ဖြစ်ပေ၏။]

## ၃။ သေဘေးကို မကြောက်သူ ရှိသလော

'အရှင်နာဂသေနဘုရား၊ သတ္တဝါအားလုံးတို့သည် သေခြင်းကို ကြောက်ခြင်းကို ထိတ်လန့်ကြကုန်၏။ သတ္တဝါအားလုံးတို့သည် သေခြင်းကို ကြောက်ရွံ့ကုန်၏ဟု ဘုရားရှင် ဟောကြားတော် မူခဲ့၏။ ထိုမှတစ်ဖန်လည်း ရဟန္တာပုဂ္ဂိုလ်သည် အလုံးစုံသော ကြောက်ရွံ့ထိတ်လန့်ခြင်းကို လွန်မြောက်၏ဟု ဘုရားရှင် ဟောကြားတော်မူပြန်၏။

''အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ဥပမာအားဖြင့် အမတ်ကြီးလေးယောက်တို့ သည် ပြည့်ရှင်မင်းကို အစဉ်အမြဲစောင့်ရှောက်ကြကုန်၏။ မင်းထံမှ အခြံအရံနှင့် စည်းစိမ်ဥစ္စာ မြောက်မြားစွာ ရရှိကြကုန်၏။ မင်းနှင့် အကျွမ်းဝင်ကုန်၏။ အခွင့်အာဏာ ကြီးမားစွာ ရရှိ

ကြကုန်၏။ ပြည့်ရှင်မင်း၌ အကြောင်းကိစ္စ တစ်စုံတစ်ရာ ရှိလာသောအခါ ပြည့်ရှင်မင်းသည် တိုင်းသူ ပြည်သား လူအားလုံးထံမှ အခွန်တော် ကောက်ခံရန် ထိုအမတ်ကြီး လေးယောက်တို့အား တာဝန်ပေးရာ၏။ ထိုအခါတွင် ထိုအမတ်ကြီး လေးယောက်တို့သည် အခွန်တော် ပေးရမည့်အရေးကို ကြောက်ရွံ့ကြပါမည်လော'

'အရှင်ဘုရား၊ မကြောက်ရွံ့ကြပါ'

'မင်းမြတ်၊ အဘယ့်ကြောင့် မကြောက်ကြပါသနည်း'

'အရှင်ဘုရား၊ ထိုအမတ်ကြီး လေးယောက်တို့မှာ အခွန်တော်ပေးရန် တာဝန်မရှိသောကြောင့် ဖြစ်ပါသည်။ အမတ်ကြီး လေးယောက်တို့မှ တစ်ပါးသော တိုင်းသူပြည်သားများကို ရည်ရွယ်၍သာ တိုင်းသူပြည်သား အားလုံးဟူ၍ ဆိုရပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် သတ္တဝါအားလုံး ဟူသော စကားကို ရဟန္တာ ပုဂ္ဂိုလ်ကို ရည်ရွယ်၍ မိန့်ကြားတော်မူသည် မဟုတ်ပေ။ သတ္တဝါအားလုံး ဟူသော စကား၌ ရဟန္တာပုဂ္ဂိုလ်သည် ခြွင်းချက်ဖြစ်၏။ ရဟန္တာပုဂ္ဂိုလ်သည် ကြောက်ရွံ့ထိတ်လန့်ခြင်း၏ အကြောင်း ဖြစ်သော ကိလေသာကို ပယ်နုတ်ပြီး ဖြစ်ကုန်၏။ ကိလေသာ ရှိကုန်သော ငါကိုယ်ဟူ၍ လွန်ကဲစွာ စွဲလမ်းကုန်သော၊ ချမ်းသာလျှင် စိတ်နေစိတ်ထားမြင့်၍ ဆင်းရဲလျှင် စိတ်နေစိတ်ထား နိမ့်ကျကုန်သော သတ္တဝါတို့ကို ရည်ရွယ်၍ သတ္တဝါ အားလုံးဟူသော စကားကို ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထို့ကြောင့် ရဟန္တာပုဂ္ဂိုလ်သည် အလုံးစုံသော ကြောက်ရွံ့ထိတ်လန့်ခြင်းကို လွန်မြောက်ပေ၏'

'အရှင်ဘုရား၊ အရှင်ဘုရား မိန့်ကြားတော်မူသည့်အတိုင်း ထိုစကားကို တပည့်တော် ဝန်ခံပါ၏။ ထိုစကားသည် ရှိပါစေတော့။ ငရဲဘုံ၌ ကျခံနေရသော ငရဲသားတို့သည် သည်းမခံနိုင်လောက်အောင် ပြင်းထန်လှစွာသော ဆင်းရဲဒုက္ခကို ခံစားကြရကုန်၏။ နံပါးလေးဘက်နှင့် အထက်အောက်ဟူသော အရပ် ခြောက်မျက်နှာတို့မှ အလျှံပြောင်ပြောင် တောက်လောင်နေကြကုန်၏။ ထိုငရဲသားသတ္တဝါတို့သည် ထိုငရဲဘုံမှ စုတေကြကုန်သော် သေဘေးကို ကြောက်ရွံ့ကြပါသလော'

'မင်းမြတ်၊ ကြောက်ရွံ့ကြကုန်သေး၏'

'အရှင်ဘုရား၊ ချမ်းသာ မဖက် ဆင်းရဲခြင်း သက်သက်ကိုသာ ခံစားနေကြပါလျက် အဘယ့်ကြောင့် ကြောက်ကြ ရပါသေးသနည်း။ အဘယ့်ကြောင့် ငရဲ၌ မွေ့လျော်နေနိုင်ကြပါသနည်း'

'မင်းမြတ်၊ ထိုသတ္တဝါတို့သည် ငရဲ၌ မမွေ့လျော်ကြကုန်။ ငရဲမှ လွတ်လိုကြကုန်သည်သာ ဖြစ်၏။ သို့ရာတွင် ကြောက်ခြင်းဟူသော ကိလေသာကို မပယ်နိုင်သေးသောကြောင့် သေခြင်းကို ကြောက်ကြရသည်သာ ဖြစ်ပေ၏'

'အရှင်ဘုရား၊ ဤစကားကို တပည့်တော် မယုံနိုင်ပါ။ ထိုငရဲသား သတ္တဝါတို့သည် ငရဲမှ လွတ်မြောက်ရေးအတွက် သေခြင်းကို တောင့်တသင့်သည် မဟုတ်ပါလော'

'မင်းမြတ်၊ သေခြင်းတရားသည် အရိယသစ္စာကို မသိမြင်နိုင်သေး သူတို့အဖို့ ထိတ်လန့်ဖွယ်ရာသာ ဖြစ်၏။ သေဘေးနှင့် ရင်ဆိုင်လာရသောအခါ အရိယသစ္စာကို မမြင်နိုင်သေးသော သူတို့ သည် ထိတ်လည်းထိတ်ကုန်၏။ လန့်လည်း လန့်ကုန်၏။ မြွေဟောက်၊ ခြင်္သေ့၊ ကျား၊ ကျားသစ်၊ ဝံ၊ အောင်း၊ ကျွဲ၊ နွား၊ မီး၊ ရေ၊ သစ်ငုတ်၊ ဆူး၊ လှံတို့ကို ကြောက်လန့်ခြင်းသည် သေဘေးကို ကြောက်လန့်၍သာ ဖြစ်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ ယောကျ်ားတစ်ယောက်၏ ကိုယ်ခန္ဓာ၌ အနာအဖု တစ်ခု ပေါ်ပေါက်လာရာ၏။ ထိုအနာဖုက ကိုက်ခဲ နာကျင်လှသဖြင့် ထိုယောကျ်ားသည် အနာဖုကို ခွဲစိတ် ကုသနိုင်သည့် ဆေးဆရာကို ပင့်ခေါ်ရာ၏။ ဆေးဆရာ လူနာထံသို့ လိုက်ပါလာပြီးလျှင် အနာဖုကို ခွဲစိတ်ကုသမည့် ကိရိယာတို့ကို ပြင်ဆင်ရာ၏။ ခွဲစိတ်ဓားငယ်ကို ထက်အောင်သွေးရာ၏။ ညှပ်တံကို မီးဖုတ်ရာ၏။ ဆပ်ပြာနှင့် ဆားကို ရောနှောကာ ကျောက်ပျဉ်၌ ကြိတ်စေရာ၏။ ထို့နောက် ဆေးဆရာသည် အနာဖုကို ဓားငယ်ဖြင့် ခွဲကာ မီးဖုတ်ထားသော ညှပ်တံဖြင့် အနာဝသို့ ထိုးသွင်း၍ မွှေရာ၏။ အမှုန့်ကြိတ်ထားပြီးသော ဆပ်ပြာနှင့် ဆားတို့ကို အနာဝသို့ သိပ်ထည့်ရာ၏။ ထိုအခါ အနာဖုပေါက်နေသော ထိုယောကျာ်းသည် ထိုသို့ ခွဲစိတ်ကုသခြင်းကို ကြောက်ပါမည်လော'

'အရှင်ဘုရား၊ ကြောက်လန့်ပါလိမ့်မည်'

'မင်းမြတ်၊ အနာဖု ပေါက်နေသော ယောကျ်ားသည် အနာမှ လွတ်မြောက်လိုပါလျက် ခွဲစိတ်ကုသခြင်းကို ကြောက်ပေသေး၏။ ဤအတူသာပင် ငရဲသားသတ္တဝါတို့သည် ငရဲဘုံမှ လွတ်မြောက်လိုကြသော်လည်း သေဘေးကို ကြောက်လန့်ကြသည်သာ ဖြစ်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ ဤစကားကို အရှင်ဘုရား ဖြေကြားတော်မူသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ ကျမ်းရင်း၌ သေဘေးကို ကြောက်လန့်သူတို့ထဲတွင် ရဟန္တာပုဂ္ဂိုလ် မပါဝင်ပုံကို ရွာသူကြီးက ရွာရှိလူကုန် စည်းဝေးခိုင်းခြင်းနှင့်လည်း ဥပမာ ပြုခဲ့ပါသေး၏။ ရွာသူကြီးက ရွာရှိလူကုန် စည်းဝေးကြကုန်လင့်ဟု နှိုးဆော်လိုက်သောအခါ ရွာသူကြီးအိမ်၌ ဆယ်အိမ်ခေါင်းများသာ စည်းဝေးလာကြ၏။ ကျန်သော ရွာသူရွာသားများနှင့် တိရစ္ဆာန်များ မလာကြကုန်။ ရွာသူကြီးသည် မလာသူတို့ကို မရေတွက်မူ၍ လာရောက်သူတို့နှင့်သာ တိုင်ပင် ဆွေးနွေး၏။ ရွာသူရွာသား အားလုံး ဟူသော စကား၌ မလာရောက်သူတို့ မပါဝင်ခြင်းဖြင့် ရဟန္တာပုဂ္ဂိုလ်တို့ သေဘေးကို ကြောက်သည့် အထဲ၌ မပါဝင်ပုံ ဥပမာပြုထား၏။

ငရဲသား သတ္တဝါတို့ သေဘေးကို ကြောက်ပုံကို ရာဇဝတ်သား မြွေကိုက်ခံရသူတို့နှင့်လည်း ဥပမာ ပြုထားသေး၏။ ပြည့်ရှင်မင်းကို ပြစ်မှား၍ အချုပ်အနှောင်ခံနေရသော ရာဇဝတ်သားသည်

ထိုအပြစ်ဒဏ်မှ လွတ်ရန် လာရောက် ကြည့်ရှုသော ပြည့်ရှင်မင်းကို ကြောက်လန့်သေး၏။ မန္တရား ဆေးဝါးတတ်ကျွမ်းသော သူသည် မြွေကိုက်ခံရသောသူထံမှ အဆိပ်များကို ပြန်၍ စုပ်ယူရန် ကိုက်ခဲသော မြွေကို ခေါ်ယူရာ မြွေကိုက်ခံရသော ယောကျာ်းသည် မြွေဟောက်ကို ကြောက်ရွံ့သေး၏။ ဆင်းရဲဒုက္ခမှလွတ်မြောက်မည် ဖြစ်ပါလျက် သေဘေးကို ကြောက်ရွံ့ပုံများ ဖြစ်ပေ၏။]

## ၄။ ပရိတ်တန်ခိုးကြောင့် သေဘေးမှ လွတ်သလော

'အရှင်နာဂသေနဘုရား၊ ကောင်းကင်၌ တည်နေသော် လည်းကောင်း၊ သမုဒ္ဒရာအလယ်၌ တည်နေသော် လည်းကောင်း၊ ကျောက်တောင်လိုဏ်ခေါင်းတို့၌ ပုန်းအောင်းနေသော် လည်းကောင်း၊ သေမင်း၏ ကျော့ကွင်းမှ မလွတ်ရာ။ သေမင်း၏ ကျော့ကွင်းမှ လွတ်မြောက်နိုင်သော အရပ်သည် မရှိပေဟူ၍ ဘုရားရှင် ဟောကြားတော် မူခဲ့၏။ ထိုမှတစ်ဖန် ရတနသုတ်၊ မေတ္တသုတ်၊ ခန္ဓသုတ်၊ မောရသုတ်၊ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်၊ အင်္ဂုလိမာလသုတ် စသော ပရိတ် အရံအတား တို့ကိုလည်း ဘုရားရှင် ဟောကြားတော်မူပြန်၏။

'အရှင်ဘုရား၊ အကယ်၍ သေမင်း၏ ကျော့ကွင်းမှ လွတ်မြောက်နိုင်သော အရပ်သည် မရှိခဲ့ငြားအံ့၊ ပရိတ် အရံအတား ပြုခြင်းသည် မှားပေရာ၏။ အကယ်၍ ပရိတ် အရံအတားကို ပြုခြင်းဖြင့် သေမင်း၏ ကျော့ကွင်းမှ လွတ်မြောက်ခဲ့ငြားအံ့။ သေမင်း၏ ကျော့ကွင်းမှ လွတ်မြောက်နိုင်သော အရပ်သည် မရှိဟူသော စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံသို့ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေကြားတော် မူပါလော့'

'မင်းမြတ်၊ သေမင်း၏ကျော့ကွင်းမှ လွတ်မြောက်နိုင်သော အရပ်သည် မရှိပေ ဟူသော စကားကိုလည်း ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ပရိတ် အရံအတားကိုလည်း ဘုရားရှင်ပင် ဟောကြားတော်မူခဲ့၏။ ထိုပရိတ်အရံအတားသည်လည်း အသက်ရှင်နိုင်ခွင့် ရှိနေသေးသော၊ အရွယ်ကောင်းကုန်သော၊ ပဋ္ဌာနန္တိယ ကံကြီးငါးပါးမှ ကင်းလွတ်ကုန်သော သူတို့အဘို့က်သာ ဖြစ်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် သေ၍ခြောက်သွေ့နေပြီးသော သစ်ပင်ကို ရေအိုးပေါင်း တစ်ထောင်ဖြင့် သွန်းလောင်းသော်လည်း စိမ်းလန်းစိုပြည်၍ မလာနိုင်တော့ချေ။ ဤအတူသာပင် အသက်ရှင်နိုင်ခွင့် ကုန်ဆုံးနေသောသူအား ပရိတ်ရွတ်ဖတ်ပေးခြင်းဖြင့် အသက်ဆက်ရန် မစွမ်းနိုင်ချေ။ ကမ္ဘာမြေပြင်ရှိ ဆေးအမျိုးမျိုးတို့သည်လည်း အသက်ရှင်နိုင်ခွင့် ကုန်ဆုံးပြီးသော သူအား အသက်ဆက်၍ မပေးနိုင်ကြချေ'

'အရှင်ဘုရား၊ အသက်ရှင်နိုင်ခွင့် ကုန်ဆုံးပြီးသော သူသည် မလွဲမသွေ သေဆုံးရသည် ဖြစ်ငြားအံ့။ ထိုသို့ဖြစ်လျှင် ပရိတ်ရွတ်ခြင်း၊ ဆေးကုသခြင်းသည် အကျိုးမဲ့သာ ဖြစ်လေရာ၏'

'မင်းမြတ်၊ ဆေးဝါးကုသခြင်းကြောင့် အနာရောဂါ သက်သာ ပျောက်ကင်းသွားသည်ကို တွေ့မြင်ဖူးပါ၏လော'

'အရှင်ဘုရား၊ တွေ့မြင်ဖူးပါ၏'

'မင်းမြတ်၊ မြွေကိုက်ခံရသူ တစ်စုံတစ်ယောက်အား မန္တန်ဖြင့် မန်းမှုတ်လိုက်သောအခါ ထိုသူ၏ဝမ်းမှ အဆိပ်များ ပျို့အန် လျှော့ကျခြင်းကို တွေ့မြင်ဖူးပါ၏လော'

'အရှင်ဘုရား၊ တွေ့မြင်ဖူးပါ၏'

'မင်းမြတ်၊ ပရိတ်အရံအတား ပြုထားသော သူကို ကိုက်ရန် ဟန်ပြင်ထားသော မြွေသည် မကိုက်နိုင်။ ခိုးသားတို့က ရိုက်ပုတ်ရန် ချိန်ရွယ်ထားသော တင်းပုတ်သည် လက်ထဲမှ လွတ်ကျသွားကုန်၏။ အစွယ်ဖြင့် ထိုးသတ်ရန် ပြေးလာခဲ့သော ဆင်ပြောင်ကြီးသည် အနားရောက်လျှင် ပြေးရှောင်သွား၏။ အလျှံပြောင်ပြောင် တောက်လောင်လာသော မီးပုံကြီးသည် အနားရောက်လျှင် ငြိမ်းသွား၏။ လောလောလတ်လတ် သေစေတတ်သော အဆိပ်ကို စားမိသော်လည်း အဆိပ် မတက်ချေ။ ထိုအဆိပ်သည် ဆေးလည်းဖြစ်လာ၏။ အာဟာရအဖြစ်ဖြင့် ကိုယ်ခန္ဓာတစ်ခုလုံးသို့ ပျံ့နှံ့ကုန်၏။ အသေသတ်ရန် ချဉ်းကပ်လာသူတို့သည် အနားရောက်လျှင် ကျေးကျွန်အဖြစ်ဖြင့် ခံစားကြရကုန်၏။ ကျော့ကွင်းကို နင်းမိသော်လည်း မတုပ်မနှောင်မိချေ။

'မင်းမြတ်၊ ပရိတ်အရံအတား ပြုလုပ်ထားသော ဥဒေါင်းမင်းအား မုဆိုးတို့သည် နှစ်ပေါင်း ခုနစ်ရာတို့တိုင်တိုင် ကျော့ကွင်းထောင်၍ ဖမ်းသော်ငြားလည်း ဖမ်း၍ မမိကြကုန်။ ပရိတ်အရံအတားကို မပြုမိလျှင်ကား တစ်နေ့တည်းဖြင့် ဖမ်းမိကြ၏။ ဤစကားကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏'

'မင်းမြတ်၊ ထိုသို့ ဖြစ်ပါမူ 'ဆေးကုသခြင်း၊ ပရိတ်ရွတ်ခြင်းသည် အကျိုးမဲ့သာ ဖြစ်လေရာ၏' ဟူသော စကားသည် မှား၏'

'အရှင်ဘုရား၊ သတ္တဝါ အားလုံးတို့ကို ပရိတ်အရံအတားက စောင့်ရှောက်ပါသလော'

'မင်းမြတ်၊ အချို့တို့ကို စောင့်ရှောက်၍ အချို့ကိုကား မစောင့်ရှောက်ပေ'

'အရှင်ဘုရား၊ အချို့ကိုသာ စောင့်ရှောက်၍ အချို့ကိုကား မစောင့်ရှောက်လျှင် ပရိတ်အရံအတားသည် အကျိုးအားလုံးကို မပြီးစီးနိုင်ပါတကား'

'မင်းမြတ်၊ အစားအစာသည် စားသောက်သူ အားလုံးကို စောင့်ရှောက်ပါသလော'

'အရှင်ဘုရား၊ အချို့ကိုသာ စောင့်ရှောက်၍ အချို့ကိုကား မစောင့်ရှောက်ပေ'

'မင်းမြတ်၊ အဘယ့်ကြောင့်ပေနည်း'

'အရှင်ဘုရား၊ အချို့သူတို့သည် အစာကို အလန့်တကြား စားသောက်ကာ ဝမ်းလျှော၍ သေကုန်ကြသောကြောင့် ဖြစ်ပါသည်။ အစာသည် အသက်ကို ပေးနိုင်သော်လည်း အတိုင်းအဆ မရှိ စားသောက်ခြင်းကြောင့် ထိုအစာကြောင့်ပင် အသက်သေဆုံးရပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ပရိတ်အရံအတားသည် အချို့ကိုသာ စောင့်ရှောက်၍ အချို့ကိုကား မစောင့်ရှောက်ပေ။ ပဥ္စာနန္တရိယ ကံကြီး ငါးပါးက တားမြစ်ထားသောကြောင့် လည်းကောင်း၊ နိယတ မိစ္ဆာဒိဋ္ဌိ ကိလေသာက တားမြစ်ထားသောကြောင့် လည်းကောင်း၊ ပရိတ်အရံအတားက ကာကွယ်စောင့်ရှောက်ပေးလိမ့်မည်ဟု မယုံကြည်သောကြောင့် လည်းကောင်း ပရိတ်အရံအတားသည် မစောင့်ရှောက်ပေ။

'မင်းမြတ်၊ ဥပမာကား အမိသည် သားကိုမွေးဖွားပြီးလျှင် မစင် အညစ်အကြေးတို့ကို သုတ်သင်ကာ ချစ်ခင်ကြင်နာစွာ ကျွေးမွေးပြုစု၏။ အမွေးနံ့သာများ လိမ်းကျံပေ၏။ ထိုသားငယ် အရွယ်ရောက်လာသောအခါ သူတစ်ပါးကို ရိုက်ပုတ်မိသဖြင့် အစိုးရမင်းတို့ထံ အပ်နှံခြင်း ခံရ၏။ ပြည့်ရှင်မင်း၏ ဥပဒေကို ချိုးဖောက်မိသဖြင့် ထိုသူသည် မင်းချင်းတို့၏ ရိုက်နှက်ပုတ်ခတ် ခြင်းကို ခံရ၏။ ထိုအခါ မိခင်သည် မိမိသားကို မင်းချင်းများလက်မှ ဆွဲယူကင်တင်နိုင်ပါ မည်လော'

'အရှင်ဘုရား၊ ဆွဲယူကယ်တင်ခြင်း မပြုနိုင်ပါ'

'မင်းမြတ်၊ အဘယ့်ကြောင့်ပါနည်း'

'အရှင်ဘုရား၊ မိမိအပြစ်ကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ပရိတ်အရံအတားသည် သတ္တဝါတို့အား စောင့်ရှောက်သော်ငြားလည်း သတ္တဝါတို့မှာ မိမိတို့ အပြစ်ကြောင့် ပရိတ်အရံအတား၏ အကျိုးတရားကို မခံစားကြရချေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ ပြဿနာကို ကောင်းမွန်စွာ ဆုံးဖြတ်နိုင်ပါပေ၏'

## ၅။ ဘုရားရှင် လာဘ်ကို အနှောင့်အယှက် ပြုနိုင်သလော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို ခံယူ ရှိတော်မူ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုတော် မူကြကုန်၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် ပဥ္စသာလ ပုဏ္ဏားရွာသို့ ဆွမ်းခံဝင်တော် မူလတ်သော် တစ်စုံတစ်ရာမျှ မရရှိဘဲ ဆေးမြဲတိုင်းသော သပိတ်ဖြင့် ပြန်လည် ထွက်ခွာတော် မူလာရ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုတော် မူကြကုန်၏။

'အရှင်ဘုရား၊ အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။

အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ဘုရားရှင်သည် ပဉ္စသာလပုဏ္ဏားရွာမှ ဆေးမြတ်တိုင်းသော သပိတ်ဖြင့် ပြန်လည်ထွက်ခွာလာတော် မူရခြင်းမှာ ယုတ်မာသော မာရ်နတ်မင်းက နှောင့်ယှက်ထားသောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် မရေမတွက်နိုင်သော ကမ္ဘာတို့ပတ်လုံး ဘုရားရှင် ဖြည့်ကျင့်တော်မူခဲ့သော ပါရမီ ကုသိုလ်တော်သည် ကုန်ခန်းသွားပြီလော။ ယခုမှ ပေါ်ပေါက် လာသော မာရ်နတ်ယုတ်သည် ထိုပါရမီ ကုသိုလ်တော်၏ အရှိန်အဟုန်ကို မည်သို့ တားဆီး ပိတ်ပင်နိုင်မည်နည်း၊ အကယ်၍ ပိတ်ပင်နိုင်ခဲ့ပါသော် ကုသိုလ်တရားထက် အကုသိုလ်တရားက ပိုမို၍ အားကြီးနေပေ၏။ ဤသို့ နှစ်ဌာနလုံး၌ စွပ်စွဲဖွယ် ဆိုက်ရောက်ပေ၏။ ထိုသို့သာ ဖြစ်ပါမူ သစ်ပင်ရင်းထက် သစ်ပင်ဖျားက ပိုမို၍ လေးနေပေရာ၏'

'မင်းမြတ်၊ ထိုမျှလောက်သော အကုသိုလ်တရားက ကုသိုလ်တရားထက် ပိုမို၍ အားမကြီး နိုင်ပေ။ မာရ်နတ်မင်း၏အားက ဘုရားရှင်၏ အားတော်ထက် ပိုမို၍ အားမကြီးနိုင်ပေ။

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် စကြဝတေးမင်းကို ဆက်သရန် ပျားရည်၊ မုန့်ဆုပ်နှင့် အခြား လက်ဆောင်များကို ယူဆောင်လာရာ၏။ ထို ယောကျ်ားကို ပြည့်ရှင်မင်း၏ တံခါးစောင့်က ဆုတော်လာဘ်တော် မရရှိစေလိုသဖြင့် အချင်း၊ အချိန်ကား ပြည့်ရှင်မင်းအား ဖူးမြင်ရန် အချိန်မဟုတ်ချေ။ သင့်အား ပြည့်ရှင်မင်းက အပြစ်ဒဏ် မပေး သေးမီ အလွန်လျင်မြန်စွာ ပြန်သွားပေလော့ဟု ပြောဆိုရာ၏။ ထိုယောကျ်ားသည် အပြစ်ဒဏ် ခံရမည်ကို ကြောက်လွန်းလှသဖြင့် ပါလာခဲ့သော လက်ဆောင်ပစ္စည်းများကို ယူဆောင်ကာ အဆောတလျင် ပြေးလာခဲ့ရာ၏။ ထိုမျှလောက်သော လက်ဆောင်ပစ္စည်း ချို့တဲ့သွားကာမျှဖြင့် စကြဝတေးမင်းသည် တံခါးစောင့်အောက် တန်ခိုးအာနုဘော် ယုတ်လျော့သွားပါသလော။ စကြဝတေးမင်းသည် အခြားသော လက်ဆောင်ပဏ္ဏာကိုကော မရတော့ပြီလော'

'အရှင်ဘုရား၊ စကြဝတေးမင်းသည် တံခါးစောင့်အောက် တန်ခိုးအာနုဘော် ယုတ်လျော့ မသွားပါ။ အခြားသော တံခါးတို့ဖြင့် ထိုထက် အဆပေါင်း သိန်းသန်းမက များပြားလှသော လက်ဆောင်ပဏ္ဏာတို့ကို ရရှိပေ၏'

'မင်းမြတ်၊ ဤအတူသာပင် မာရ်နတ်မင်းသည် ဘုရားရှင်ကို မကြည်ညိုသဖြင့် ပဉ္စသာလ အမျိုးသားတို့၌ ပူးဝင်ကာ ဆွမ်းတစ်ဇွေမျှ မလောင်းရအောင် ပြုလုပ်ထား၏။ သို့ရာတွင် တစ်သိန်းမကသော နတ်တို့သည် နတ်သုဒ္ဓါတို့ကို ကိုင်ဆောင်ကာ ဘုရားရှင်၏ ကိုယ်တော်၌

မွေးညှင်းပေါက်မှ ထည့်သွင်းရန် ရေးရှုကပ်ရောက်လာကြကုန်၏။ ဘုရားရှင်ကို ရှိခိုးလျက် ရပ်တည်လာကြကုန်၏'

'အရှင်ဘုရား၊ မာရ်နတ်မင်းသည် ဘုရားရှင် ဘုဉ်းပေးတော် မူရမည့် ဆွမ်းဘောဇဉ်ကို ဧကန်အားဖြင့် တားမြစ်နိုင်ခဲ့ပြီ ဖြစ်ပေ၏။ ထိုမျှလောက်ဖြင့် မာရ်နတ်မင်း၏အလို ပြည့်ခဲ့ပြီ ဖြစ်ပေ၏။ အတုမရှိ မြင့်မြတ်တော် မူပေသော ဘုရားရှင်၏ လာဘ်လာဘကို မာရ်နတ်မင်းက အန္တရာယ် ပြုနိုင်စွမ်းရှိနေပြီဖြစ်၍ ထိုအရာဌာန၌ တပည့်တော်၏ စိတ်မှာ ဆုံးဖြတ်နိုင်စွမ်း မရှိနိုင်ပါ။ ယုံမှား သံသယထဲသို့ ပြေးဝင်လျက် ရှိနေပါ၏'

'မင်းမြတ်၊ လာဘ်လာဘကို တားမြစ်ခြင်းတို့ကား မည်သူ့ကို လှူမည်ဟု မရည်ရွယ်ရ သေးဘဲ မျက်ကွယ်မှာ ရှိနေသော လာဘ်လာဘကို တားမြစ်ခြင်း၊ မည်သူ့ကို လှူရမည်ဟု ရည်ရွယ်ပြီးလျှင် မျက်ကွယ်မှာ ရှိနေသော လာဘ်လာဘကို တားမြစ်ခြင်း၊ အလှူခံပုဂ္ဂိုလ်၏ အနီးသို့ ယူဆောင်လာခဲ့ပြီးသော လာဘ်လာဘကို တားမြစ်ခြင်း၊ အလှူခံပုဂ္ဂိုလ် ဘုဉ်းပေး သုံးဆောင်နေဆဲ လာဘ်လာဘကို တားမြစ်ခြင်းဟူ၍ လေးမျိုးရှိကုန်၏။

'မင်းမြတ်၊ မာရ်နတ်မင်းသည် ဘုရားရှင်နှင့် သံဃာတော်များ ဆွမ်းခံ၍ မရရှိစေရန် ပဉ္စသာလ ပုဏ္ဏားတို့ထံ ပူးဝင် နှောင့်ယှက်နေ၏။ ထို့ကြောင့် ဘုရားရှင်နှင့် သံဃာတော်များ သည် ဆေးမြိတိုင်းသော သပိတ်ဖြင့် ပြန်ကြွတော် မူလာကြရ၏။ ပဉ္စသာလပုဏ္ဏားတို့ မလောင်းလိုက်ရသော ထိုဆွမ်းဘောဇဉ်သည် ဘုရားရှင် ဘုဉ်းပေးနေဆဲ လာဘ်လာဘလည်း မဟုတ်ချေ။ ဘုရားရှင် အနီးသို့ ယူဆောင်လာခဲ့ပြီးသော လာဘ်လာဘလည်း မဟုတ်ချေ။ ဘုရားရှင်အား ရည်ရွယ်ထားပြီးသော လာဘ်လာဘလည်း မဟုတ်ချေ။ ဘုရားရှင် ရှေ့တော်မှောက်သို့ မရောက်လာသေးသော လာဘ်လာဘကို မျက်ကွယ်မှနေ၍ တားဆီးခြင်းသာ ဖြစ်၏။ အမှန်အား ဖြင့် ထိုနေရာက ဘုရားရှင်တစ်ပါးတည်း အတွက်သာ တားဆီးခြင်း မဟုတ်ပေ။ ထိုနေ့က ပဉ္စသာလရွာသို့ ဆွမ်းခံဝင်လေသမျှ အရှင်အားလုံးလည်း ဆွမ်းမရကြသည်သာ ဖြစ်ကြကုန်၏။

'မင်းမြတ်၊ မည်သူ တစ်စုံတစ်ယောက်မျှ တားဆီးပိတ်ပင်၍ မရနိုင်သော ဘုရားရှင်၏ ဂုဏ်တော်လေးပါးတို့ကား ဘုရားရှင်အား ရည်စူးကာ ဘုရားရှင် ရှေ့တော်မှောက်သို့ ရောက်ရှိ လာပြီးသော လာဘ်လာဘကို မည်သူ တစ်စုံတစ်ယောက်ကမျှ မတားဆီး မပိတ်ပင်နိုင်ခြင်း၊ ဘုရားရှင် ကြွတော်မူလေရာသို့ အစဉ် လိုက်ပါလျက်ရှိသော တစ်လံမျှလောက်သော ရောင်ခြည်တော်ကို မည်သူ တစ်စုံတစ်ယောက်ကမျှ မတားဆီး မပိတ်ပင်နိုင်ခြင်း၊ ဘုရားရှင်၏ သဗ္ဗညုတဉာဏ်တော်ကို မည်သူတစ်စုံတစ်ယောက်ကမျှ မတားဆီး မပိတ်ပင်နိုင်ခြင်း၊ ဘုရားရှင် ၏ အသက်ကို မည်သူတစ်စုံတစ်ယောက်ကမျှ မသတ်ဖြတ်နိုင်ခြင်းတို့ ဖြစ်ကြကုန်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် တိုင်းစွန် နယ်ဖျား အရပ်တို့၌ ခိုးသားတို့သည် လမ်းခရီး၌

ပုန်းလျှိုးခိုအောင်း၍ ခရီးသွားများအား လုယက်တိုက်ခိုက် ကြကုန်ရာ၏။ ထိုခိုးသားတို့ကို ပြည့်ရှင်မင်းက အကယ်၍ ဖမ်းမိငြားအံ့။ ထိုခိုးသားတို့သည် အသက်ချမ်းသာရာ ရကြပါမည်လော'

'အရှင်ဘုရား၊ မရနိုင်ပါ။ ထိုခိုးသားတို့ကို ပုဆိန်ဖြင့် အစိတ်ရာထောင် ခုတ်ထစ်ရန် အမိန့်ချမည်သာ ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ယုတ်မာလှသော မာရ်နတ်မင်းသည် မမြင်နိုင်အောင် ပုန်းကွယ်၍ ပဥ္စသာလပုဏ္ဏားတို့ထံ ပူးဝင်၍ အတားအဆီးပြု၏။ ယုတ်မာသော မာရ်နတ်မင်းသည် ဘုရားရှင်အား ရည်မှန်းထားပြီးသော လာဘ်လာဘကို လည်းကောင်း၊ ဘုရားရှင်အား ရည်မှန်းထားပြီးလျှင် ဘုရားရှင် ရှေ့တော်မှောက်သို့ အရောက် ပို့ဆောင်ထားပြီးသော လာဘ်လာဘကို လည်းကောင်း၊ ဘုရားရှင် ဘုဉ်းပေး သုံးဆောင်တော်မူလျက်ရှိသော လာဘ်လာဘကို လည်းကောင်း အကယ်၍ တားဆီးပိတ်ပင်ငြားအံ့။ မာရ်နတ်မင်း၏ ဦးခေါင်းသည် အစိတ်ရာထောင် ကွဲလေရာ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အရှင်ဘုရား ဖြေကြားတော်မူသည့်အတိုင်း တပည့်တော် ဝန်ခံပါ၏'

[ ကျမ်းရင်း၌ မာရ်နတ်မင်းက ပုန်းကွယ်၍ တားဆီးခြင်းကို လင်ယောကျ်ား မျက်ကွယ်တွင် ယောကျ်ားတစ်ပါးနှင့် ဖောက်ပြားကျူးလွန်သော မိန်းမနှင့်လည်း ဥပမာ ပြုသေး၏။]

## ၆။ မသိ၍ အတူသိုလ်ပြုတိုင်း အပြစ်ကြီးသလော

'အရှင်နာဂသေနဘုရား၊ မသိ၍ သူတစ်ပါးအသက် သတ်သောသူသည် အလွန်တရာ အားကြီးလှစွာသော မကောင်းမှုကို တိုးပွားစေ၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ထိုမှတစ်ဖန် ဝိနည်းပညတ်ပေါ်တွင် မသိသော ရဟန်းအား အာပတ်မသင့်ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှားခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ စကားနှစ်ရပ်လုံးကိုပင် ဘုရားရှင် ဟောကြားတော်မူပေ၏။ မသိသော ရဟန်းအား အာပတ်မသင့် ဟူသော နောက်စကား၌ကား အဓိပ္ပာယ်အထူးရှိ၏။ အာပတ်ခုနစ်ဖုံတို့တွင် ပညတ်တော်ကို မသိ၍ လွတ်သော အာပတ်လည်း ရှိ၏။ ပညတ်တော်ကို မသိသော်လည်း မလွတ်သော အာပတ်လည်းရှိ၏။ ပညတ်တော်ကို

မသိ၍ လွတ်နိုင်သော အာပတ်ကို အကြောင်းပြု၍သာလျှင် နောက်စကားကို ဘုရားရှင် ဟောတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၇။ ဘုရားရှင်သည် ရဟန်းသံဃာကို တွယ်တာသလော

'အရှင်နာဂသေနဘုရား၊ အာနန္ဒာ၊ ငါဘုရားသည် ရဟန်းသံဃာကို ငါသာလျှင် ထိန်းသိမ်း ချုပ်ကိုင်သွားမည်ဟူ၍လည်းကောင်း၊ ရဟန်းသံဃာသည် ငါ့ကိုသာလျှင် ဆရာတင်နေရမည် ဟူ၍လည်းကောင်း ငါဘုရား၌ ဤသို့သော တွယ်တာမှုမရှိချေဟု ဘုရားရှင် မိန့်ကြားတော် မူခဲ့၏။ ထိုမှတစ်ဖန် အရိမေတ္တယျ ဘုရားရှင် သဘာဝ ဂုဏ်တော်တို့ကို ဟောကြားတော် မူရာတွင် ယခုအခါ ငါဘုရားသည် ရာပေါင်းများစွာသော ရဟန်းသံဃာကို ထိန်းသိမ်း ချုပ်ကိုင် သွားသကဲ့သို့ပင် နောင်အခါ၌ အရိမေတ္တယျ ဘုရားရှင်သည်လည်း ထောင်ပေါင်းများစွာသော ရဟန်းသံဃာကို ထိန်းသိမ်းချုပ်ကိုင်၍ သွားပေလတ္တံ့ဟု မိန့်ကြားတော်မူခဲ့ပြန်၏။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ငြားအံ့၊ နောက်စကား သည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ငြားအံ့၊ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားရှင်ထံ ကပ်ရောက်လာ၏။ ဤ ပြဿနာကို ဖြေရှင်းတော်မူပါလော'

'မင်းမြတ်၊ စကား နှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ထိုစကား နှစ်ရပ်တို့တွင် ရှေ့စကား၏ အနက်အဓိပ္ပာယ်သည် ခြွင်းချက်ရှိ၍ နောက်စကား၏ အနက် အဓိပ္ပာယ်ကား ခြွင်းချက် မရှိပေ။ ရဟန်း သံဃာကို ထိန်းသိမ်းချုပ်ကိုင်တော်မူသည် ဆိုသော်လည်း ဘုရားရှင်သည် ရဟန်း သံဃာ အပေါ်၌ 'ငါ့ဟာ' ဟူ၍ တွယ်တာ ကပ်ငြိခြင်း ကင်းတော်မူပေ၏။

'မင်းမြတ်၊ ဉပမာအားဖြင့် သတ္တဝါအားလုံးတို့သည် မြေကြီးမှာသာ တည်နေရကုန်၏။ သို့ရာတွင် မြေကြီးသည်ကား ဤ သတ္တဝါတို့သည် ငါ့ဥစ္စာတည်းဟူ၍ တွယ်တာကပ်ငြိခြင်း မရှိပေ။ မင်းမြတ်၊ ဤအတူသာပင် သတ္တဝါများကသာ ကောင်းကျိုးချမ်းသာကို အလိုရှိကြ သဖြင့် ဘုရားရှင်ထံ မှီခို လာကြရကုန်၏။ ဘုရားရှင်မှာကား မှီခို လာကြသော သတ္တဝါတို့ အပေါ် ငါ့ဟာ ဟူ၍ တွယ်တာ ကပ်ငြိခြင်း ကင်းတော်မူပေ၏။ 'ငါ' ဟူသော အယူမှားကို ပယ်စွန့်ပြီး ဖြစ်သောကြောင့်ပေတည်း'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ "ရှေ့စကားတွင်ကား ခြွင်းချက် ရှိပေ၏ ဟူသည်မှာ ဘုရားရှင်သည် သတ္တဝါအများတို့အား ကောင်းကျိုး ချမ်းသာ တိုးပွားလာစေရန် သာသနာတော်ကြီးကို တည်ထောင်တော် မူခဲ့၏။ သာသနာ့ ဝန်ထမ်း ရဟန်းများကို ရှေ့ဆောင် ရှေ့ရှုက် ပြုတော်မူ၏။ ဤသို့ လောက၏ အကျိုးငှာ ရှေ့ဆောင်

ရှေ့ရှုက်ပြုတော်မူသော်လည်း ဘုရားရှင်သည် ရဟန်းသံဃာအပေါ် တွယ်တာကပ်ငြိမှု ကင်းရှင်းတော်မူ၏။ ဤသို့ ရဟန်းသံဃာကို ထိန်းသိမ်း ချုပ်ကိုင်မှု ပြုတော်မူရုံမျှသာ ရှိ၍ တွယ်တာ ကပ်ငြိမှု မပါဝင်ချေ။ ဤသို့ ခွဲခြား ချက်ထား၍ နားလည် သဘောပေါက်ကြရန် ဖြစ်ပေ၏။]

## ၈။ ဘုရားရှင်၏ ပရိသတ်သည် ပြိုကွဲနိုင်သလော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် မပြိုကွဲသော ပရိသတ် ရှိတော်မူ၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုတော်မူကြ၏။ ထိုမှတစ်ဖန် ဒေဝဒတ်သည် ရဟန်းငါးရာတို့ကို တစ်ချိန်တည်းမှာပင် သင်းခွဲခေါ်ဆောင် သွားလေ၏ ဟူ၍လည်း မိန့်ဆိုတော် မူကြပြန်၏။

'အရှင်ဘုရား၊ ထို စကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့၊ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤ ပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ရဟန်း ငါးရာအား သင်းခွဲ ခေါ်ဆောင်ခြင်းမှာ သင်းခွဲသူ၏ အစွမ်းကြောင့်သာ ဖြစ်ပေါ်လာ၏။ ခွဲဖျက်မည့်သူ ရှိလျှင် မကွဲပျက်သည့် အရာ ဟူ၍ မရှိချေ။ သင်းခွဲဖျက်ဆီးသူ ရှိလာလျှင် သားနှင့်အမိ၊ သားနှင့်အဖ၊ မောင်နှင့် နှမ၊ မိတ်ဆွေ အချင်းချင်းတို့ သင်းကွဲကြရကုန်၏။ သစ်အမျိုးမျိုးတို့ဖြင့် ဖွဲ့စပ်ထားသော လှေသည် လှိုင်းလေ ပုတ်ခတ်ခြင်းကြောင့် ပျက်စီးရ၏။ ပျားကဲ့သို့ ချိုမြိန်သော အသီးသီးသော သစ်ပင် သည် လေကြမ်း တိုက်ခတ်ခြင်းကြောင့် လဲပြိုရ၏။ အမျိုးမှန်သော ဇမ္ဗူရာဇ် ရွှေစင်သည် ကြေးနီ အရောနှောခံရ၍ ပျက်စီးရ၏။

'မင်းမြတ်၊ ဘုရားရှင်သည် ဘုရားလောင်းဘဝများ၌ ပါရမီဖြည့်ကျင့်တော် မူစဉ်က ပေးကမ်း လှူဒါန်းခြင်း၊ ချစ်ခင်ဖွယ် စကားပြောကြားခြင်း၊ အကျိုးစီးပွားကို ဆောင်ရွက်ခြင်း၊ မိမိအခြွေအရံ ပရိသတ်ကို မိမိနှင့် ထပ်တူသဘောထားခြင်းဟူသော သင်္ဂဟဝတ္ထု လေးပါး တို့ဖြင့် ကောင်းမွန်စွာ မကျင့်မိသောကြောင့် အခြွေအရံ ပရိသတ်တို့ ပြိုကွဲလေ၏ ဟူ၍ မကြားစဖူးချေ။ ဘုရားလောင်း ဘဝက ချို့တဲ့ချက် တစ်ခုခုကြောင့် အခြွေအရံ ပရိသတ်တို့ ပြိုကွဲကြောင်းကို သင် မင်းမြတ် ကြားဖူးခဲ့ပါသလော'

'အရှင်ဘုရား၊ မကြားဖူးပါ'

'မင်းမြတ်၊ ဘုရားရှင်သည် မပြိုကွဲသော ပရိသတ် ရှိတော်မူ၏ဟု ဆိုရခြင်းမှာ ထိုကဲ့သို့သော ချို့တဲ့ချက် တစ်ခုခုကို အကြောင်းပြုကာ ပြိုကွဲသော ပရိသတ် မရှိခြင်းကြောင့်သာ ဖြစ်ပေ၏။ သူတစ်ပါးတို့ ခွဲဖျက်၍ ပြိုကွဲ ပျက်စီးခြင်းကို မဆိုလိုပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'




## ၁။ တရားနှင့် ရဟန်း မည်သည်က မြတ်သနည်း

'အရှင်နာဂသေနဘုရား၊ ဝါသေဋ္ဌ၊ တရားသည်သာလျှင် ထိုလူ အပေါင်းဝယ် မျက်မှောက် ဘဝ၌ လည်းကောင်း၊ တမလွန် ဘဝ၌လည်းကောင်း အမြတ်ဆုံးပေတည်း ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှ တစ်ဖန် အပါယ်တံခါး ပိတ်လေပြီးသော မဂ်ဉာဏ်ဖြင့် နိဗ္ဗာန်ကို မျက်မှောက်ပြုပြီးသော သိက္ခာသုံးရပ်တည်း ဟူသော သာသနာတော်ကို သိလေပြီးသော၊ သောတာပန် ဖြစ်သော လူဒါယကာသည် ပုထုဇဉ် ဖြစ်သော ရဟန်းကို လည်းကောင်း၊ သာမဏေကို လည်းကောင်း ရှိခိုးရ၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ သောတာပန် ဖြစ်သော လူဒါယကာက ပုထုဇဉ်ဖြစ်သော ရဟန်း၊ သာမဏေကို ရှိခိုးရခြင်းမှာ ရဟန်းတို့၏ ကျင့်ဝတ် နှစ်ဆယ်နှင့် ရဟန်းတို့၏ အသွင်အပြင် နှစ်မျိုးတို့ကြောင့် ဖြစ်ပေ၏။ ရဟန်းတို့၏ ကျင့်ပတ် နှစ်ဆယ်ကား...

- ၁။ တရားဘာဝနာ၌ မွေ့လျော်ခြင်း
- ၂။ တစ်လ နှစ်ကြိမ် ဥပုသ်ပြုခြင်း
- ၃။ ဆွမ်းခံခြင်း
- ၄။ ကောင်းမွန်စွာ ဝတ်ရုံနေထိုင်ခြင်း
- ၅။ စက္ခု စသော ဣန္ဒြေကို စောင့်စည်းခြင်း

၆။ ကိုယ်နှုတ်နှလုံးကို စောင့်စည်းခြင်း
၇။ အချမ်းအပူ စသည်ကို သည်းခံခြင်း
၈။ ကောင်းသောအကျင့်၌ မွေ့လျော်ခြင်း
၉။ တစ်ပါးတည်း တရားကျင့်ခြင်း
၁၀။ တစ်ပါးတည်း မွေ့လျော်ခြင်း
၁၁။ တစ်ပါးတည်း ကိန်းအောင်းခြင်း
၁၂။ မကောင်းမှုမှ ရှက်ခြင်း
၁၃။ မကောင်းမှုကို ကြောက်ခြင်း
၁၄။ ကောင်းမှုကို ပြုစုအားထုတ်ခြင်း
၁၅။ ကုသိုလ်ကောင်းမှု၌ မမေ့လျော့၊ မပေါ့ဆခြင်း
၁၆။ သိက္ခာပုဒ်ကို ကောင်းစွာ ခံယူခြင်း
၁၇။ ဘုရားဟော ပါဠိတော်ကို သင်ယူခြင်း
၁၈။ အဋ္ဌကထာကို သင်ယူခြင်း
၁၉။ သီလစသော သိက္ခာသုံးပါး၌ မွေ့လျော်ခြင်း
၂၀။ တပ်မက်မောမှု ကင်းလွတ်ခြင်းတို့ ဖြစ်ကြ၏။

'မင်းမြတ်၊ ရဟန်းတို့၏ အသွင်အပြင်နှစ်မျိုးကား–

၁။ ဖန်ရည်ဆိုးသောသင်္ကန်းဝတ်ရုံခြင်း
၂။ ခေါင်းတုံးတုံးထားခြင်းတို့ ဖြစ်ကြ၏။

'မင်းမြတ်၊ ရဟန်းသည် ဤကျင့်ဝတ် ဂုဏ်ကျေးဇူးတို့ကို အထူးသဖြင့် လုံခြုံစွာ ပြည့်စုံစွာ ကျင့်သောကြောင့် သိက္ခာသုံးရပ်တို့ ကြီးပွားရာ ဖြစ်သော အရဟတ္တမဂ်၊ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်နိုင်ပေ၏။ အရဟတ္တမဂ်၊ အရဟတ္တဖိုလ် အနီးသို့ ဆိုက်ရောက်သော အကျင့်ရှိပေ၏ ဟူ၍ လည်းကောင်း၊

'ထိုပုထုဇဉ် ရဟန်းသည် ရဟန္တာပုဂ္ဂိုလ်တို့နှင့် တူသော အသွင်အပြင်၊ ရဟန္တာပုဂ္ဂိုလ်တို့နှင့်တူသော အကျင့်သို့ ဆိုက်ရောက်ပေ၏။ ငါသည်ကား ထိုကဲ့သို့သော အသွင်အပြင်ကို မရရှိခဲ့ချေ' ဟူ၍ လည်းကောင်း။

'ထိုပုထုဇဉ် ရဟန်းသည် မြင့်မြတ်သော အသင်းအပင်းသို့ ကပ်ရောက်ပေ၏။ ငါသည်ကား ထိုမြင့်မြတ်သော အသင်းအပင်းသို့ မကပ်ရောက်ချေ' ဟူ၍ လည်းကောင်း၊

'ထိုပုထုစဉ် ရဟန်းသည် အာဏာပါတိမောက် ရွတ်ဆိုပြနေခြင်းကို နာယူခွင့် ရပေ၏။ ငါသည်ကား ထိုအခွင့်ကို မရချေ' ဟူ၍ လည်းကောင်း၊

'ထိုပုထုဇဉ်ရဟန်းသည် အခြားသူတို့ကို ရှင်ပြုပေးနိုင်၏။ ရဟန်းခံပေးနိုင်၏။ သာသနာတော်ကို တိုးပွားစေနိုင်၏။ ငါသည်ကား ထိုအမှုမျိုးကို မပြုလုပ်နိုင်ချေ' ဟူ၍ လည်းကောင်း၊

'ထိုပုထုဇဉ်ရဟန်းသည် များပြားလှကုန်သော သိက္ခာပုဒ်တို့ကို ပြည့်စုံစွာ ကျင့်နိုင်ပေ၏။ ငါသည်ကား ထိုသိက္ခာပုဒ်တို့ကို မကျင့်နိုင်ချေ' ဟူ၍ လည်းကောင်း၊

'ထိုပုထုဇဉ်ရဟန်းသည် ရှည်လျားလှသော လက်ကတီးမွေးတို့ကို မနုတ်မပယ်ဘဲ ထား၏။ မျက်ခွံကို ဆေးမခြယ်။ ကိုယ်ပေါ်ဝယ် အဆင်တန်ဆာမရှိ။ သီလတည်းဟူသော နံ့သာကိုသာ အစဉ်ထာဝရ လိမ်းကျံထား၏။ ငါသည်ကား အလှပြုပြင်၊ တန်ဆာဆင်ခြင်း၌ မွေ့လျော်ချေ၏' ဟူ၍ လည်းကောင်း၊

'ထိုပုထုဇဉ် ရဟန်းအား ရဟန်းတို့၏ ကျင့်ဝတ်နှစ်ဆယ်နှင့် ရဟန်းတို့၏ အသွင်အပြင် နှစ်မျိုးတို့ ရှိကြကုန်၏။ ထိုပုထုဇဉ် ရဟန်းသည်ပင် ထိုကျင့်ဝတ်တို့ကို မိမိကိုယ်တိုင်လည်း ကျင့်သုံးပေ၏။ သူတစ်ပါးတို့ကိုလည်း ကျင့်သုံးစေ၏။ ငါသည်ကား မိမိကိုယ်တိုင်လည်း မကျင့်သုံးနိုင်ချေ။ သူတစ်ပါးတို့ကိုလည်း ကျင့်သုံးရန် မတိုက်တွန်းနိုင်ချေ' ဟူ၍ လည်းကောင်း နှလုံးသွင်းလျက် သောတာပန် ဖြစ်သော လူဒါယကာသည် ပုထုဇဉ်ဖြစ်သော ရဟန်းကို ရှိခိုး ထိုက်ပေ၏။ ခရီးဦး ကြိုဆိုထိုက်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ပြည့်ရှင်မင်း၏ သားသည် ဆရာပုရောဟိတ်ထံ၌ အတတ်ပညာကို သင်ယူ၏။ မင်းတို့၏ ကျင့်ဝတ်ကို သင်ယူ၏။ နောင်အခါ၌ ထိုမင်းသားသည် ပြည့်ရှင်မင်းဖြစ်၍ အဘိသိက်သွန်းခြင်း ခံယူပြီးလျှင် 'ဤသည်ကား ငါ၏ ဆရာပေတည်း' ဟု နှလုံးသွင်းလျက် ဆရာ ပုရောဟိတ်ကို ရှိခိုး၏။ ခရီးဦး ကြိုဆို၏။ ဤအတူသာပင် ပုထုဇဉ်ရဟန်းသည်ပင် ကျင့်ဝတ် သိက္ခာပုဒ်ကို ကျင့်စေပေ၏။ သာသနာ့ အနွယ်ကို အစဉ်မပျက်အောင် သယ်ဆောင်ပေ၏' ဟု နှလုံးသွင်း၍ သောတာပန် ဖြစ်သော လူဒါယကာသည် ပုထုဇဉ်ဖြစ်သော ရဟန်းကို ရှိခိုး ထိုက်ပေ၏။ ခရီးဦး ကြိုဆိုထိုက်ပေ၏။

'မင်းမြတ်၊ ဤဆိုလတ္တံ့သော အကြောင်းဖြင့်လည်း ရဟန်းအဖြစ်၏ အတုမရှိ မြင့်မြတ်သော အဖြစ်ကို သိပါလော့။ သောတာပန် ဖြစ်သော လူဒါယကာသည် မဂ်အဆင့်ဆင့် တက်လှမ်းကာ အရဟတ္တဖိုလ်ကို အကယ်၍ မျက်မှောက်ပြုငြားအံ့။ ထိုဒါယကာသည် ထိုနေ့မှာပင် ပရိနိဗ္ဗာန်သော်လည်း ပြုရာ၏။ ရဟန်းဘောင်သို့လည်း ဝင်ရောက်ရာ၏။ ဤလမ်းနှစ်သွယ်မှ တစ်ပါး အခြားလမ်းဟူ၍ မရှိချေ။ ထိုသို့ လမ်းနှစ်သွယ်သာ ရှိခြင်း၏ အကြောင်းသော်ကား ရဟန်းအဖြစ်သည် မတုန်မလှုပ် အလွန် မြင့်မြတ်သောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၂။ ဘုရားရှင်သည် သတ္တဝါတို့ကို အကျိုးယုတ်စေသလော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် သတ္တဝါအားလုံးတို့၏ အကျိုးမဲ့ခြင်းကို ပယ်ဖွန့်ကာ အကျိုးစီးပွား တိုးတက်ရေးကို ဆောင်ရွက်တော်မူ၏ဟု အရှင်ဘုရားတို့ မိန့်ဆိုကြ ကုန်၏။ ထိုမှတစ်ဖန် အဂ္ဂိခန္ဓောပမသုတ်ကို ဘုရားရှင် ဟောတော်မူသောအခါ ရဟန်းခြောက်ကျိပ် တို့သည် သွေးအန်ကြကုန်၏' ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြကုန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက် လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံး မှန်ကန်ပေ၏။ အဂ္ဂိခန္ဓောပမသုတ်ကို ဟောကြားရာ၌ ရဟန်း ခြောက်ကျိပ်တို့ သွေးအန်ရခြင်းမှာ ဘုရားရှင်က တရားဟောခြင်းကြောင့် မဟုတ်ပေ။ ထိုရဟန်းတို့ ပြုလုပ်ခဲ့သော အကုသိုလ်ကံ ကြောင့်သာ ဖြစ်ပေ၏။ အကျင့် ဖောက်ပြန်သော ထိုရဟန်းတို့သည် ဘုရားရှင်၏ အဂ္ဂိခန္ဓောပမသုတ် ဒေသနာတော်ကို ကြားနာကြရသောအခါ သူတို့၏ ကိုယ်တစ်ခုလုံး ပူလောင်လာ၏။ ကိုယ်ပူလောင်ခြင်းကြောင့် ထိုရဟန်းတို့၏ ခံတွင်းမှ သွေးပွက်ပွက်အန်ကြ ရကုန်၏'

'အရှင်ဘုရား၊ အကယ်၍ ဘုရားရှင်သည် အဂ္ဂိခန္ဓောပမသုတ်ကို ဟောကြားတော် မမူခဲ့လျှင် ထိုရဟန်းခြောက်ကျိပ်တို့ သွေးအန်ကြပါမည်လော'

'မင်းမြတ်၊ သွေးအန်ကြမည် မဟုတ်ပေ'

'အရှင်ဘုရား၊ ဥပမာအားဖြင့် မြေမှုန့် အလိုရှိသော ယောကျ်ားတစ်ယောက်သည် မြွေ ဝင်ရောက်နေသော တောင်ပို့ကို တူးဖြိုရာ၏။ တောင်ပို့မှ တွင်းပေါက်ကို မြေမှုန့်များ ပိတ်ဆို့ကာ လေကို မရှူရှိုက်နိုင်သဖြင့် တောင်ပို့အတွင်းမှာ ရှိသော မြွေသည် သေလေရာ၏။ သို့ဖြစ်လျှင် ထိုမြွေသည် ထိုယောကျ်ား၏ လုံ့လပယောဂကြောင့် သေရသည် မဟုတ်ပါလော'

'မင်းမြတ်၊ ဟုတ်ပေ၏'

'အရှင်ဘုရား၊ ဤအတူသာပင် ဘုရားရှင်၏ တရား ဒေသနာတော်ကြောင့် ထိုရဟန်းတို့ သွေးအန် ကြရပေသည်တကား။ ဘုရားရှင်သည် ထိုရဟန်းတို့ အကျိုးမဲ့ ပျက်စီးစေရန် ပြုတော် မူပေသည်တကား'

'မင်းမြတ်၊ ဘုရားရှင်သည် အကျိုးမဲ့ ပျက်စီးစေရန် ပြုတော်မမူပေ။ ဥပမာအားဖြင့် လယ်သမားသည် စပါးစိုက်ပျိုးလိုသဖြင့် လယ်ကို ထွန်ယက်၏။ ထိုသို့ ထွန်ယက်ရာတွင် တစ်သိန်းမကသော မြက်ပင်တို့သည် သေကျေပျက်စီးကြကုန်၏။ ဤအတူသာပင် ဘုရားရှင်

သည် စိတ်ဓာတ် ရင့်ကျက်ပြီးသော ပုဂ္ဂိုလ်တို့ သိရှိကြစေရန် ချစ်ခင်ခြင်း၊ မုန်းတီးခြင်း၊ ကင်းစွာ တရားဟောတော်မူ၏။ ထိုတရားတော်ကို ကြားနာရ၍ တရားတော်နှင့်အညီ ကျင့်သုံး နေထိုင်သော သူတို့သည် သစ္စာလေးပါးတို့ သိမြင်ကြကုန်၏။ တရားတော်နှင့် မညီဘဲ အကျင့်ဖောက်သော သူတို့သည်ကား အကျိုးမဲ့ သေကျေပျက်စီးကြကုန်၏'

'အရှင်ဘုရား၊ ထိုခြောက်ကျိပ်သော ရဟန်းတို့သည် အဂ္ဂိခန္ဓောပမသုတ် ဒေသနာတော် ကြောင့်သာလျှင် သွေးအန်ကြရသည် မဟုတ်ပါလော'

'မင်းမြတ်၊ သစ်ရွေသမားတို့သည် သစ်ကို ဖြောင့်အောင်၊ ချောအောင် ရွေကြသောအခါ သစ်ကိုငဲ့ညှာကြပါသလော'

'အရှင်ဘုရား၊ ငဲ့ညှာမနေကြပါ။ သစ်ကိုဖြောင့်အောင်၊ ချောအောင် ပယ်သင့်သည်ကို ခုတ်ပယ်၍သာ ရွေကြပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် ပရိသတ်ကို ငဲ့ညှာနေပါလျှင် သစ္စာလေးပါး တရားတော်ကို ဝေနေယျတို့ သိအောင် မြင်အောင် ဟောတော်မူနိုင်မည် မဟုတ်ချေ။ ထို့ကြောင့်ပင် အကျင့်ဖောက်ပြန် သူတို့ကို ပယ်ရှားကာ ကျွတ်ထိုက်သော ဝေနေယျတို့ သိလာမြင်လာစေရန် တရားဟောတော်မူ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ငှက်ပျောပင်၊ ဝါးပင်နှင့် အဿတိုရ် မြင်းမတို့သည် မိမိတို့၏အသီး၊ မိမိတို့၏ သားငယ်ကြောင့် သေဆုံးကြရကုန်၏။ ဤအတူသာပင် ထိုရဟန်းခြောက်ကျိပ်တို့သည် မိမိတို့၏ အကုသိုလ်ကံကြောင့်သာလျှင် သွေးအန်၍ ပျက်စီးကြရကုန်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် လူတစ်ယောက်သည် လူအပေါင်းအား အမြိုက်သုဓာဘုတ်ကို ပေးလှူရာ၏။ လူအများသည် ထိုအမြိုက်သုဓာဘုတ်ကို စားသောက်၍ အသက်ရှည်ကာ ရောဂါကင်းကြကုန်၏။ လူတစ်ယောက်သည်ကား ထိုအမြိုက်သုဓာဘုတ်ကိုပင် မဆင်မခြင် စားသောက်သဖြင့် သေဆုံးရာ၏။ ထိုသို့ သေဆုံးရသောကြောင့် အမြိုက်သုဓာဘုတ် ပေးလှူသူမှာ အကုသိုလ် တစ်စုံတစ်ရာ ကပ်ရောက်လာမည်လော'

'အရှင်ဘုရား၊ ကပ်ရောက်မလာပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် တစ်သောင်းသော လောကဓာတ်၌ နတ်လူတို့အား သေခြင်းကင်းရာ တရားအလှူတော်ကြီးကို ပေးလှူတော်မူ၏။ ကျွတ်တမ်း ဝင်ထိုက်သော သူတို့သည် ထိုသေခြင်း ကင်းရာ တရားအလှူတော်ကြီးကို ခံယူကျင့်သုံးကာ သစ္စာလေးပါးကို သိမြင်ကြကုန်၏။ မကျွတ်ထိုက်သော သူတို့သည်ကား ထိုတရား အလှူတော်ကြီးကို မကောင်း စိတ်ဖြင့် ခံယူကြသဖြင့် သေကျေပျက်စီးကြရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ကျမ်းရင်း၌ အင်္ဂုတ္တိုရ်ပမသုတ် ဒေသနာတော်ကို ကြားနာရခြင်းကြောင့် ရဟန်းခြောက်ကျိပ်တို့ သွေးအန်ကြရပုံကို သစ်ပင်လှုပ်ရာတွင် အညာမခိုင်သော သစ်သီးများ ကြွေကျခြင်း၊ ကြိုညစ်ရာတွင် ကြိမှာပါသော ပိုးမွှားများ သေဆုံးကြရခြင်းတို့နှင့် ဥပမာပြုသေး၏။

ထိုရဟန်းခြောက်ကျိပ်တို့ မိမိတို့ အကုသိုလ်ကံကြောင့် သွေးအန် သေဆုံးကြရပုံကို မိမိပြစ်မှု အားလျော်စွာ ပြစ်ဒဏ်စီရင်ခြင်း ခံရသော ခိုးသားများ၊ အသက်ရှင်စေတတ်သော အစားအစာတို့ကို မဆင်မခြင် စားသောက်၍ သေရသူများနှင့်လည်း ဥပမာပြုသေး၏။]

## ၃။ ဘုရားရှင်သည် လျှို့ဝှက်အင်္ဂါကို တကယ်ပြသလော

'အရှင်နာဂသေနဘုရား၊ ကိုယ်ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏။ နှုတ်ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏။ စိတ်ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏။ ကိုယ်နှုတ်စိတ် သုံးပါးလုံး ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏ ဟူ၍ ဘုရားရှင် ဟောကြားတော်မူ၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် ပရိသတ် လေးပါးအလယ်မှာ ထိုင်တော်မူလျက် သေလပုဏ္ဏားအား အရေခွံဖြင့် ဖုံးအုပ်ထားသော အင်္ဂါဇာတ်ကို ပြတော်မူ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပြန်ပါ၏။

အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ သေလပုဏ္ဏားသည် အခြားသော လက္ခဏာတော်ကြီးကို ဖူးမြင်ရသော်လည်း ထိုလက္ခဏာတော်ကို မဖူးမြင်ရသေးသဖြင့် ဘုရားစင်စစ် ဧကန် ဖြစ်မှုဖြစ်ပါ၏လောဟု သံသယ ဖြစ်ပွားနေ၏။ သေလပုဏ္ဏား၏ ထိုသံသယကို ပယ်ဖျောက်၍ သိရေး မြင်ရေး တရားပေးတော် မူနိုင်ရန် အင်္ဂါဇာတ်ပုံတူ တစ်ခုကို တန်ခိုးတော်ဖြင့် ဖန်ဆင်း၍ ပြတော်မူပေ၏။ အာရုံကို သေလပုဏ္ဏား တစ်ယောက်တည်းသာ မြင်ရ၏'

'အရှင်ဘုရား၊ ပရိသတ်အလယ်မှာနေသောသူ တစ်ယောက်တည်းသာ မြင်ရ၍ အခြားသူများ မမြင်ရ ဟူသော စကားကို အဘယ်သူ ယုံနိုင်လိမ့်မည်နည်း။ အကြောင်းပြ၍ မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ရောဂါဝေဒနာ နှိပ်စက်ခြင်း ခံရ၍ ဆွေမျိုး မိတ်သင်္ဂဟတို့က ဝိုင်းဝန်း ပြုစုနေပါသော လူနာတစ်ယောက်ကို မြင်ဖူးပါ၏လော'

'အရှင်ဘုရား၊ မြင်ဖူးပါ၏'

'မင်းမြတ်၊ ထိုလူနာ ခံစားနေရသော ဝေဒနာကို ဝိုင်းဝန်း ပြုစုနေကြသူများ မြင်ကြရပါ၏လော'

'အရှင်ဘုရား၊ မမြင်ကြရပေ။ လူနာတစ်ယောက်တည်းသာ ရောဂါဝေဒနာ ခံစားနေရပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ယုံမှားသံသယ ဖြစ်ပွားနေသူအား ထိုသံသယ ပယ်ဖျောက်၍ တရားသိစေရန် တန်ခိုးတော်ဖြင့် အင်္ဂါဇာတ် ပုံတူကို ပြတော်မူပေ၏'

'အရှင်ဘုရား၊ မည်သူ့အားမျှ မပြသင့် မပြထိုက်သော အင်္ဂါဇာတ်ကို ပြသခြင်းဖြင့် ဘုရားရှင်သည် ပြုနိုင်ခဲသော အမှုကို ပြုတော်မူပေသည်တကား'

'မင်းမြတ်၊ အင်္ဂါဇာတ်အစစ်ကို ပြတော်မမူပေ။ ပုံတူကိုသာ ပြတော်မူ၏'

'အရှင်ဘုရား၊ ပုံတူကို ပြတော်မူသော်လည်း အင်္ဂါဇာတ်ဖြစ်ကြောင်း ဧကန် သိနိုင်သည်သာတည်း'

'မင်းမြတ်၊ ဥပမာအားဖြင့် ကျွမ်းကျင်လိမ္မာသော ဆေးသမားသည် လူနာထံ ချဉ်းကပ်ပြီးလျှင် အနာရောဂါ ပျောက်စေနိုင်သော ဆေးကို တိုက်ကျွေး၏။ အန်ဆေး တိုက်သင့်သူကို အန်ဆေးတိုက်၊ ဝမ်းနုတ်ဆေး တိုက်သင့်သူကို ဝမ်းနုတ်ဆေးတိုက်၏။ လိမ်းဆေးပေးသင့်သူကို လိမ်းဆေး လိမ်းပေး၏။ ဤအတူသာပင် ဘုရားရှင်သည် ဝေနေယျသတ္တဝါတို့ သိမြင် စေနိုင်သော လုံ့လ ဖြင့် သိအောင် မြင်အောင် တရားပြတော်မူပေ၏။

'မင်းမြတ်၊ ပုဂ္ဂိုလ်ကို ထောက်ဆ၍ မပြသင့်သော အရာဝတ္ထု ဟူ၍ မရှိချေ။ တစ်စုံ တစ်ယောက်သော သူသည် ဘုရားရှင်၏ နှလုံးသားကို မြင်ရပါက သစ္စာလေးပါးကို သိမြင်နိုင်မည် ဖြစ်ပါမူ ဘုရားရှင်သည် ထိုသူအား နှလုံးသားကို ပြတော်မူရာ၏။ ဝေနေယျတို့ သိအောင် မြင်အောင် လုံ့လ ပြုရာ၌ ဘုရားရှင်သည် ကျွမ်းကျင်လိမ္မာတော် မူပေ၏။

'မင်းမြတ်၊ ဘုရားရှင်သည် အရှင်နန္ဒ၏ စိတ်အလိုကို သိတော်မူ၍ အရှင်နန္ဒအား နတ်ပြည် သို့ ခေါ်တော်မူကာ နတ်သမီးများကို ပြတော်မူသည် မဟုတ်ပါလော။ ထိုလုံ့လကြောင့်ပင် အရှင်နန္ဒသည် သစ္စာလေးပါးကို သိမြင်တော်မူခဲ့၏။

'မင်းမြတ်၊ ထို့ပြင်လည်း နောင်တော်ဖြစ်သူ အရှင်ပန္ထကက နှင်ထုတ်လိုက်သဖြင့် ညီတော် ဖြစ်သူ အရှင်စူဠပန္ထကသည် စိတ်မချမ်းမသာနှင့် ကျောင်းတော်မှ ထွက်ခွာလာရ၏။ ဘုရားရှင် သည် အရှင်စူဠပန္ထကကို ရှေ့မှ ကာဆီးတော်မူကာ သိမ်မွေ့သော အဝတ်စကို ပေးတော်မူ၏။ အရှင်စူဠပန္ထကသည် (ရဇောဟရဏံ) ဖြူစင်သော ဤအဝတ်စ သည်ပင် ကိုယ်ခန္ဓာနှင့် ထိစပ်ရ သဖြင့် မြူမှုန် အညစ်အကြေးတို့ လိမ်းကျံလာရပေသည်တကားဟု ကမ္မဋ္ဌာန်း စီးဖြန်းသဖြင့် ဘုရားသာသနာတော်၌ ထင်ရှားကျော်ကြားသော ရဟန္တာတစ်ပါး ဖြစ်လာရ၏။

'မင်းမြတ်၊ ထိုမှတစ်ပါးလည်း ဘုရားရှင်သည် မောဃရာဇပုဏ္ဏားက သုံးကြိမ်တိုင်တိုင် ပြဿနာမေးပါလျက် ဖြေကြားတော် မမူပါဘဲ နေတော်မူ၏။ ဤသို့ နေတော်မူသဖြင့် မောဃရာဇပုဏ္ဏား၏ မာန်မာန အရှိန်အဟုန် ပြေငြိမ်းသွား၏။ ထိုအချိန်တွင်မှ ဘုရားရှင်က

22A

တရားစကား ဟောကြားတော်မူလေရာ မောဃရာဇပုဏ္ဏားသည် အဘိညာဉ် ခြောက်ပါး ရရှိသောသာသနာ့ ကျက်သရေဆောင် ဖြစ်လာရ၏။ ဤသို့အားဖြင့် ဘုရားရှင်သည် ဝေနေယျတို့ သိအောင်၊ မြင်အောင် လုံ့လပြုရာ၊ ဟောကြားရာ၌ ကျွမ်းကျင် လိမ္မာတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ကျမ်းရင်း၌ ဘုရားရှင် တန်ခိုးဖန်ဆင်း၍ ပြသည်ကို အခြားသူများ မမြင်နိုင်ပုံကို ဘုတ်တစ္ဆေ ပူးကပ်နေသူ၏ ပတ်ဝန်းကျင်ရှိ လူများက ဘုတ်တစ္ဆေကို မမြင်ရပုံနှင့် ဥပမာပြုသေး၏။ ကျွတ်သင့် ကျွတ်ထိုက်သော သတ္တဝါတို့ကို ငဲ့ညှာ၍ ပြသတော် မူရပုံကို သားမဖွားနိုင်သော မိန်းမက ဆေးသမားအား အင်္ဂါစပ်ကို ပြရပုံဖြင့်လည်း ဥပမာပြုသေး၏။]

## ၄။ ဘုရားရှင်သည် ကြမ်းတမ်းသောစကား မိန့်ကြားသလော

'အရှင်နာဂသေနဘုရား၊ ငါ့ရှင်တို့၊ ဘုရားရှင်သည် သန့်စင် ကောင်းမြတ်သော နှုတ်အလေ့ အကျင့် ရှိတော်မူ၏။ အခြားသူတို့ မကြား မသိရအောင် ဖုံးဖိဆို့ပိတ်၍ ထားအပ်သော မကောင်းသော နှုတ်အလေ့အကျင့်ဟူ၍ ရှိတော်မမူချေဟု တရား စစ်သူကြီး ဖြစ်သော အရှင်သာရိပုတ္တရာ ဟောကြားခဲ့၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် ကလန္ဒသေဌ္ဌေးသား အရှင်သုဒိန်၏ မယားဟောင်းနှင့် ပေါင်းသင်းမိသော ပြစ်မှုကြောင့် ပထမ ပါရာဇိကသိက္ခာပုဒ်ကို ပညတ်တော် မူရာတွင် (မောဃပုရိသ) အချည်းနှီးသော ယောကျ်ားဟု ခေါ်ဝေါ်တော်မူ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ကြားတော် မူကြပြန်၏။ အရှင်သုဒိန်သည် ထိုအခေါ်အဝေါ်ကြောင့် နှလုံးမသာဖြစ်ကာ အရိယာမဂ်ကို မသိ မမြင်နိုင်တော့ပါ။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက် စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှားခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍ နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက် လာ၏။ ဤပြဿနာတို့ ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ကလန္ဒသေဌ္ဌေးသား အရှင်သုဒိန်အား အချည်းနှီးသော ယောကျ်ားဟူ၍ ခေါ်ဝေါ်တော် မူခဲ့သော်လည်း မပြစ်မှားသော စိတ်ဖြင့်သာ ခေါ်ဝေါ်တော်မူခဲ့၏။ အရှင်သုဒိန်သည် ဤဘဝတွင် မဂ်ဖိုရနိုင်သူ မဟုတ်ချေ။ သူ၏ ယောကျ်ားဘဝသည် အကျိုးမပြီး အချည်းနှီးသာဖြစ်၏။ အကောင်းကို ပြုလိုပါလျက် အကောင်းဘက် မရောက်ဘဲ မကောင်းသည့်ဘက်သို့သာ ရောက်သွားရ၏။ ထို့ကြောင့် အရှင်သုဒိန်အား ဟုတ်တိုင်းမှန်ရာ ခေါ်ဝေါ်တော်မူလိုက်ခြင်းသာ ဖြစ်၏။ မဟုတ် မမှန်သော ဝေါဟာရဖြင့် ခေါ်တော်မူခြင်း မဟုတ်ပေ'

'အရှင်ဘုရား၊ တပည့်တော်သည် ဟုတ်တိုင်းမှန်ရာ ပြောဆိုသော်လည်း ဆဲဆိုသော သဘောဖြင့် ပြောဆိုသူက ငွေတစ်ကျပ် ဒဏ်ရိုက်ပါ၏'

'မင်းမြတ်၊ သင်မင်းမြတ်သည် ချွတ်ချော်မှားယွင်းစွာ ပြုမူ ပြောဆိုသော သူအား ရှိခိုးကြ၏။ ခရီးဦး ကြိုဆိုကြ၏။ အရိုအသေ ပေးကြ၏။ လက်ဆောင်ပဏ္ဏာများ ပေးကြ၏ ဟူ၍ ကြားဖူးပါသလော'

'အရှင်ဘုရား၊ မကြားဖူးပါ။ ချွတ်ချော် မှားယွင်းစွာ ပြုမူပြောဆိုသူကို ဝေါက်ငမ်းလိုက်၏။ မင်းချင်းတို့သည် သူ၏ ဦးခေါင်းကိုလည်း ဖြတ်ကြကုန်၏။ ရိုက်နှက်ခြင်းကိုလည်း ပြုကြကုန်၏။ အနှောင်အဖွဲ့ကိုလည်း ပေးကြကုန်၏။ အသက်ကိုလည်း သတ်ကြကုန်၏။ အရှင်လတ်လတ် မီးတင်ရှို့ခြင်းကိုလည်း ပြုကြကုန်၏။

'မင်းမြတ်၊ ထိုသို့ဖြစ်လျှင် ဘုရားရှင်သည် ပြုသင့်သည်ကိုသာ ပြုတော်မူ၍ မပြုသင့်သည်ကိုကား ပြုတော်မမူပေ'

'အရှင်ဘုရား၊ ပြုသင့်သည်က ပြုသည်ဖြစ်သော်ငြားလည်း အခါအခွင့် သင့်လျော်မှသာ ပြုသင့်ပါ၏။ နံတ်နှင့် တကွသော လူတို့သည် ဘုရားရှင် ဘွဲ့မည်တော်ကို ကြားရကာမျှဖြင့်ပင် ထိတ်လန့်ကြကုန်၏။ ရှက်ကြောက်ကြကုန်၏။ ကိုယ်တော်တိုင်ကို ဖူးမြင်ရသောအခါ ထို့ထက်ပို၍ ထိတ်လန့်ကြကုန်၏။ အနီးအနားသို့ ချဉ်းကပ်ကြရသောအခါ ထို့ထက် ပို၍ လွန်လွန်မင်းမင်း ထိတ်လန့်ကြရပါကုန်၏။ ရှက်ကြောက် ကြရပါကုန်၏'

'မင်းမြတ်၊ ဥပမာအားဖြင့် စမြင်းဒေါသ ထူပြောနေသောလူနာအား ဆေးသမားသည် ပျော့ညံ့သော ဆေးကို တိုက်ကျွေးပါမည်လော'

'အရှင်ဘုရား၊ မတိုက်ကျွေးပါ။ ရောဂါများ ကင်းစင်သွားစေရန် ထက်မြက်သော ဆေးတို့ကိုသာ တိုက်ကျွေးရာ၏'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည်လည်း သတ္တဝါတို့၏ ကိလေသာ အနာရောဂါများ ပျောက်ကင်းသွားစေရန် ခက်ထန် ကြမ်းတမ်းသော စကားတို့ဖြင့် အဆုံးအမ ပေးတော်မူရ၏။ ပူလောင်သော ရေသည် အရာဝတ္ထုများကို ပျော့ပျောင်းအောင် နူးညံ့အောင် ပြုနိုင်သကဲ့သို့ ဘုရားရှင်၏ ခက်ထန် ကြမ်းတမ်းသော စကားသည် သတ္တဝါတို့အား ပျော့ပျောင်းအောင်၊- နူးညံ့အောင် ပြုလုပ်နိုင်သည်သာဖြစ်၏။ ဖခင်၏ စကားသည် သားသမီးတို့ အကျိုးငှာသာဖြစ်၏။ ကရုဏာ စေတသိက်နှင့် အတူတကွသာ ရှိနေသကဲ့သို့ ဘုရားရှင်၏ စကားသည်လည်း သတ္တဝါတို့ အကျိုးငှာသာ ဖြစ်၏။ ကရုဏာ စေတသိက်နှင့် အတူတကွ ရှိနေ၏။ အနံ့မကောင်းသော နွားကျင်ငယ်သည် သောက်သုံးသူအား အနာရောဂါ ပျောက်စေသကဲ့သို့၊ အရသာ ခါးသက်သော ဆေးသည် သောက်သုံးသူအား အနာရောဂါ ပျောက်ကင်းစေသကဲ့သို့ ဘုရားရှင်၏ ခက်ထန် ကြမ်းတမ်းသောစကားတော်သည် သတ္တဝါတို့အား အကျိုးစီးပွားများစေရန်သာ ဖြစ်၏။

ထုထည်ကြီးမားလှသော ဝါဂွမ်းစိုင်သည် မည်သူတစ်စုံတစ်ယောက်ကိုမျှ မနာကျင်စေသကဲ့သို့ ဘုရားရှင်၏ ခက်ထန် ကြမ်းတမ်းသော စကားတော်သည်လည်း မည်သူ တစ်စုံတစ်ယောက်ကိုမျှ မဆင်းရဲစေပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၅။ သစ်ပင်မှာ စိတ်စေတနာ ရှိသလော

'အရှင်နာဂသေနဘုရား၊ ပုဏ္ဏား၊ သင်သည် အသိစိတ်ဓာတ်ရှိသောသူ ဖြစ်ပါလျက် စိတ်စေတနာမရှိသော၊ မကြားတတ် မသိတတ်သော ဤပေါက်ပင်ကို (ချမ်းသာစွာ အိပ်ရပါ၏လောဟု) ကြောင့်ကြောင့်ကြကြ လုံ့လစိုက်ထုတ်ကာ နေ့စဉ်နေ့တိုင်း မမေ့မလျော့တမ်း မေးမြန်းနေရပါသနည်းဟု ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထိုမှ တစ်ဖန်လည်း ကြို့ပင်သည်လည်း ထိုခဏ၌ပင် (ဘာရဒွါဇပုဏ္ဏား၊ ငါ့မှာလည်း စကားပြောစရာ ရှိနေပါ၏။ ငါ့စကားကို နားထောင်ပါလော့ဟု) ပြောဆို၏ ဟူ၍လည်း ဟောကြားတော် မူခဲ့ပြန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကား နှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ စင်စစ်အားဖြင့် သစ်ပင်ဟူသည် စကား မပြောနိုင်ပေ။ သစ်ပင်စောင့် နတ်ကို သစ်ပင်မှာ တင်စား၍ ဟောကြားတော် မူခြင်းသာ ဖြစ်၏။ ဥပမာအားဖြင့် စပါးတင်ထားသော လှည်းကို စပါးလှည်းဟူ၍ လူအပေါင်းတို့ ခေါ်ဝေါ်ကြ၏။ စင်စစ်အားဖြင့် ထိုလှည်းသည် စပါးစေ့များဖြင့် ပြုလုပ်ထားသော လှည်း မဟုတ်ပေ။ သစ်သားဖြင့် ပြုလုပ်ထားသည်သာတည်း။ ထိုသစ်သား လှည်းပေါ်မှာ စပါးများ လောင်းထည့်ထားသော ကြောင့်သာ စပါးလှည်းဟု ခေါ်ဝေါ်ကြ၏။ ဤအတူသာပင် သစ်ပင်စောင့်နတ်ကို သစ်ပင်မှာ တင်စား၍ ဟောကြားတော်မူခြင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ကျမ်းရင်း၌ နို့ဓမ်းကို ရက်တက်ဖြစ်အောင် မွှေနှောက်ရာတွင် ရက်တက်ကို မွှေနှောက်သည်ဟု လူတို့ပြောဆိုကြပုံကိုလည်း ဥပမာပြုသေး၏။]

## ၆။ စုန္ဒ၏ ဆွမ်းသည် အကျိုးကြီးပါ၏လော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် စုန္ဒမည်သော ရွှေပန်းထိမ်သည်၏ ဆွမ်းကို ဘုဉ်းပေး

တော်မူ၍ သေလောက်အောင် ပြင်းထန်လှစွာသော ဝမ်းသွေးသွန် ရောဂါဝေဒနာကို ခံစားတော်မူရ၏ ဟူ၍ သင်္ဂါယနာတင် အရှင်မြတ်တို့ မိန့်ဆိုတော်မူကြကုန်၏။ ထိုမှတစ်ဖန်လည်း အာနန္ဒာ၊ အတုမရှိ လွန်မြတ်လှစွာသော အရဟတ္တမဂ်ဉာဏ်၊ သဗ္ဗညုတဉာဏ်ကို ထိုးထွင်း၍ သိတော်မူသော နေ့က ဘုဉ်းပေးခဲ့ရသော ဆွမ်းလည်းကောင်း၊ အနုပါဒိသေသ နိဗ္ဗာန်ဝင်စံတော်မူသောနေ့က ဘုဉ်းပေးခဲ့ရသော ဆွမ်းလည်းကောင်း ဤဆွမ်းနှစ်မျိုးတို့သည် အခြင်းအရာအားလုံးဖြင့် တူမျှသော အကျိုးရှိကုန်၏။ အခြားသော ဆွမ်းတို့ထက် လွန်လွန်ကဲကဲ အကျိုးအာနိသင် ကြီးကုန်၏ဟူ၍လည်း ဘုရားရှင်ဟောကြားတော် မူပြန်၏။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ပေ၏။ စင်စစ်အားဖြင့် ဤမည်သော ရွှေပန်းထိမ်သည်၏ ဆွမ်းသည် အကျိုးကျေးဇူး များလှ၏။ စုန္ဒဆွမ်းသည်ကား ဘုရားရှင်၏ နောက်ဆုံးဆွမ်းပေတည်းဟု နလုံးသွင်းကာ နတ်တို့သည် ကြည်ညိုသဒ္ဒါ ထက်သန်စွာဖြင့် ဝက်သားဟင်းထဲသို့ နတ်သြဇာများ သွန်းလောင်းပေးကြ၏။ ထို ဝက်သားဟင်းသည် ကောင်းကောင်းကျက်၏။ လျင်မြန်စွာကျက်၏။ အရသာ ကောင်းလှ၏။ ဝမ်းမီးကို အားပေး ထောက်ပံ့၏။ ထိုဝက်သားဆွမ်းကို ဘုဉ်းပေးတော်မူသောကြောင့် ဘုရားရှင်မှာ ရောဂါသစ် တစ်မျိုးတိုး၍ မလာချေ။ အမှန်အားဖြင့် ဘုရားရှင်သည် အာယုသင်္ခါရ လွှတ်တော်မူပြီးနောက် သုံးလတာမျှသာ ဖလသမာပတ်ကို ဝင်စားတော်မူခဲ့၏။ ထိုနေ့တွင်ကား သုံးလပြည့်သွားပြီဖြစ်၍ ဖလသမာပတ်ကို ဝင်စားတော်မမူတော့ပေ။ ထို့ကြောင့် ဘုရားရှင်၏ ကိုယ်တော်သည် အလွန်တရာ အားနည်းလာ၏။ ဤတွင် ယခင်က ဖြစ်ပေါ်လာဖူးသော ဝမ်းသွေးသွန်ရောဂါသည် တိုးပွားလာတော့၏။

'မင်းမြတ်၊ ဥပမာအားဖြင့် နဂိုက တောက်နေပြီးသော မီးထဲသို့ အခြားလောင်စာများ ထည့်ပေးလိုက်သော် လွန်မင်းစွာ တောက်လောင်လေ၏။ နဂိုက စီးဆင်းနေသော ရေအလျဉ်ထဲသို့ မိုးကြီးသည်းစွာ ရွာချလိုက်သောအခါ လွန်မင်းစွာ ပြည့်လျှံစီးဆင်းလာ၏။ ဤအတူသာပင် နဂိုက အားနည်းနေသော ဘုရားရှင်၏ ကိုယ်တော်ဝယ် အာယုသင်္ခါရလည်း ကုန်ဆုံးသွားသဖြင့် ဝမ်းသွေးသွန်ရောဂါ တိုးပွားလာတော့၏။ စင်စစ်အားဖြင့် ထိုဝက်သားဟင်းကို အပြစ်မတင်ထိုက်ပေ'

'အရှင်ဘုရား၊ ထိုဆွမ်းသည် အခြားသော ဆွမ်းတို့ထက် အဘယ့်ကြောင့် အကျိုးအာနိသင်ကြီးမားရပါသနည်း'

'မင်းမြတ်၊ အစဉ်အတိုင်း ဝင်စားအပ်ကုန်သော သမာပတ် ကိုးပါ တို့ကို အနုလုံ၊ ပဋိလုံ ဘြိမ်ဖန်များစွာ ဝင်စားတော်မူသောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အံ့ဩဖွယ် ရှိပါပေ၏။ မဖြစ်စဖူး ထူးကဲလှပါပေ၏။ ဘုရားရှင် သက်တော်ထင်ရှား ရှိတော်မူစဉ်တွင် အတုမရှိအောင် ပေးလှူခဲ့သော အသဒိသ ခလှူတော်ကြီးပင် ဤ ဆွမ်းအလှူ နှစ်မျိုးလောက် အရာမရောက်ပါချေတကား။

## ဂု။ ဘုရားရှင်ကို မပူဇော်သင့်သူရှိသလော

အရှင်နာဂသေနဘုရား၊ အာနန္ဒာ၊ သင်တို့သည် ငါဘုရား၏အလောင်းတော်ကို ပူဇော်ခြင်း၌ ကြောင့်ကြမစိုက် ကြကုန်လင့်ဟု ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ပူဇော်ထိုက်သော ဘုရားရှင်၏ သရီရဓာတ်တော်ကို ပူဇော်ကြကုန်လော့။ ဤသို့ ပူဇော်သော သူတို့သည် ဤ ကောင်းမှုကြောင့် ဤလူ့ပြည်မှ နတ်ပြည်သို့ လားကြရလတ္တံ့ဟုလည်း ဘုရားရှင် ဟောတော် ပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက် ကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် းပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက် ဟ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ သို့ရာတွင် ရှေ့စကားမှာ သတ္တဝါအားလုံးကို ခကြောင်းပြု၍ ဟောတော်မူသည် မဟုတ်ပေ၊ ဘုရားသားတော် ရဟန်းတော်များကိုသာ ည်ရွယ်၍ ဟောကြားတော် မူခြင်းဖြစ်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဆင်အတတ်၊ မြင်းအတတ်၊ ရထားစီးအတတ်၊လေးအတတ် သည်တို့သည် မင်းသားတို့ သင်ယူအပ်သော အတတ်တို့ ဖြစ်ကုန်၏။ လ္လရဝေဒကျမ်းအတတ်၊ သဇဝေဒကျမ်းအတတ် စသည်တို့သည် ပုဏ္ဏားလုလင်ပျိုတို့ သင်ယူထိုက်သော အတတ်တို့ ဖြစ်ကုန်၏။ လယ်ထွန်ခြင်း၊ ကုန်သွယ်ခြင်း၊ နွားကျောင်းခြင်းတို့ကား မင်းသားတို့ သင်ယူအပ်သော အတတ်တို့ မဟုတ်ကုန်။ ပုဏ္ဏားလုလင်ပျိုတို့ သင်ယူအပ်သော အတတ်တို့ မဟုတ်ကုန်။ ကုန်သည် ဆင်းရဲသားတို့ သင်ယူအပ်သော အတတ်တို့သာ ဖြစ်ကုန်၏။ ဤအတူသာပင် အလောင်းတော်ကို ပူဇော်သက္ကာရ ပြုခြင်းသည် ရဟန်းတို့၏အလုပ် မဟုတ်ချေ။ သင်္ခါရတရားတို့ကို ပုံးသပ်ဆင်ခြင်ခြင်း၊ အသင့်အတင့် နှလုံးသွင်းခြင်း၊ သတိပဋ္ဌာန် တရားလေးပါးကို အဖန်တလဲလဲ းများခြင်း၊ ကိလေသာကို စစ်ထိုးခြင်း၊ အရဟတ္တဖိုလ်သို့ ရောက်ရှိရေးအတွက် ကြိုးစား းထုတ်ခြင်း တို့သည်သာလျှင် ရဟန်းတို့၏ အလုပ်ဖြစ်ကုန်၏။ ပူဇော်သက္ကာရ ပြုခြင်းသည်ကား

ရဟန်းတို့မှတစ်ပါးသော အခြားသော နတ်လူတို့၏ အလုပ်ဖြစ်ကုန်၏။ ထို့ကြောင့် ဘုရားရှင်က မပြုလုပ်အပ်သော အမှုကို မပြုလုပ်ဘဲ ပြုလုပ်သင့်သည်ကိုသာ ပြုလုပ်ကြရန် မိန့်ကြားတော်မူရပေ၏။ အကယ်၍ ထိုစကားကိုသာ ဘုရားရှင် မိန့်ကြားတော် မမူပါလျှင် ရဟန်းသည် မိမိတို့၏ သပိတ်သင်္ကန်းတို့ကိုသော်လည်း အကုန်ခံကာ ပူဇော်ခြင်းကိုသာ ပြုကုန်ကြရာ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၈။ ဘုရားရှင်ခြေတော်သို့ အဘယ့်ကြောင့် ကျောက်ချပ်လွှာ ကျလာသနည်း

'အရှင် နာဂသေနဘုရား၊ ဘုရားရှင် ကြွသွားတော်မူစဉ် ဤမြေကြီးသည် နိမ့်နေခဲ့သော် မြင့်မောက်လာရ၏။ မြင့်မောက်နေခဲ့သော် နိမ့်လာရ၏ဟု အရှင်ဘုရားတို့ မိန့်ဆိုကြကုန်၏။ ထိုမှတစ်ဖန် ဘုရားရှင်၏ ခြေတော်ကို ကျောက်ချပ်လွှာ ထိမှန်၏ဟူ၍လည်း မိန့်ဆိုကြပြန်သည်။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့၊ ရှေ့စကားသည် မှားပေရာ၏။ ထိုကျောက်ချပ်လွှာသည် ဘုရားရှင်၏ ခြေတော်ကို မဆုတ်ခွာ၊ မရှောင်လွှဲဘဲ အဘယ့်ကြောင့် တည့်တည့်ကြီး ကျခဲ့ရပါသနည်း။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ထိုကျောက်ချပ်လွှာသည် မိမိအလိုအလျောက် ဘုရားရှင် ခြေတော်သို့ ကျရောက်လာသည် မဟုတ်ချေ။ ဒေဝဒတ်၏ ပယောဂကြောင့်သာ ကျရောက်လာခြင်းဖြစ်၏။ ဒေဝဒတ်သည် ဘုရားရှင်အပေါ် ဘဝတစ်သိန်းမျှ ဖွဲ့လာခဲ့ရသော ရန်ငြိုးဖြင့် အိမ်အထွတ်ပမာဏရှိသော ကျောက်ကို ဘုရားရှင်အပေါ် ကျရောက်စေရန် မောင်းဆင်၍ လွှတ်ချလိုက်၏။ ဘုရားရှင်အပေါ် ကျောက်တုံးကြီး ကျမလာမီ လမ်းခုလတ်ရှိ ကျောက်ဆောင်နှစ်ခုတို့က ကျောက်တုံးကြီးကို ဆီး၍ခံလိုက်ကြ၏။ အရှိန်ပြင်းစွာ လိမ့်ကျလာသော ကျောက်တုံးကြီးနှင့် ဆီး၍ ခံလိုက်သော ကျောက်ဆောင်နှစ်ခုတို့ ထိခိုက်မိရာမှ ကျောက်ချပ်လွှာ တစ်ခု ပဲ့ထွက်လာကာ ဘုရားရှင်ခြေတော်သို့ ကျရောက်လာပေ၏'

'အရှင်ဘုရား၊ ကျောက်တုံးကြီးကို ကျောက်ဆောင်နှစ်ခုတို့က ဆီး၍ ခံထားလိုက်ဘိသကဲ့သို့ ထိုကျောက်ချပ်လွှာကိုလည်း ဆီး၍ ခံထားထိုက်သည် မဟုတ်ပါလော'

'မင်းမြတ်၊ ခံထားသင့်၍ ခံထားသော်လည်း ဤလောက၌ အချို့သော အရာဝတ္ထုစတို့သည် လျှောကျ သွားကုန်သည်သာတည်း။ ဥပမာအားဖြင့် ရေကိုလည်းကောင်း၊ နို့ရည်ကိုလည်းကောင်း၊ ရက်တက်ရည်ကို လည်းကောင်း၊ ပျားရည်ကိုလည်းကောင်း၊ ထောပတ်ကို လည်းကောင်း၊ ဆီကိုလည်းကောင်း၊ ငါးရည်ကိုလည်းကောင်း၊ အမဲရည်ကို လည်းကောင်း လက်နှင့်ကော်၍

ဆုပ်၍ ယူသည်ရှိသော် လက်ချောင်းများကြားမှ စိမ့်ယိုလျှောကျသွား၏။ ထားသောနေရာ၌ မတည်နေပေ။ ဤအတူသာပင် ကျောက်တုံးနှင့် ကျောက်ဆောင်တို့ ရိုက်ခတ်ရာမှ ပဲ့ထွက်နေလာသော ကျောက်ချပ်လွှာသည် ရောက်တတ်ရာရာ လွင့်ထွက်လာလျက် ဘုရားရှင်ခြေတော်သို့ ကျရောက်လာပေ၏'

'အရှင်ဘုရား၊ ရှိပါစေတော့။ သို့ရာတွင် မြေကြီးသည် အရိုအသေပြုသကဲ့သို့ပင် ထိုကျောက်ချပ်လွှာကလည်း ဘုရားရှင်ကို အရိုအသေ ပြုထိုက်သည်ပင် မဟုတ်ပါလော'

'မင်းမြတ်၊ အရိုအသေ မပြုထိုက်သော ပုဂ္ဂိုလ် ၁၂ဦးတို့ ရှိကြကုန်၏။

ထိုပုဂ္ဂိုလ်တို့မှာ–

၁။ ရာဂကြီးသူသည် တပ်မက်မှုအစွမ်းကြောင့်၊
၂။ ဒေါသကြီးသူသည် ဒေါသ၏အစွမ်းကြောင့်၊
၃။ မောဟကြီးသူသည် မောဟ၏အစွမ်းကြောင့်၊
၄။ မာန်ထောင်လွှားသူသည် မာန်မာန၏အစွမ်းကြောင့်၊
၅။ ကျက်သရေမရှိသောသူသည် ဂုဏ်ကျေးဇူးအထူးမရှိသောကြောင့်၊
၆။ မာန်ခက်ထန်လွန်းသူသည် ချုပ်တည်းမှုမရှိသောကြောင့်၊
၇။ ယုတ်ညံ့သူသည် ယုတ်ညံ့သော စိတ်သဘောရှိသောကြောင့်၊
၈။ သူတစ်ပါးအလိုသို့ လိုက်နေရသူသည် မိမိကိုယ်ကို အဆိုးမရသောကြောင့်၊
၉။ အကျင့်ယုတ်မာသူသည် ကောက်ကျစ်သော စိတ်သဘောရှိသောကြောင့်၊
၁၀။ ညဉ်းဆဲနှိပ်စက်ခြင်း ခံနေရသူသည် တုံ့ပြန်၍ ညဉ်းဆဲ နှိပ်စက်လိုသောကြောင့်၊
၁၁။ လောဘကြီးသူသည် လောဘဖိစီးနှိပ်စက်မှုကို ခံနေရသောကြောင့်၊
၁၂။ အလုပ်တစ်ခုခု လုပ်နေသူသည် မိမိ၏အလုပ်ကို ပြီးစီးစေလိုသောကြောင့် အရိုအသေကို မပြုတတ်ပေ။

'မင်းမြတ်၊ ကျောက်နှစ်ခု ထိခိုက်ရာမှ ပဲ့ထွက်လာခဲ့သော ဤကျောက်ချပ်လွှာသည် ဦးတည်ချက်ဟူ၍ တစ်စုံတစ်ရာမရှိဘဲ ရောက်တတ်ရာရာ လွင့်စဉ်လျက် ဘုရားရှင်ခြေတော်သို့ ကျရောက်လာ၏။ စင်စစ်သော်ကား ဤကျောက်ချပ်လွှာသည် သူ့ကျေးဇူးကို မသိတတ်သော၊ ကောက်ကျစ်စဉ်းလဲသော ဒေဝဒတ်အား ငရဲသို့ ကျရောက်စေရန် ဘုရားရှင် ခြေတော်သို့ ကျရောက်လာရပေ၏။ အကယ်၍ ထိုကျောက်ချပ်လွှာသည် ကျောက်တုံးနှင့်သာ တစ်သားတည်းနေပါမူ ကျောက်ဆောင်တို့က တားဆီးထားကြမည်သာ ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ဤ ပြဿနာမျိုးကိုပင် ဣန္ဒီဗလ၀င်၊ ဘုရားရှင်မှာ အကုသိုလ် အကြွင်းအကျန်ရှိသေးသလော ဟူသော ပြဿနာ၌ တစ်မျိုးတစ်ဖုံ အမေးအဖြေ ပြုထားခဲ့၏။ ထိုပြဿနာ၌ အကုသိုလ် အကြွင်းအကျန် ရှိသေးသောကြောင့် ထိမှန်ခံရခြင်း မဟုတ်ကြောင်းကို ဖြေရှင်းခဲ့၏။ ဤပြဿနာတွင် ဘုရားရှင်၏ ဘုန်းတော်၊ ကံတော်ကြောင့် ကျောက်ဆောင်တို့က တားဆီးကြသော်လည်း တားဆီးထားသည့်ကြားမှ ကျောက်ချပ်လွှာ ပဲ့ထွက်လာရပုံကို ဖြေရှင်းထား၏။

ကျမ်းရင်း၌ တားဆီးထားသည့်ကြားမှ လျှောကျရပုံကို သဲမှုန်ကို လက်နှင့် ဆုပ်ယူရာမှ လျှောကျပုံ၊ ထမင်းစားရာမှ ထမင်းစေ့များ လျှောကျရပုံများနှင့် ဥပမာ ပြုသေး၏။ ကျောက်ချပ်လွှာက ဦးတည်ချက် မရှိဘဲ ရောက်တတ်ရာရာ ကျလာရပုံ လေထဲမှ လွင့်ပါလာသော သဲမှုန်နှင့် လည်းကောင်း၊ လေပွေထဲမှာ လွင့်ပါလာသော သစ်ရွက်ခြောက်နှင့် လည်းကောင်း ဥပမာပြုသေး၏။]

## ၄။ မြင့်မြတ်သော သမဏဟူသည် မည်သူနည်း

'အရှင်နာဂသေနဘုရား၊ အာသဝတရားလေးပါးတို့ ကုန်ခြင်းကြောင့် သမဏဖြစ်၏ဟု ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် သည်းခံခြင်း၊ အစားအစာ မျှတရုံသာ စားသောက်ခြင်း၊ ကာမဂုဏ်၌ မွေ့လျော်မှုကို ပယ်စွန့်ခြင်း၊ ဗလိဗောဓ ကြောင့်ကြဖွယ်တို့ မရှိခြင်း ဟူသော တရားလေးပါးနှင့် ပြည့်စုံသောသူကို စင်စစ်အားဖြင့် သမဏဟူ၍ ဆိုကုန်၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော် မူပြန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ သည်းခံခြင်းစသော တရားလေးပါးနှင့် ပြည့်စုံသော သူကို ကိလေသာငြိမ်းခြင်း အလို့ငှာ ကျင့်ကြံနေထိုင်သော ဂုဏ်ကျေးဇူးကြောင့် သမဏဟူ၍ ခေါ်ဝေါ်ရ၏။ အာသဝ လေးပါးလုံး ကုန်ဆုံးလေပြီးသော ရဟန္တာပုဂ္ဂိုလ်ကား ကိလေသာအားလုံး ချုပ်ငြိမ်းပြီး ဖြစ်သောကြောင့် အကြွင်းမဲ့အားဖြင့် သမဏဟူ၍ ခေါ်ဝေါ်ရ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ပန်းဟူသမျှတို့တွင် မြတ်လေးပန်းကို အထွတ်အမြတ် ထားဘိသကဲ့သို့၊ စပါးဟူသမျှတွင် သလေးစပါးကို အထွတ်အမြတ် ထားဘိသကဲ့သို့ ကိလေသာငြိမ်းခြင်းငှာ၊ ကျင့်ကြံနေထိုင်သောသူ အားလုံးတို့ထက် အာသဝကုန်ပြီးသော သမဏကိုသာ အထွတ်အမြတ်ဆုံးဟု ခေါ်ဝေါ်ရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ သမဏဟူသော ပုဒ်သည် ချုပ်ငြိမ်းခြင်း အနက်ကိုဟော၏။ သို့ဖြစ်၍ သည်းခံခြင်းစသော တရားလေးပါးတို့နှင့် ပြည့်စုံသောသူတို့ကို ကိလေသာ ချုပ်ငြိမ်းစေသော အနက်အဓိပ္ပာယ်ဖြင့် သမဏဟူ၍ခေါ်ဝေါ်ရ၏။ အာသဝကုန်ပြီးသော ရဟန္တာပုဂ္ဂိုလ်ကိုကား ကိလေသာ ငြိမ်းပြီးသော အနက်အဓိပ္ပာယ်ဖြင့် သမဏဟူ၍ ခေါ်ဝေါ်ရပေ၏။ ]

## ၁၀။ ဘုရားရှင်သည် မိမိဂုဏ်ကို အဘယ့်ကြောင့် ထုတ်ဖော်ရသနည်း

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ သူတစ်ပါးသည် ငါဘုရား၏ ဂုဏ်ကျေးဇူးကို လည်းကောင်း၊ တရားတော်၏ ဂုဏ်ကျေးဇူးကို လည်းကောင်း၊ သံဃာ၏ ဂုဏ်ကျေးဇူးကို လည်းကောင်း ချီးကျူးပြောဆို ကြကုန်ငြားအံ့။ ထိုသို့ ချီးကျူးပြောဆိုရာ၌ သင်တို့သည် နှစ်သက်ခြင်း၊ ဝမ်းသာခြင်း၊ စိတ်တက် ကြွခြင်းတို့ကို မဖြစ်စေကုန်လင့်ဟု ဘုရားရှင် ဟောကြားတော် မူခဲ့၏။ ထိုမှတစ်ဖန် သေလပုဏ္ဏားက ဘုရားရှင်၏ ဂုဏ်ကျေးဇူးများကို ထုတ်ဖော် လျှောက်ထားသောအခါ ဘုရားရှင်သည် ဝမ်းသာအားရ နှစ်သက်လှစွာဖြင့် သေလပုဏ္ဏား၊ ငါဘုရားသည် မင်းဖြစ်၏။ အတုမရှိသော တရားမင်းဖြစ်၏။ သူတစ်ပါးတို့ မလည်စေနိုင်သော စကြာ ရတနာနှင့် တူလှစွာသော တရားစက်ကြီးကို သဗ္ဗညုတ ဉာဏ်တော် ဖြင့် လှည့်လည် ဟောကြားနိုင်ပေ၏ဟု မိမိ၏ဂုဏ်ကျေးဇူးကို အတိုင်းထက်အလွန် ထုတ်ဖော် ချီးကျူးတော်မူ၏ဟုလည်း အရှင်ဘုရားတို့ မိန့်ဆိုကြပြန်၏။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ မှန်ကန်ဖြောင့်စင်း၊ မချွတ်ယွင်းသော သဘော အဓိပ္ပာယ်ကို ပြဆိုလိုသဖြင့် ဘုရားရှင်သည် ရှေ့စကားကို မိန့်ကြားတော်မူပေ၏။ နောက်စကားကို မိန့်ကြားတော် မူခြင်းမှာလည်း လာဘ် လာဘကို လိုလားသောကြောင့်၊ ဂုဏ်သတင်း ကျော်ကြားလိုသောကြောင့်၊ ကိုယ်ကျိုးကိုငဲ့သောကြောင့်၊ အသင်းအပင်း တိုးပွား စေလိုသောကြောင့်၊ မိမိထံ တပည့်ခံ လာစေလိုသောကြောင့် မဟုတ်ပေ။ သေလပုဏ္ဏားအား သနားသဖြင့် အစဉ်စောင့်ရှောက်ခြင်းငှာ ဟောကြားတော်မူခြင်းသာဖြစ်၏။ ဤသို့ လိုက်လျောစွာ ဟောကြားတော် မူသဖြင့် သေလပုဏ္ဏားနှင့်တကွ တပည့်ပုဏ္ဏားသုံးရာတို့ သစ္စာလေးပါး သိမြင်ကြမည့် အကြောင်းကို နှလုံးသွင်းတော်မူ၍သာလျှင် ဤသို့ ထုတ်ဖော် ချီးကျူးတော် မူရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၁၁။ သူတစ်ပါးကို ဖိနှိပ်သင့်သလော

'အရှင်နာဂသေနဘုရား၊ လောက၌ သူတစ်ပါးကို မညှဉ်းဆဲတတ်သော သူသည် လူအပေါင်းတို့ ချစ်ခင်မြတ်နိုးအပ်သူ ဖြစ်လတ္တံ့ဟု ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထိုမှ တစ်ဖန် ဖိနှိပ်ထိုက်သော သူကို ဖိနှိပ်ရာ၏။ ချီးမြှောက် ထိုက်သောသူကို ချီးမြှောက်ရာ၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်၏။

'အရှင်ဘုရား၊ ဖိနှိပ်ခြင်း ဟူသည်မှာ လက်ဖြတ်ခြင်း၊ ခြေဖြတ်ခြင်း၊ ရိုက်နှက်ခြင်း၊ နှောင်ဖွဲ့ခြင်း၊ အကျဉ်းချရခြင်း၊ အမျိုးမျိုးနှိပ်စက်ခြင်း၊ သတ်ဖြတ်ခြင်းတို့ပေတည်း။ သို့ဖြစ်၍ ဖိနှိပ်သင့်သူကို ဖိနှိပ်ရာ၏ဟူသော စကားသည် ဘုရားရှင်တို့နှင့် မသင့်လျော်ပေ။ ဤသို့သော စကားမျိုးကို ဘုရားရှင်တို့ မဟောကြားထိုက်ပေ။ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော် မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ရှေ့စကားသည် အလုံးစုံသော ဘုရားရှင်တို့ နှစ်သက်လိုလားသော စကားပေတည်း။ အလုံးစုံသော ဘုရားရှင်တို့ ဆုံးမမြဲစကားပေတည်း။ ဟောကြားမြဲ စကားပေတည်း။ ဟုတ်မှန်သော သဘောရှိသော စကားပေတည်း။ ဘုရားရှင်တို့ ဟောကြားသော တရားတော်သည် မညှဉ်းဆဲခြင်း လက္ခဏာ ရှိပေ၏။ နောက်စကားကိုကား လောကထုံးတမ်းစဉ်လာအရ ဟောကြားတော်မူပေ၏။ တက်ကြွသော စိတ်ကို ဖိနှိပ်ရာ၏။ တွန့်ဆုတ်သော စိတ်ကို ချီးမြှောက်ရာ၏။ အကုသိုလ်စိတ်ကို ဖိနှိပ်ရာ၏။ ကုသိုလ်စိတ်ကို ချီးမြှောက်ရာ၏။ မသင့်မတင့် နှလုံးသွင်းခြင်းကို ဖိနှိပ်ရာ၏။ အသင့်အတင့် နှလုံးသွင်းခြင်းကို ချီးမြှောက်ရာ၏။ မှားယွင်းသော အကျင့်ကို ဖိနှိပ်ရာ၏။ မှန်ကန်သော အကျင့်ကို ချီးမြှောက်ရာ၏။ ခိုးသူကို ဖိနှိပ်ရာ၏။ မခိုးမဝှက်သူကို ချီးမြှောက်ရာ၏'

'အရှင်ဘုရား၊ ယခုအခါ အရှင်ဘုရား၏ စကားသည် တပည့်တော်နှင့် သက်ဆိုင်သော အရာအခွင့်သို့ ရောက်လာပေပြီ။ တပည့်တော် မေးလျှောက်လိုသော ဖိနှိပ်ခြင်း၏ သဘောအဓိပ္ပာယ်သို့ ဆိုက်ရောက်လာပေပြီ။ အရှင်ဘုရား၊ ခိုးသူကို ဖိနှိပ်လိုသော သူသည် အဘယ်သို့ ဖိနှိပ်ရပါမည်နည်း'

'မင်းမြတ်၊ ဆဲဆိုထိုက်သူကို ဆဲဆိုရာ၏။ ရိုက်နှက်သင့်သူကို ရိုက်နှက်ရာ၏။ နှင်ထုတ်ထိုက်သူကို နှင်ထုတ်ရာ၏။ ချုပ်နှောင် ထိုက်သူကို ချုပ်နှောင်ရာ၏။ သတ်ထိုက်သူကို သတ်ရာ၏'

'အရှင်ဘုရား၊ ဘုရားရှင်သည် ခိုးသူကို သတ်ရန် ခွင့်ပြုတော် မူပါသလော'

'မင်းမြတ်၊ ခွင့်ပြုတော် မမူပါ'

'အရှင်ဘုရား၊ ထိုသို့ ဖြစ်ပါလျက် ဘုရားရှင်သည် ခိုးသူကို ဖိနှိပ်ထိုက်သူဟု အဘယ့်ကြောင့် ခွင့်ပြုတော် မူပါသနည်း'

'မင်းမြတ်၊ ခိုးသူအသတ်ခံရခြင်းမှာ ဘုရားရှင်၏ အလိုတော်ကြောင့် မဟုတ်ပေ။ မိမိပြုခဲ့သော ခိုးမှုကြောင့်သာ အသတ်ခံရခြင်း ဖြစ်၏။ သင်မင်းမြတ်သည် ပြစ်မှုကျူးလွန်ခြင်း မရှိဘဲ လမ်းခရီး၌ အေးချမ်းစွာ သွားနေသူ တစ်ယောက်ကို ဖမ်း၍ သတ်နိုင်ပါမည်လော'

'အရှင်ဘုရား၊ မသတ်နိုင်ပါ'

'မင်းမြတ်၊ အဘယ့်ကြောင့် မသတ်နိုင်ပါသနည်း'

'အရှင်ဘုရား၊ ပြစ်မှုကျူးလွန်သူ မဟုတ်သောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ခိုးသူအသတ်ခံရခြင်းမှာ ဘုရားရှင်၏ အလိုတော်ကြောင့်မဟုတ်ပေ။ မိမိပြုခဲ့သော ခိုးမှုကြောင့်သာ အသတ်ခံရခြင်းဖြစ်၏။ ဤသို့သော အဆုံးအမကို နာခံသော သူသည် အပြစ် တစ်စုံတစ်ရာ သင့်ပါမည်လော'

'အရှင်ဘုရား၊ မည်သည့်အပြစ်မျှ မသင့်ပါ'

'မင်းမြတ်၊ ဤသို့ဆိုလျှင် ဘုရားရှင်၏ အဆုံးအမတော်သည် ကောင်းသော အဆုံးအမ ဖြစ်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၁၂။ ဘုရားရှင်သည် အမျက်ထွက်၍ ရဟန်းတို့ကို နှင်ထုတ်သလော

'အရှင်နာဂသေနဘုရား၊ ငါဘုရားသည် အမျက်ထွက်လေ့မရှိ၊ ဒစရိုက်တည်းဟူသော ငြောင့်တံသင်း ကင်းရှင်း၏ ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် အရှင်သာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန် တို့ကို တပည့် ပရိသတ်တို့နှင့်တကွ နှင်ထုတ်တော်မူ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ကြားကြပြန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကား သည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေ ရာ၏။ ဘုရားရှင်သည် အမျက်ထွက်၍ နှင်ထုတ်တော် မူသည်ဖြစ်အံ့။ ဘုရားရှင်သည် အမျက် ထွက်ခြင်း မကင်းသေးသည် ဖြစ်လတ္တံ့။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ဘုရားရှင်သည် အမျက် ထွက်လေ့ရှိတော် မမူပေ။ ရဟန်းတို့ကို နှင်ထုတ်တော်မူခြင်းမှာလည်း အမျက်ထွက်၍ မဟုတ်ပေ။ မင်းမြတ်၊

ဥပမာအားဖြင့် မဟာသမုဒ္ဒရာသည် အသေကောင်ပုပ်ကို လက်မခံဘဲ ကမ်းပေါ်သို့ ပုတ်ထုတ်လိုက်၏။ ဤသို့ဆိုလျှင် မဟာသမုဒ္ဒရာသည် အကောင်ပုပ်ကို အမျက်ထွက်၍ ကမ်းပေါ်သို့ ပုတ်ထုတ်လိုက်ပါသလော'

'အရှင်ဘုရား၊ အမျက်ထွက်၍ မဟုတ်ပါ။ မဟာသမုဒ္ဒရာသည် အမျက်ထွက်ခြင်း၊ ချစ်ခင်တွယ်တာခြင်း မရှိပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားရှင်သည် မုန်းခြင်း၊ ချစ်ခြင်း ကင်းတော်မူ၏။ စင်စစ်အားဖြင့် ထိုရဟန်းတို့ ပြုလုပ်သော အမှုအားလျော်စွာ နှင်ထုတ်တော်မူခြင်းသာ ဖြစ်၏။ ထိုရဟန်းတို့၏ အကျိုးကို လိုလားတော်မူသည်ဖြစ်၍၊ အစီးအပွားကို လိုလားတော်မူသည်ဖြစ်၍၊ စင်ကြယ်ခြင်းကို အလိုရှိတော်မူသည်ဖြစ်၍ နှင်ထုတ်တော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ကျမ်းရင်း၌ ဘုရားရှင်မှာ ချစ်ခြင်း၊ မုန်းခြင်း ကင်းရှင်းပုံကို မြေကြီး၌ တစ်စုံတစ်ယောက် ချော်လဲရာတွင် မြေကြီး၏ ချစ်ခြင်း၊ မုန်းခြင်း မပါဝင်ပုံဖြင့်လည်း ဥပမာပြုသေး၏။

အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန်တို့ကို နှင်ထုတ်တော်မူခြင်းကား စာတုမမြို့၊ အာမလကီတောကျောင်း၌ ဘုရားရှင် သီတင်းသုံးတော်မူစဉ်တုန်းက ဖြစ်၏။ အရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန်တို့သည် ဖြစ်သစ်စ ရဟန်းငါးရာကို ခေါ်ဆောင်၍ ဘုရားရှင်ထံ လာရောက်ကြ၏။ ကျောင်းနေ ရဟန်းများနှင့် အာဂန္တုရဟန်းများလည်း ပါလာသော သင်္ကန်း၊ သပိတ်၊ ပရိက္ခရာများ သိမ်းဆည်းရင်း၊ အိပ်ရာနေရာများ ခင်းပေးရင်း အသံကျယ်ကျယ် စကားပြောကြလေရာ ဘုရားရှင်က အာဂန္တုအားလုံးကို နှင်ထုတ်တော်မူ၏။

ဘုရားရှင် အမိန့်တော်ကို ရိုသေစွာ နာခံ၍ အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန် အမှူးရှိသော အာဂန္တုရဟန်းတို့ အခြားသို့ ထွက်ခွာသွားကြရ၏။ ခရီးဝေးဝေးသို့ မရောက်သေးမီမှာပင် စာတုမမြို့မှာ နေကြသော သကျမျိုးနွယ်တို့က ဘုရားရှင် ကျေနပ်လောက်အောင် ဥပမာအသွယ်သွယ်ဖြင့် လျှောက်ထား တောင်းပန်ကြသဖြင့် အာဂန္တုရဟန်းများအား ရှေ့တော်မှောက်သို့ လာရောက်ခွင့် ပြုတော်မူ၏။

ရှေ့တော်မှောက်သို့ ဝင်ရောက်လာကြသော အာဂန္တု ရဟန်းများအား ဘုရားရှင်က သာသနာတော်၌ ရဟန်းပြုသော ရဟန်းသည် အချင်းချင်း စကားပြော၍ တသောသော မနေသင့်ကြောင်း၊ ဘဝမှာ တွေ့ကြုံရသော ဘေးတို့ကို ရှုဆင်ခြင်ကာ ကမ္မဋ္ဌာန်း ဘာဝနာပွားများသင့်ကြောင်း မိန့်ကြားတော်မူ၏။]

❀ ❀ ❀



## ၁။ ကံအကျိုးကို တန်ခိုးဖြင့် တားမြစ်နိုင်သလော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ တန်ခိုးဣဒ္ဓိပါဒ် ကြီးမားကုန်သော ငါဘုရား၏ တပည့်ရဟန်းတို့တွင် မဟာမောဂ္ဂလာန်သည် အမြတ်ဆုံးပေတည်းဟူ၍ ဘုရားရှင် ဟောကြားတော်မူ၏။ ထိုမှတစ်ဖန် ထိုအရှင် မဟာမောဂ္ဂလာန်သည် ခိုးသားတို့၏ ဆောက်ပုတ်ဖြင့် ရိုက်နှက်ခြင်းကို ခံရသည်ဖြစ်၍ ဦးခေါင်းကွဲလျက် အရိုးများ စိစိညက်ညက်ကြေလျက်ပရိနိဗ္ဗာန်ပြုရ၏ ဟူ၍လည်း တပည့်တော် ကြားနာရပါ၏။

''အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့၊ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့ ရှေ့စကားသည် မှားပေရာ၏။အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ အရှင်မဟာမောဂ္ဂလာန် ဆောက်ပုတ်ဒဏ်ဖြင့် ပရိနိဗ္ဗာန် ပြုရခြင်းမှာ အကုသိုလ်ကံ ဖိစီးနှိပ်စက်သောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ တန်ခိုးကြီးသော ပုဂ္ဂိုလ်၏ တန်ခိုးစွမ်းအားဖြင့် ကံ၏ အကျိုးပေးနိုင်စွမ်းအားတို့သည် သာမန် လူတို့ တွေးတောကြံစည်၍ မရနိုင်၊ မသိနိုင်သော အစိန္တေယျတရားတို့ပင် မဟုတ်ပါလော။ ဥပမာအားဖြင့် လူတို့သည် သီးသီးတစ်လုံးဖြင့် အခြားသီးသီးတစ်လုံးကို ပစ်ချကြကုန်၏။ သရက်သီးတစ်လုံးဖြင့် အခြားသရက်သီးတစ်လုံးကို ပစ်ချကြကုန်၏။ ဤအတူသာပင် အစိန္တေယျတရားတစ်ပါးဖြစ်သော တန်ခိုးစွမ်းအားဖြင့် အစိန္တေယျ တရားတစ်ပါးဖြစ်သော ကံ၏ အကျိုးပေးနိုင်စွမ်းအားကို ဟန့်တားပယ်ချ နိုင်ရမည် မဟုတ်ပါလော'

'မင်းမြတ်၊ ဤမြေအပြင်၌ ခတ္တိယအမျိုးအနွယ်မှ ထပ်တူထပ်မျှ ဖွားမြင်လာခဲ့ကြကုန်သော ပြည့်ရှင်မင်းတို့ ရှိကြကုန်၏။ ထိုမင်းတို့တွင်လည်း တစ်ပါးသော ပြည့်ရှင်မင်းသည် အခြားသော ပြည့်ရှင်မင်းတို့ကို လွှမ်းမိုးကျော်လွန်၍ တန်ခိုးအာဏာ ကြီးမားလာ၏။ ဤအတူသာပင်

အစိန္တေယျ တရားချင်းအတူတူ ဖြစ်သော်လည်း ကံ၏ အကျိုးပေးနိုင်စွမ်းအားသည်သာလျှင် အခြားသော အစိန္တေယျတို့ထက် အလွန့်အလွန် အားကြီးလှပေ၏။ အကုသိုလ်ကံ နှိပ်စက်သော သူအား အခြားသော အစိန္တေယျတရားက စောင့်ရှောက် ကယ်တင်နိုင်သော အခွင့်အလမ်း မရှိကြကုန်။ ထို့ကြောင့်သာလျှင် အရှင်မဟာမောဂ္ဂလာန်သည် ခိုးသားတို့က ဆောက်ပုတ်ဖြင့် ရိုက်နှက်သတ်ဖြတ် ကြသောအခါ တန်ခိုးစွမ်းအားဖြင့် တားမြစ်ရန် မစွမ်းနိုင်တော့ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ဘုရားသာသနာတော်ကြီး ပေါ်ထွန်းလာသဖြင့် တိတ္ထိတို့သည် လာဘ်လာဘ ဆုတ်ယုတ်လာကြကုန်၏။ အရှိန်အဝါ လျော့ပါးလာရကုန်၏။ တိတ္ထိတို့သည် ထိုသို့ဖြစ်ရပုံကို မခံမရပ်နိုင်ဖြစ်ကာ အစည်းအဝေး လုပ်ကြ၏။ ထိုအစည်းအဝေးတွင် တိတ္ထိတစ်ယောက်က ငါ့ရှင်တို့၊ ရဟန်းဂေါတမသည် အရှင်မောဂ္ဂလာန်ကို အမှီပြု၍ လာဘ်လာဘ ပေါများနေ၏။ အရှင်မောဂ္ဂလာန်သည် နတ်ပြည်သို့ တက်ရောက်ပြီးလျှင် စည်းစိမ်ရှင် နတ်သမီး၊ နတ်သားတို့၏ ကုသိုလ်ကံအကြောင်းကို မေးမြန်းခဲ့ပြီးလျှင် လူ့ပြည်သို့ ပြန်လာ၍ ဒါယကာ ဒါယိကာမများထံ တစ်ဆင့် ပြောပြ၏။ တစ်ဖန် ငရဲဘုံသို့ ဆင်းသက်ပြီးလျှင် ငရဲသားတို့၏အကုသိုလ်အကြောင်းကို မေးမြန်းခဲ့ပြီးလျှင် လူ့ပြည်သို့ ပြန်လာ၍ တစ်ဆင့်ပြောပြ၏။ ထို့ကြောင့် လူတို့သည် ရဟန်းဂေါတမကို ကြည်ညိုလာကြကာ အမြောက်အမြား ပေးလှူကြ၏။ အကယ်၍ ငါတို့သည် အရှင် မောဂ္ဂလာန်ကို သတ်နိုင်ကြလျှင် ရဟန်းဂေါတမ ရရှိနေသော လာဘ်လာဘတို့သည် ငါတို့ အတွက်သာ ဖြစ်လာကြကုန်လတ္တံ့ဟု ပြောဆို၏။ ထိုသူ၏ စကားကို အားလုံးက နှစ်သက်ကြသဖြင့် ခိုးသားတို့အား ငွေတစ်ထောင်ပေးကာ အရှင်မောဂ္ဂလာန်အား သတ်ဖြတ်ရန် စေခိုင်းကြ၏။

ထိုအချိန်၌ အရှင်မောဂ္ဂလာန်သည် ရာဇဂြိုဟ်မြို့တော်အနီး ကာလသိလာမည်သော အရပ်ရှိ ကျောင်းတစ်ဆောင်တွင် တစ်ပါးတည်း နေထိုင်၏။ ခိုးသားများ ဝိုင်းလာသောအခါ အရှင်မောဂ္ဂလာန်သည် သော့ပေါက်ဖြင့် ထွက်ခွာလာခဲ့၏။ နောက်တစ်ခါ ဝိုင်းလာပြန်သောအခါ ကျောင်းအမိုးကို ဖောက်ကာ ကောင်းကင်သို့ ပျံတက်ခဲ့၏။ ဤသို့ဖြင့် နှစ်လတိုင်တိုင် ကြာလာသောအခါ အရှင်မောဂ္ဂလာန်သည် မိမိ၏ရှေးဘဝက ပြုခဲ့ဖူးသော အကုသိုလ်ကံကို ဆင်ခြင်သုံးသပ်မိ၏။

တစ်ခုသော ဘဝတုန်းက မိမိသည် မိအို၊ ဖအိုနှစ်ပါးတို့အား ကောင်းမွန်စွာ ပြုစုလုပ်ကျွေးခဲ့သော လုလင်ပျိုတစ်ယောက် ဖြစ်ခဲ့၏။ ထို့နောက် မယားရလာသောအခါ မယားမိုက်၏ တိုက်တွန်းချက်အရ မိအို၊ ဖအိုများကို လှည်းဖြင့် တင်ဆောင်လာခဲ့၏။ လူသူမနီးသော တောအုပ်ကြီးထဲသို့ ရောက်သောအခါ မိမိကိုယ်တိုင်က ခိုးသားဟန်ဆောင်ကာ မိအို၊ ဖအိုများကို သတ်ဖြတ်ခဲ့၏။ ထိုအကုသိုလ်ကံက ယခုအခါ အကျိုးပေးရန် ဆွဲငင်လာပြီဖြစ်၍ ဤတစ်ကြိမ် ခိုးသားများဝိုင်းလာကြရာတွင် တန်ခိုးစွမ်းအားဖြင့် မရှောင်တိမ်းတော့ချေ။

ခိုးသားများသည် အသင့်ပါလာသော ဆောက်ပုတ်တို့ဖြင့် အရှင်မောဂ္ဂလာန်၏ အရိုးဟူသမျှကို စိစိညက်ညက်ကြေအောင် ရိုက်နှက် ထောင်းထုကာ သေပြီထင်မှတ်၍ ထားခဲ့ကြ၏။ အရှင်မောဂ္ဂလာန်သည် တန်ခိုးစွမ်းအားဖြင့် ကိုယ်ခန္ဓာကို နဂိုနေအတိုင်းဖြစ်အောင် ဖန်ဆင်းကာ ဘုရားရှင်ထံ ရှိခိုး

လျှောက်ထားပြီးမှ ကာလသိလာအရသို့ပြန်၍ ပရိနိဗ္ဗာန်ပြု၏။ မကြာမီမှာပင်လျှင် အရှင်မောဂ္ဂလာန် အား သတ်ဖြတ်သော ခိုးသားများနှင့် ခိုင်းစေသော တိတ္ထိများကို သူလျှိုများမှတစ်ဆင့် အဇာတသတ်မင်း က သိရှိကာ သူတို့အားလုံးအား ဖမ်းဆီး၍ သေဒဏ်ပေးလိုက်လေ၏။ ]

## ၂။ ဓမ္မဝိနယကို ပိတ်ပင်ထားသင့်သလော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ ငါဘုရားဟောကြားခဲ့သော သုတ်၊ အဘိဓမ္မာ၊ ဝိနည်းသည် လူတကာ သိသာ မြင်သာအောင်သာ ဖွင့်ဖော်ထားလျှင်သာ တင့်တယ်၏။ ပိတ်ပင်ထားလျှင်ကား မတင့်တယ်ချေဟူ၍ ဘုရားရှင် ဟောကြားတော်မူ၏။ ထိုမှတစ်ဖန် ပါတိမောက်ပြခြင်းကို လည်းကောင်း၊ ဝိနည်းပိဋကတစ်ခုလုံးကို လည်းကောင်း ဖုံးပိတ်ထားအပ်၏ ဟူသော စကားကိုလည်း ဟောကြားတော်မူပြန်၏။

'အရှင်ဘုရား၊ ထိုစကား နှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ပါတိမောက်ပြခြင်းနှင့် ဝိနည်းပိဋကတို့ကို ပိတ်ပင်ထားအပ်၏ဟု မိန့်ကြားတော် မူသော်လည်း ခြွင်းချက်မရှိ ပိတ်ဖုံးထားခြင်း မရှိပေ။ ခြွင်းချက်ထားကာ အပိုင်းအခြားပြု၍ ပိတ်ဖုံးထားခြင်းသာ ဖြစ်ပေ၏။

'မင်းမြတ်၊ ရှေးဘုရားရှင်တို့၏ အစဉ်အလာအားဖြင့် လည်းကောင်း၊ ပါတိမောက် တရားတော်၏ အလေးအမြတ် ပြုအပ်သော ဂုဏ်ကျေးဇူးကို ထောက်ထားသော အားဖြင့် လည်းကောင်း၊ ရဟန်းအဖြစ်၏ အလေးအမြတ် ပြုအပ်သော ဂုဏ်ကျေးဇူးကြောင့်သော် လည်းကောင်း ရဟန်းမှ တစ်ပါး အခြားသူတို့ ပါတိမောက်ပြခြင်းကို ဘုရားရှင် ပိတ်ပင်တော် မူခဲ့၏။

'မင်းမြတ်၊ ဥပမာအားဖြင့် မင်းတို့၏ ပြုမူပြောဆို နေထိုင်ပုံသည် မင်းတို့နှင့်သာ စပ်ဆိုင်ကာ အခြားသူတို့နှင့် မစပ်ဆိုင်ချေ။ ဤအတူပင် ရဟန်းတို့၏ အလယ်မှာသာ ပါတိမောက်ပြ၍ ရဟန်းမဟုတ်သော လူများအလယ်၌ ပါတိမောက်ပြခြင်းကို ပိတ်ပင်ထား အပ်၏။ ဤသို့ ရှေးရှေးသော ဘုရားရှင်တို့၏ အစဉ်အလာအားဖြင့် ပါတိမောက်ပြခြင်းကို ပိတ်ပင်ထားပေ၏။

'မင်းမြတ်၊ ပါတိမောက် တရားတော်သည် တာဝန် ကြီးလေးလှ၏။ ထိုပါတိမောက်ကို မှန်ကန်စွာ လိုက်နာကျင့်သုံးလျှင် အရဟတ္တဖိုလ်သို့ ရောက်နိုင်၏။ ဥပမာအားဖြင့် အဖိုးအနဂ္ဃ

ထိုက်တန်၍ အထွတ်အမြတ်ဆုံး ဖြစ်သော စန္ဒကူးနံ့သာနှစ်သည် လူရိုင်းတို့ လက်သို့ ရောက်လတ်သော အထင်သေးစရာ၊ မလေးမခန့် ပြုစရာ၊ ရှုတ်ချစရာ၊ ကဲ့ရဲ့စရာ ဖြစ်ရ၏။ ဤအတူသာပင် အနှစ်နှင့် ပြည့်စုံသော ဤပါတိမောက် တရားတော်သည်လည်း သူယုတ်မာတို့ထံ ရောက်လတ်သော် အထင်သေးစရာ၊ မလေးမခန့် ပြုစရာ၊ ရှုတ်ချစရာ၊ ကဲ့ရဲ့စရာ ဖြစ်လာနိုင်၏။ ထို့ကြောင့် လူသားတို့ အလယ်၌ ပါတိမောက်ပြခြင်းကို ပိတ်ပင်ထားအပ်၏။ ဤသို့ ပါတိမောက် တရားတော်၏ အလေးအမြတ် ပြုအပ်သော ဂုဏ်ကျေးဇူးကို ထောက်ထားသော အားဖြင့် ပါတိမောက်ပြခြင်းကို ပိတ်ပင်ထားပေ၏။

'မင်းမြတ်၊ စင်စစ်အားဖြင့် ဤလောက၌ ရဟန်း၏ အဖြစ်သည် မည်သည့် ဂုဏ်ကျေးဇူးနှင့်မျှ နှိုင်းယှဉ် ချိန်စက်၍ မရနိုင်အောင်၊ တန်ဖိုး မဖြတ်နိုင်အောင် မြင့်မြတ်လှ၏။ ဥပမာအားဖြင့် လောက၌ ကိုယ်ဝတ်အထည်၊ ခင်းစရာ အထည်၊ ဆင်၊ မြင်း၊ ရထား၊ ရွှေ၊ ငွေ၊ ပတ္တမြား၊ ပုလဲ၊ မိန်းမချော မိန်းမလှနှင့် စစ်သည် သူရဲကောင်းဟူသော အဖိုးထိုက်တန်သော သက်ရှိ သက်မဲ့ အရာဝတ္ထုတို့သည် ဘုန်းတန်ခိုး ကြီးသော ပြည့်ရှင်မင်းတို့ထံသို့သာ ဆိုက်ရောက် လာကြကုန်၏။ ဤအတူသာပင် ဤလောက၌ ဘုရားဟော ပါဠိတော် သင်ယူခြင်း၊ ကမ္မဋ္ဌာန်း စီးဖြန်းခြင်း၊ ဣန္ဒြေကို စောင့်စည်းခြင်း၊ သီလသိက္ခာ လုံခြုံစွာ စောင့်ထိန်းခြင်းတည်းဟူသော ဂုဏ်ကျေးဇူး ဟူသမျှတို့သည် ရဟန်းသံဃာထံသို့သာ ဆိုက်ရောက်ကြကုန်၏။ ဤသို့ ဂုဏ်ကျေးဇူး မြင့်မြတ်လှသော ရဟန်းသည် နတ်လူတို့နှင့် တန်းတူ ညီတူဖြစ်စေရန် သဘောထား၍ လူသားတို့ အလယ်၌ ပါတိမောက်ပြခြင်းကို ပိတ်ပင်ထားအပ်၏။ ဤသို့ ရဟန်းအဖြစ် အလေး အမြတ်ပြုအပ်သော ဂုဏ်ကျေးဇူးကို ထောက်ထားသောအားဖြင့် ပါတိမောက်ပြခြင်းကို ပိတ်ပင် ထားပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၃။ မုသားချင်း တူပါလျက် အဘယ့်ကြောင့် အပြစ်ချင်း မတူသနည်း

'အရှင်နာဂသေနဘုရား၊ ရဟန်းတစ်ပါးသည် သိလျက် မုသားပြောဆိုခြင်းကြောင့် သာသနာတော်မှ ဆုံးရှုံး၏ဟူ၍ ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ရဟန်းတစ်ပါးသည် သိလျက် မုသားပြောဆိုခြင်းကြောင့် အခြား ရဟန်းတစ်ပါးထံ၌ ဒေသနာကြားမှ ထမြောက်နိုင်သော ပါစိတ်အာပတ်သင့်၏ ဟူ၍လည်း ဘုရားရှင် မိန့်တော်မူပြန်ပါ၏။

"အရှင်ဘုရား၊ ဤမုသားစကားနှစ်မျိုး၏အထူးကားအဘယ်နည်း။ ဤစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည်မှားပေရာ၏။ အကယ်၍ နောက်

စကားသည် မှန်ခဲ့ငြားအံ့။ ရေ့စကားသည်မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာ ကိုဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ မုသားချင်းတူပါလျက် အပြစ်ခြင်းမတူဘဲ အလေးအပေါ့ကွဲပြားနေရခြင်းမှာ လွန်ကျူးပြောဆိုအပ်သော အကြောင်း ဝတ္ထု ကွဲပြားနေသောကြောင့် ဖြစ်ပေ၏။ မင်းမြတ် ဥပမာအားဖြင့် ဤလောက၌ ယောကျ်ားတစ်ယောက်သည် အခြားလူတစ်ယောက်အား လက်ဖြင့် ရိုက်ပုတ်ငြားအံ့။ ထိုရိုက်သော ယောကျ်ားကို သင်မင်းမြတ်တို့သည် မည်သို့ အပြစ်ဒဏ် ပေးကြပါသနည်း'

'အရှင်ဘုရား၊ အကယ်၍ အရိုက်ခံရသော သူက မကျေအေးနိုင်ပါလျှင် ရိုက်သော ယောကျ်ားကို အသပြာတစ်ကျပ် ဒဏ်ရိုက်ကြပါသည် ဘုရား'

'မင်းမြတ်၊ ထိုယောကျ်ားသည်ပင် သင်မင်းမြတ်အား လက်ဖြင့် ရိုက်ပုတ်ငြားအံ့။ ထိုယောကျ်ားအား မည်သို့အပြစ်ဒဏ်ပေးပါမည်နည်း'

'အရှင်ဘုရား၊ ထိုယောကျ်ား၏ လက်ကိုသော် လည်းကောင်း၊ ခြေကိုသော် လည်းကောင်း၊ ဦးခေါင်းကိုသော်လည်းကောင်း ဖြတ်စေကုန်ရာ၏။ ရိုက်သောယောကျ်ား၏ အိုးအိမ်အားလုံးကိုသော်လည်း ဖျက်ဆီးစေကုန်ရာ၏။ မိဘက်၊ ဖဘက်မှ ဆွေခုနစ်ဆက်၊ မျိုးခုနစ်ဆက်တိုင်အောင်သော်လည်း သတ်ဖြတ်စေကုန်ရာ၏'

'မင်းမြတ်၊ လူတစ်ယောက်အား ရိုက်ပုတ်ခြင်းနှင့်သင်မင်းမြတ်အား ရိုက်ပုတ်ခြင်းတို့၏ အပြစ်ဒဏ်ချင်း ထူးခြားနေရခြင်းတို့၏ အကြောင်းကား အဘယ်နည်း'

'အရှင်ဘုရား၊ အရိုက်ခံရသောလူချင်း ထူးခြားနေသောကြောင့်ဖြစ်ပေ၏'

'မင်းမြတ်၊ဤအတူသာပင် သိလျက်နှင့် လွန်ကျူးပြောဆိုအပ်သော အကြောင်းဝတ္ထုချင်း ထူးခြားနေသောကြောင့် မုသားချင်းတူပါလျက် အပြစ်ချင်းမတူဘဲ အလေးအပေါ့ ဖြစ်နေရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပေ၏'

[ရဟန်းတစ်ပါးသည် မိမိမှာ ဈာန်မဂ်ဖို မရရှိဘဲလျက် လာဘ်လာဘ ပေါများလိုခြင်း၊ နာမည်ကြီးလိုခြင်းကြောင့် မိမိ ဈာန် မဂ်ဖိုလ် ရကြောင်း လိမ်လည်ပြောကြားလျှင် သာသနာတော်မှ ဆုံးရှုံးရာ၏။ ရဟန်းဘောင်မှ ထွက်ခွာရ၏။ ပါရာဇိက အာပတ်ကြီးလေးပါးတွင် စတုတ္ထမြောက် အာပတ်ကြီးသင့်၏။ ဈာန်မဂ်ဖိုလ်မှတစ်ပါးသောတရားတို့ကို လိမ်လည် ပြောကြားလျှင်ကား သမ္ပဇာနသာ ဝါဒ ပါစိတ်အာပတ်သင့်ပေ၏။]

## ၄။ ဘုရားလောင်းသည် အဘယ့်ကြောင့် ကြည့်ခြင်းကြီး ရှစ်မျိုးကို ကြည့်ရသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားလောင်းတို့၏ ဓမ္မတာကို ပြဆိုရာ ဒေသနာတော်၌ ဗျာဒိတ်တော် ရရှိပြီးချိန်မှစ၍ ဘုရားလောင်းတို့၏ အမိအဖများ၊ သဗ္ဗညုတဉာဏ်တော်၊ အဂ္ဂသာဝကများ၊

သားတော်နှင့်အလုပ်အကျွေးတို့ကို အတိအကျ သတ်မှတ်ထားပြီး ဖြစ်၏ဟူသော စကားကို ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ဘုရားလောင်းသည် တုသိတာနတ်ပြည်မှာ စံစားလျက် ဘုရားဖြစ်မည့် အချိန်အခါ၊ ဘုရားဖြစ်မည့်ကျွန်း၊ ဖွားတော်မူမည့်အရပ်၊ ဖွားတော်မူမည့်အမျိုးအနွယ်၊ မယ်တော်၊ မယ်တော်၏ အသက် အပိုင်းအခြား၊ ဖွားတော်မူမည့် လနှင့်တောထွက်ခြင်းတည်း ဟူသော ဤအကြောင်းအရာ ရှစ်ပါးကို ကြည့်ရှုဆင်ခြင်၏ ဟူသော စကားကိုလည်း အရှင်ဘုရားတို့ မိန့်ကြားတော် မူကြပြန်၏။

'အရှင်ဘုရား၊ ဉာဏ်မရင့်ကျက်ခဲ့သေးလျှင် ကြည့်ရှုဆင်ခြင်၍ မမြင်နိုင်ပေ။ ဉာဏ်ရင့်ကျက်၍ လာလတ်သော်ကား အကြောင်းအရာထူးကို ဆိုင်ငံ့ထားရန် မစွမ်းနိုင်ပါ။ ရင့်ကျက်လာသော စိတ်ကို မလွန်စေဘဲ ထူးခြားသော အကြောင်းအရာတို့ ဖြစ်ပေါ်လာရမည်သာ ဖြစ်၏။ ထိုသို့ ဖြစ်ပါလျက် ဘုရားလောင်းသည် အဘယ့်ကြောင့် ထိုကြည့်ခြင်းကြီး ရှစ်မျိုးကို ကြည့်ရပါသနည်း။ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်း နှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ ရှစ်ယောက်သော သူတို့သည် အနာဂတ်အရေးကို ရှေးမဆွကပင် ကြိုတင်၍ ကြည့်ရှုဆင်ခြင် သင့်ကုန်၏။ ကုန်သည်သည် ရောင်းချရန် ကုန်ကို ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်သင့်၏။ ဆင်ပြောင်ကြီးသည် မရောက်သေးသော လမ်းခရီးကို နှာမောင်းဖြင့် ရှေးမဆွကပင် ကြည့်ရှုဆ ခြင်သင့်၏။ လှည်းကုန်သည်သည် မရောက်သေးသော လှည်းစခန်းချရာဌာနကို ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်သင့်၏။ လှေသူကြီးသည် မဆိုက်ရောက်သေးသော ကမ်းပါးကို ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်၍ လှေကိုစွက်လွှင့်သင့်၏။ ဆေးဆရာသည် လူနာ၏အသက်ကို ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်၍ လူနာထံသို့ ချဉ်းကပ်သင့်၏။ တံတားပေါ်မှ ဖြတ်ကူးသော သူသည် တံတားခိုင်သည် မခိုင်သည် ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်၍ တံတားပေါ် တက်သင့်၏။ ရဟန်းသည် မရောက်လာသေးသော မွန်းတည့်ချိန်ကို ရှေးမဆွကပင် ကြည့်ရှု ဆင်ခြင်၍ ဆွမ်း ဘောစဉ်ကို စားသောက်သင့်၏။ ဘုရားလောင်းသည် မင်းမျိုးနှင့် ပုဏ္ဏားမျိုးကို ရှေးမဆွကပင် ကြည့်ရှုဆင်ခြင်သင့်၏။ မင်းမြတ်၊ ရှစ်ယောက်သော ဤသူတို့သည် အနာဂတ်အရေးကို ရှေးမဆွကပင် ကြည့်ရှု ဆင်ခြင်သင့်ကုန်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ဗုဒ္ဓဝင် အဋ္ဌကထာနှင့်တကွ အခြား ကျမ်းဂန်များမှာမူ ဘုရားပွင့်မည့် ကျွန်း၊ ဘုရားပွင့်မည်အချိန်၊ ဘုရားပွင့်မည့် အရပ်ဒေသ၊ ဘုရားလောင်း ဖွားမြင်မည့် အမျိုးအနွယ်၊ မယ်တော်၏အသက် အပိုင်းအခြား အားဖြင့် ကြည့်ခြင်းကြီး ငါးပါးကို ကြည့်ရှုကြောင်း ဖော်ပြထားကြ၏။ နိယတဗျာဒိတ်ပန်း

ဆင်မြန်းရစဥ်ကပင် ဘုရားလောင်း၏ နောက်ဆုံးဘဝ အမိအဖ စသည်တို့ကို အတိအကျ သတ်မှတ် ပိုင်းခြားထားပြီး ဖြစ်သော်လည်း ဘုရားလောင်းတို့၏ ဓမ္မတာအရ ဉာဏ်ပညာ ရှေ့သွားပြု၍ ကြည့်ရှု ဆင်ခြင်ခြင်းသာ ဖြစ်ပေ၏။]

## ၅။ မိမိကိုယ်ကို သတ်သေသင့်သလော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ မိမိကိုယ်ကို မသတ်အပ်။ အကြင်ရဟန်းတို့သည် အကယ်၍ မိမိကိုယ်ကို သတ်ငြားအံ့။ ထိုရဟန်းအား အပြစ်အားလျော်စွာ ပြုစေအပ်၏ဟူ၍ ဘုရားရှင် မိန့်ကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် တစ်စုံတစ်ခုသောအရပ်၌ ဘုရားရှင် တရားဟောတော် မူလတ်သော် အကြောင်းအမျိုးမျိုးဖြင့် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းကို အကြွင်းမဲ့ ဖြတ်တောက်ခြင်းငှာ တရားဟောတော်မူ၏။ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းမှ ကောင်းစွာ လွတ်မြောက်ပြီးသောသူကို ဘုရားရှင်တို့ လွန်လွန်ကဲကဲ ချီးကျူးတော် မူကြ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက် လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ပဋိသန္ဓေ နေခြင်း၊ အိုခြင်း၊ နာခြင်း တို့မှ လွတ်မြောက်အောင် တရားဟောတော်မူရာ၌ ဘုရားရှင်သည် မိမိကိုယ်ကို သတ်သေခြင်း ကိုလည်း ပယ်တော်မူ၏။ တရားဘာဝနာ ပွားများခြင်းကိုလည်း ဆောက်တည်စေတော်မူ၏။ ထိုသို့ ပယ်တော်မူရခြင်း၊ ဆောက်တည်တော်မူရခြင်း၏ အကြောင်းကား ရှိပေ၏'

'အရှင်ဘုရား၊ အကြောင်းကား အဘယ်ပါနည်း'

'မင်းမြတ်၊ သီလရှိသောသူသည် သတ္တဝါတို့၏ ကိလေသာ အဆိပ်ကို ဖျက်ဆီးရာ၌ အဆိပ်ဖြေဆေးနှင့် တူပေ၏။ သတ္တဝါတို့၏ ကိလေသာအနာကို ပျောက်ကင်းအောင် ကစားရာ၌ ဗိန္ဓောဆေးနှင့် တူပေ၏။ သတ္တဝါတို့၏ ကိလေသာ မြူအညစ်အကြေးကို ဆေးကြောရာ၌ ရေနှင့် တူပေ၏။ သတ္တဝါတို့အား စည်းစိမ်ချမ်းသာ အားလုံးကို ပေးကမ်းရာ၌ ပတ္တမြားရတနာနှင့် တူပေ၏။ ဩဃ လေးပါးတို့၌ နစ်မွန်းမျောပါနေရသော သတ္တဝါတို့အား တစ်ဖက်ကမ်းသို့ ကူးပို့ရာ၌ လှေနှင့်တူပေ၏။ ဇာတိ သံသရာတည်းဟူသော ခရီးကြမ်း၌ မောပန်းနေကြသော သတ္တဝါတို့အား ဘေးကင်းရာသို့ ကယ်တင်ရာ၌ လှည်းမှူးကြီးနှင့် တူပေ၏။ သတ္တဝါတို့၏ သောကအရှိန်ကို ငြိမ်းအေးစေရာ၌ လေပြည်လေညှင်းနှင့် တူပေ၏။ သတ္တဝါတို့၏ နှလုံး

အလိုကို ဖြည့်ဆည်းရာ၌ မိုးနှင့်တူပေ၏။ သတ္တဝါတို့အား ကုသိုလ်အကျင့်ကို ကျင့်တတ်အောင် သင်ကြားရာ၌ ဆရာနှင့် တူပေ၏။ သတ္တဝါတို့အား ဘေးကင်းရာလမ်းခရီးကို ညွှန်ကြားရာ၌ သူတော်ကောင်း လမ်းပြနှင့် တူပေ၏။ ဤသို့ စသည်ဖြင့် အတိုင်းမသိ များပြားလှသော သီလဂုဏ်ကျေးဇူးနှင့် ပြည့်စုံသော ပုဂ္ဂိုလ်သည် မသေပါစေနှင့်ဟူ၍ သတ္တဝါတို့အား သနားတော်မူသဖြင့် မိမိကိုယ်ကို သတ်၍ မသေစေရန် ရဟန်းတို့အား မိန့်ကြားတော်မူ၏။ ဤကား မိမိကိုယ်ကို သတ်သေခြင်းကို ပယ်တော်မူခြင်း၏ အကြောင်းရင်း ဖြစ်ပေ၏။

'မင်းမြတ်၊ ဆန်းကြယ်လှစွာသော တရားစကားကို ဟောကြားတတ်သော အရှင်ကုမာရကဿပသည် ပါယာသိရာဇညမင်းအား တမလွန်လောကအကြောင်းကို ရှင်းလင်းပြောကြားရာ၌ ရာဇညမင်း၊ သီလရှိကုန်သော၊ ကောင်းသော စိတ်သဘော ရှိကုန်သော သမဏ၊ ဗြာဟ္မဏတို့ အချိန်ကြာမြင့်စွာ တည်ရှိနေခြင်းကြောင့် သတ္တဝါတို့အတွက် ကုသိုလ်တရား တိုးပွားကြရကုန်၏။ အကျိုးစီးပွား များပြားကြရကုန်၏။ ချမ်းသာသုခ ရရှိကြကုန်၏။ ထို သမဏ၊ ဗြာဟ္မဏတို့သည် လောကကို အစဉ်စောင့်ရှောက်ခြင်းအလို့ငှာ၊ နတ်လူတို့၏ အကျိုးစီးပွားအလို့ငှာ၊ ချမ်းသာသုခ အလို့ငှာ ကျင့်သုံးကြကုန်၏' ဟု ဟောကြားခဲ့ပေ၏။

'မင်းမြတ်၊ ပဋိသန္ဓေနေခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း၊ ပူဆွေးရခြင်း၊ ငိုကြွေးရခြင်း၊ ကိုယ်ဆင်းရဲခြင်း၊ စိတ်ဆင်းရဲခြင်း၊ ပြင်းစွာပူပန်ရခြင်းသည်လည်း ဆင်းရဲ၏။ မချစ်သော သူနှင့် ပေါင်းဖော်ရခြင်း၊ ချစ်သောသူနှင့်ကွေကွင်းရခြင်းသည်လည်း ဆင်းရဲ၏။ အမိသေခြင်း၊ အဖသေခြင်း၊ အစ်ကိုသေခြင်း၊ နမသေခြင်း၊ သားသမီးသေခြင်း၊ မယားသေခြင်း၊ ကျေးကျွန်သေခြင်း၊ ဆွေမျိုးသေခြင်း သည်လည်း ဆင်းရဲ၏။ ဆွေမျိုးပျက်စီးခြင်း၊ အနာ ရောဂါ နှိပ်စက်ခြင်း၊ စည်းစိမ်ဥစ္စာ ပျက်စီးခြင်း၊ အကျင့်သီလပျက်စီးခြင်း၊ အယူမှားယွင်း၍ ပျက်စီးခြင်း သည်လည်း ဆင်းရဲ၏။ မင်းဘေး၊ ခိုးသူဘေး၊ ရန်သူဘေး၊ ငတ်မွတ်ခြင်းဘေး၊ မီးဘေး၊ ရေဘေး၊ လှိုင်းတံပိုးဘေး၊ ရေဝဲဘေး၊ မိကျောင်းဘေး၊ ငါးမန်းဘေးသည်လည်း ဆင်းရဲ၏။ မိမိကိုယ်ကို မိမိစွပ်စွဲခြင်း၊ မိမိကိုယ်ကို သူတစ်ပါးတို့က စွပ်စွဲခြင်းသည်လည်းဆင်းရဲ၏။ ဒဏ်သင့်ခြင်း၊ မကောင်းသောလားရာ ဂတိဘေး၊ ပရိသတ်ကိုကြောက်ရွံ့ရခြင်း၊ သူတစ်ပါးကိုမှီ၍ အသက် မွေးရခြင်းသည်လည်း ဆင်းရဲ၏။

'ကြိမ်လုံးရိုးရိုးဖြင့် အရိုက်ခံရခြင်း၊ ဆူးတပ်ထားသောကြိမ်လုံးဖြင့် အရိုက်ခံရခြင်း၊ နှစ်တောင်ရှည်သော တုတ်တိုဖြင့် အရိုက်ခံရခြင်း၊ လက်ဖြတ်ခံရခြင်း၊ ခြေဖြတ်ခံရခြင်း၊ ခြေရောလက်ပါ အဖြတ်ခံရခြင်း၊ နားဖြတ်ခံရခြင်း၊ နှာခေါင်းဖြတ်ခံရခြင်း၊ နားရောနှာခေါင်းပါ အဖြတ်ခံရခြင်း၊ နှာခေါင်းခွံထဲသို့ သံပူခဲကိုထည့်၍ ကျိုက်ကျိုက်ဆူသော ပုံးရည်အိုးကဲ့သို့ ပြုလုပ်ခံရခြင်း၊ ဦးခေါင်းပေါ်မှ အရေခွံကိုခွာ၍ ခရုသင်းကဲ့သို့ ပြောင်ချောနေအောင် အပြုခံရခြင်း၊

မီးလျှံရဲရဲဖြင့် ပူလောင်လွန်းလှသော သံတွေခဲကို ခံတွင်းသို့ ထည့်ကာ လနှင့်နေကို ငုံထားသော ရာဟုခံတွင်းကဲ့သို့ အပြုခံရခြင်း၊ လက်နှင့်ဆီပတ် ရစ်၍ မီးရှို့ပြီးလျှင် ဆီမီးခွက်ကဲ့သို့ အပြုခံရခြင်း၊ လည်မျိုမှသည် ခြေဖနောင့်တိုင်အောင် အရေကို ခွာချကာ ပိန်းရွက်ကဲ့သို့ အပြုခံရခြင်း၊ ခြေလေးဖက်တို့၌ သံကွင်းတပ်ကာ သံချောင်းရိုက်နှက်၍ မီးရှို့ပြီးလျှင် လေးဖက်ထောက်သွားသော ဧဏီသားကဲ့သို့ အပြုခံခြင်း၊ အသွားနှစ်ဖက်ရှိသော သံမျှားချိတ်ဖြင့် အရေ၊ အသား၊ အကြောတို့ကိုခွာချကာ အရိုးကျဲကျဲကျန်ရှိအောင် အပြုခံရခြင်း၊ ထက်လှစွာသော ပဲကွပ်ဖြင့် တစ်ကျပ်သား၊ တစ်ကျပ်သားမျှသော အသားများ ကျသွားအောင် အခုတ်အထစ်ခံရခြင်း၊ ကိုယ်ခန္ဓာတွင် လှံစသည်ဖြင့် မွှမ်းပြီးလျှင် ဆပ်ပြာ၊ ဆားတို့ဖြင့် အပက်အဖြူး ခံရခြင်း၊ ဘေးစောင်းအိပ်နေသော ကိုယ်ခန္ဓာတွင် တံသင်းနှက်တာ တံခါးကျည်ကဲ့သို့ အလှည့်ခံရခြင်း၊ အရေကို မဆုတ်ခွာဘဲ အရိုးများကိုစိစိညက်ညက်ထု၍ ပစ်ချကာ ကောက်ရိုးခွေကဲ့သို့ အပြုခံရခြင်း၊ ကျိုက်ကျိုက်ဆူသောဆီပူဖြင့် အလောင်းခံရခြင်း၊ သန်လျက်ဖြင့် ဦးခေါင်းကို အဖြတ်ခံရခြင်း၊ ဤသို့သဘော ရှိကုန်သော မြောက်မြားလှစွာကုန်သော ဆင်းရဲခြင်းတို့ကို သံသရာကျင်လည်နေသော သူသည် အစဉ်ခံစားနေရ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဟိမဝန္တာတောင်၌ သည်းထန်စွာ ရွာချသော မိုးရေသည် ဂင်္ဂါမြစ်ဝှမ်းမှာ ရှိနေကြသော ကျောက်ခဲ၊ ကျောက်စရစ်၊ လှဲကြမ်း၊ ရေဝဲ၊ လှိုင်းတံပိုး၊ ကန်သင်း၊ ဆည်ဘောင်၊ သစ်မြစ်၊ သစ်ခက်တို့ကို ထက်ဝန်းကျင်မှ ဖုံးလွှမ်းသွား၏။ ဤအတူသာပင် ဤသို့ သဘောရှိကုန်သော မြောက်မြားလှစွာကုန်သော ဆင်းရဲခြင်းတို့ကို သံသရာ ကျင်လည်နေသော သူသည် အစဉ်ခံစားနေရသည်။ မင်းမြတ် သံသရာဝဋ် အတွင်း၌ သက်ဆင်း၊ မျောပါနေရခြင်းသည် ဆင်းရဲ၏။ သံသရာဝဋ် ဆင်းရဲကင်းပြတ်သွားခြင်းသည် ချမ်းသာ၏။ ဝဋ်ဆင်းရဲကင်းပြတ်ခြင်း၏ ဂုဏ်ကျေးဇူးကိုလည်းကောင်း၊ သံသရာဝဋ်အတွင်း၌ သက်ဆင်း မျောပါနေခြင်း၏ ဘေးကိုလည်းကောင်း ပြတော်မူလျက် ဘုရားရှင်သည် ဝဋ်ဆင်းရဲ ကင်းပြတ်ရာဖြစ်သော နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း အကျိုးငှာ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းတို့ကို လွန်မြောက်စေခြင်းအကျိုးငှာ တရားဘာဝနာပွားများခြင်းကို ဆောက်တည် စေတော်မူ၏။ ဤကား တရားဘာဝနာ ပွားများခြင်းကို တည်ဆောက်ခြင်း၏ အကြောင်းရင်း ပေတည်း'

'အရှင်ဘုရား ကောင်းလှပေ၏'

[မိလိန္ဒမင်းသည် မိမိအသက်ကို သတ်သေခြင်းနှင့်သံသရာဝဋ် အစဉ် ကင်းပြတ်သွားအောင် အားထုတ်ခြင်းကို ထပ်တူ သဘောထား၍ လျှောက်ထားခြင်းဖြစ်၏။ အရှင်နာဂသေနကမူ ထိုအခြင်းအရာနှစ်ခု လုံးဝ မတူညီကြောင်းကို ထင်ရှားစွာပြဆို၍ ဖြေကြားပေး၏။]

# ၆။ သုဝဏ္ဏသာမကို အဘယ့်ကြောင့် မြားထိသနည်း

'အရှင် နာဂသေနဘုရား၊ ရဟန်းတို့၊ အမျက်ထွက်ခြင်း စသည်မှ စိတ်ကိုလွတ်မြောက်စေတတ်သော မေတ္တာဘာဝနာကို အဖန်တလဲလဲမှီဝဲသည်ရှိသော်၊ ပွားများသည်ရှိသော်၊ ကြိမ်ဖန်များစွာ အလေ့ အလာ ပြုလုပ်သည်ရှိသော်၊ အသင့်ကပြီးသော ယာဉ်ကဲ့သို့ ပြုလုပ်ပြီးသည်ရှိသော်၊ မှီရာကျွန်းကဲ့သို့ ပြုလုပ်ပြီးသည်ရှိသော်၊ စွဲစွဲမြဲမြဲတည်ရှိပြီးသော်၊ ပွားစီးစေပြီးသော်၊ ကောင်းစွာ အားထုတ်အပ်ပြီးသော်၊ တစ်ဆယ့်တစ်ပါးသော အကျိုးတရားတို့ကို ကေန်ဒိဋ္ဌ ရရှိလိမ့်မည်ဟု မျှော်လင့်အပ်ကုန်၏။ အဘယ်တစ်ဆယ့်တစ်ပါးတို့နည်း ဟူမူကား ချမ်းသာစွာ အိပ်ရခြင်း၊ ချမ်းသာစွာနိုးရခြင်း၊ အိပ်မက်ဆိုးများ မမြင်မက်ရခြင်း၊ လူတို့ချစ်ခြင်း၊ နတ်တို့ချစ်ခြင်း၊ နတ်တို့ စောင့်ရှောက်ခြင်း၊ မီး၊ အဆိပ်နှင့် လက်နက်တို့မထိရောက်နိုင်ခြင်း၊ လျင်မြန်စွာ စိတ်တည်ကြည်ခြင်း၊ မျက်နှာအဆင်း အထူးကြည်လင်ခြင်း၊ တွေဝေမိန်းမောမှုမရှိဘဲသေဆုံးရခြင်း၊ မဂ်မရခဲ့သော် ဗြဟ္မာ့ပြည်တိုင်အောင် လားရောက်နိုင်ခြင်းတို့ပင်တည်းဟူ၍ဘုရားရှင် ဟောကြားတော် မူခဲ့၏၊ ထိုမှတစ်ဖန် မေတ္တာ ဘာဝနာပွားများနေလေ့ရှိသော သုဝဏ္ဏသာမ သတို့သားသည် သမင်အပေါင်းခြံရံလျက် မုဂသမ္ပဒါမြစ်ကမ်းပါး၌ သွားလာနေစဉ် ပီဠိယက္ခမင်း ပစ်လိုက်သောဆိပ်လူးများဖြင့် ထိမှန်ခြင်းခံရ၍ ထိုနေရာမှာပင် မိန်းမော၍ လဲကျသွားရ၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပြန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ရှေ့စကားသည်မှန်ခဲ့ငြားအံ့။ နောက်စကားသည်မှားပေရာ၏။ အကယ်၍ နောက်စကားသည်မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤ ပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင်မှန်ကန်ပါ၏။ သုဝဏ္ဏသာမ သတို့သားသည် ရေအိုးကို ချီမ နေဆဲ ခဏ၌ မေတ္တာ ဘာဝနာပွားများမှု လစ်လပ်သွား၏။ ထို့ကြောင့် ပီဠိယက္ခမင်း၏ အဆိပ်လူးမြား အထိခံရခြင်းဖြစ်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ စစ်သားတစ်ယောက်သည် မကွဲနိုင် မပျက်နိုင်သော ချပ်ဝတ်တန်ဆာဝတ်ဆင်၍ စစ်မြေပြင်သို့ ဝင်ရောက်သွား၏။ ထက်ဝန်းကျင်မှ ပစ်လွှတ်လိုက်သောမြားတို့သည် ထိုစစ်သားထံ ရောက်သွားသောအခါ မစူးဝင်နိုင်ဘဲ လန်၍ကျကုန်၏။ ပြန့်ကျဲ၍ သွားကြကုန်၏။ ချပ်ဝတ်တန်ဆာ ဝတ်ဆင်ထားသော ထိုအချိန်၌ မြားမှန်ခွင့် မရနိုင်ချေ။ ထိုသို့မြားမမှန်နိုင်သော ဂုဏ်ကျေးဇူးသည်ကား စစ်သား၏ ဂုဏ်ကျေးဇူး မဟုတ်ပေ။ ချပ်ဝတ်တန်ဆာ၏ ဂုဏ်ကျေးဇူးသာ ဖြစ်ပေ၏။

'မင်းမြတ်၊ ဤအတူသာပင် မေတ္တာ ဘာဝနာ ပွားများသော အချိန်ခါ၌ ထိုပုဂ္ဂိုလ်အား မီးလည်း မလောင်နိုင်ချေ။ အဆိပ်လည်း မသင့်နိုင်ချေ။ လက်နက်လည်း မထိမှန်နိုင်ချေ။ ထိုမေတ္တာ ဘာဝနာပွားများသူကို လုပ်ကြံသတ်ဖြတ်လိုသောသူတို့သည် အနီးသို့ ကပ်ရောက် လာကြသော်လည်း မမြင်နိုင်ကြကုန်။ မေတ္တာဘာဝနာပွားများနေသော ထိုအခိုက်၌ လုပ်ကြံ သတ်ဖြတ်ခွင့် မရနိုင်ကြကုန်။ မင်းမြတ် ဤသို့သော ဂုဏ်ကျေးဇူးတို့သည် ပုဂ္ဂိုလ် တစ်စုံ တစ်ယောက်၏ ဂုဏ်ကျေးဇူးမဟုတ်ကြကုန်။ မေတ္တာ ဘာဝနာပွားများခြင်း၏ ဂုဏ်ကျေးဇူးသာ ဖြစ်ကြကုန်၏။ မေတ္တာဘာဝနာ ပွားများခြင်းသည် အကျိုးစီးပွားကိုအလိုရှိသူတို့၏ လည်းကောင်း၊ အကျိုးစီးပွားကို အလိုမရှိသူတို့၏ လည်းကောင်း ကုသိုလ်ကျေးဇူးအားလုံးကို ဆောင်ရွက်နိုင်၏။ နာမ်ခန္ဓာနှင့် စပ်ယှဉ်လေသမျှသော ပုဂ္ဂိုလ်အားလုံးပင် အကျိုးအာနိသင်ကြီးမားလှသောမေတ္တာ ဘာဝနာ ပွားများခြင်းကို ကောင်းစွာမှီဝဲအပ်ပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၇။ ကုသိုလ်နှင့် အကုသိုလ် အကျိုးပေးတူသလော

'အရှင်နာဂသေန ဘုရား၊ ကုသိုလ်ကောင်းမှု ပြုလုပ်သောသူနှင့် အကုသိုလ်မကောင်းမှု ပြုလုပ်သော သူတို့၏ အကျိုးတရားသည် တူညီပါသလော၊ သို့မဟုတ် ထူးခြားပါသလော'

'မင်းမြတ်၊ ထူးခြားပေ၏။ ကုသိုလ်သည် ကောင်းကျိုးပေး၏။ နတ်ရွာ သုဂတိသို့ ပို့ဆောင်တတ်၏။ အကုသိုလ်သည် မကောင်းကျိုးကိုပေး၏။ ငရဲဒုဂ္ဂတိသို့ ဆွဲချတတ်၏'

'အရှင်ဘုရား၊ ဒေဝဒတ်သည် မည်းညစ်ယုတ်မာလှ၏။ ကေန်စင်စစ် မည်းညစ် ယုတ်မာ လှသော တရားတို့နှင့် ပြည့်စုံ၏။ ဘုရားအလောင်းသည် ဖြူစင် ကောင်းမြတ်လှ၏။ ကေန်စင်စစ် ဖြူစင်ကောင်းမြတ်လှသော တရားနှင့်ပြည့်စုံ၏ဟူ၍ အရှင်ဘုရားတို့ မိန့်ဆို ကြကုန်၏။ ထိုမှတစ်ဖန် ဒေဝဒတ်သည် ဘဝတိုင်း ဘဝတိုင်း၌ စည်းစိမ်ဥစ္စာအားဖြင့် လည်းကောင်း၊ အခြွေအရံ အသင်းအပင်းအားဖြင့် လည်းကောင်း ဘုရားလောင်းနှင့် တူညီ နေပါ၏။ တစ်ခါတစ်ရံတွင်ကား ဘုရားလောင်းထက်ပင် ကျော်လွန်နေပါသေး၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ဗာရာဏသီမြို့တော်၌ ဗြဟ္မဒတ်မင်းထံ ခစားရသော ပုရောဟိတ်၏သားဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် မန္တန်တတ်သော်လည်း အမျိုး ဇာတ်အားဖြင့် ယုတ်ညံ့သော ဒွန်းစဏ္ဍား ဖြစ်ခဲ့ရ၏။ ဒွန်းစဏ္ဍားသည် မန္တန်ကိုရွတ်ကာ အချိန်အခါ မဟုတ်ပါဘဲလျက် သရက်သီးများ သီးစေခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် မြေအပြင်ကို အစိုးရသော၊ လိုချင်သမျှ အကုန်ရနိုင်သော ပြည့်ရှင်မင်း ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ထိုပြည့်ရှင်မင်း၏ အသုံးအဆောင်

ဖြစ်သော ဆင်ပြောင်ကြီး ဖြစ်ခဲ့၏။ ပြည့်ရှင်မင်းသည် ထိုဆင်ပြောင်ကြီး၏ တင့်တယ်ကွန့်မြူးပုံကို မနာလိုသဖြင့် သေကြောင်း ကြံစည်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် တောထဲ၌ နွားပျောက်ကို ရှာသော လူတစ်ယောက် ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် မဟာပထဝီမည်သော မျောက်ကြီး ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ဆင်ပြောင်ကြီးတမျှ ခွန်အားဗလ ကြီးမားလှ၍ သေဏုတ္တရ အမည်ရသော မုဆိုးကြီး ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ဆဒ္ဒန္တမည်သော ဆင်ပြောင်ကြီး ဖြစ်ခဲ့ပေ၏။ သောဏုတ္တရ မုဆိုးသည် ဆဒ္ဒန္တ ဆင်ကြီးအား အစွယ်ဖြတ်၍ သတ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် တောထဲ၌ လှည့်လည်သွားလာနေသော မုဆိုးတစ်ယောက် ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် မန္တန်သရဏ္ဍာယ်တတ်သော ခါငှက် ဖြစ်ခဲ့၏။ ထိုအခါကလည်း မုဆိုးသည် ခါငှက်ကို သတ်ဖြတ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ကလာဗုမည်သော ကာသိမင်း ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ခန္တီဝါဒီမည်သော ရသေ့ ဖြစ်ခဲ့၏။ ထိုအခါလည်း ကလာဗုမင်းသည် ခန္တီဝါဒီ ရှင်ရသေ့၏ လက်ခြေတို့ကို ရက်ရက်စက်စက် ဖြတ်တောက်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် မုဆိုးတစ်ယောက် ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် နန္ဒိယမည်သော မျောက်ဖြစ်ခဲ့၏။ ထိုအခါကလည်း မုဆိုးသည် နန္ဒိယမျောက်ကို သူ၏မိခင်၊ သူ၏ညီတို့နှင့် အတူတကွ သတ်ဖြတ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒက်သည် ကာရမ္ဗိယ အမည်ရှိ၍ အဝတ်မဝတ်သော ရသေ့စဉ်းလဲ ဖြစ်ခဲ့၏။ ထိုစဉ်အခါက ဘုရားလောင်းသည် ပဏ္ဍာရကမည်သော နဂါးမင်း ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် တောမှာနေထိုင်သော ရသေ့ ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် တစ္ဆကမည်သော ဝက်ကြီး ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် စေတီတိုင်း၌ ကောင်းကင်သို့ ပျံတက်နိုင်၍ သုရပရိစရ မည်သောမင်း ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ကပိလမည်သော ပုဏ္ဏားဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် သာမမည်သောလူတစ်ယောက်ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ဂုရုမည်သော သမင်မင်း ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် တောလိုက်မုဆိုး ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ဆင်ပြောင်ကြီးဖြစ်ခဲ့၏။ တောလိုက်မုဆိုးသည် ဆင်ပြောင်ကြီး၏ အစွယ်ကို ခုနစ်ကြိမ်တိုင်တိုင် ဖြတ်ယူခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ပထဝီဇယ မန္တန်ကိုတတ်သော မြေခွေးမင်းဖြစ်၍ ဇမ္ဗူဒိပ်ကျွန်းရှိ မင်းအပေါင်းတို့ကို စစ်မက်ပြိုင်၍ အနိုင်ယူခဲ့၏။ ထိုစဉ်က ဘုရားလောင်းသည် ဝိဓူရမည်သော ပညာရှိဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ဆင်ပြောင်ကြီးဖြစ်၍ နံ့စုတ်ငှက်မ၏ သားငယ်တို့ကို နင်းခြေသတ်ဖြတ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည်လည်း ဆင်ပြောင်ကြီးပင်ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် အဓမ္မမည်သော နတ်သားဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ဓမ္မမည်သော နတ်သားဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် အမျိုးသားငါးရာတို့ကို အစိုးရသော လှေသူကြီး ဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည်လည်း အမျိုးသားငါးရာတို့ကို အစိုးရသော လှေသူကြီးပင်ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် လှည်းငါးရာတို့ကို အစိုးရသော လှည်းမှူးကြီး ဖြစ်ခဲ့၏။ ထိုစဉ်တုန်းကဘုရားလောင်းသည်လည်း လှည်းငါးရာတို့ကို အစိုးရသော လှည်းမှူးကြီးပင်ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် သာခမည်သော သမင်မင်း ဖြစ်၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည်လည်း နိဂြောဓမည်သော သမင်မင်း ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် သာခမည်သော စစ်သူကြီးဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည်လည်း နိဂြောဓမည်သော စစ်သူကြီး ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ခဏ္ဍဟာလမည်သော ပုဏ္ဏားဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် စန္ဒမည်သော မင်းသား ဖြစ်ခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် ဗြဟ္မဒတ်မည်သော မင်းဖြစ်၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် ထိုဗြဟ္မဒတ်မင်း၏ သားတော်ဖြစ်၍ မဟာပဒုမ မင်းသားဟုအမည်တွင်ခဲ့၏။ ဗြဟ္မဒတ်မင်းသည် မဟာပဒုမ မင်းသားကို ခိုးသားတို့အား ပစ်ချ သတ်ဖြတ်ရာ ဖြစ်သော ချောက်တွင်းသို့ ပစ်ချရန်အမိန့်ပေးခဲ့၏။

'အခါတစ်ပါး၌ ဒေဝဒတ်သည် မဟာပတာပ မည်သော မင်းဖြစ်ခဲ့၏။ ထိုစဉ်တုန်းက ဘုရားလောင်းသည် မဟာပတာပမင်း၏ သားတော်ဖြစ်၍ ဓမ္မပါလမင်းသားဟု အမည်တွင်ခဲ့၏။ မဟာပတာပ မင်းသည် ဓမ္မပါလမင်းသား၏ လက်များ၊ ခြေများနှင့်တကွ ဦးခေါင်းကိုပါ ဖြတ်ခဲ့၏။

'နောက်ဆုံး ဘဝ၌ကား နှစ်ဦးသော သူတို့သည် သကျမင်းမျိုး၌ ဖြစ်လာကြပါကုန်၏။ ဘုရားလောင်းသည် ဉေယျခပ်တရား အားလုံးကိုသိတော်မူကာ ဘုရားအဖြစ်သို့ရောက်တော်မူ၏။ ဒေဝဒတ်သည် ဤသာသနာတော်သို့ ဝင်ရောက်၍ ဈာန်အဘိညာန်တန်ခိုးကို ရအောင်

အားထုတ်ပြီးလျှင် ဘုရားရှင်ကို တုပ ပြိုင်ဆိုင်ခဲ့ပါ၏။ ဤသို့အားဖြင့် ဒေဝဒတ်သည် ဘုရားလောင်းနှင့် တွေ့ဆုံလေသမျှ ဘဝတိုင်း ဘဝတိုင်း၌ စည်းစိမ်ဥစ္စာအားဖြင့် လည်းကောင်း၊ အခြွေအရံ အသင်းအပင်း အားဖြင့်လည်းကောင်း ဘုရားလောင်းနှင့် တူညီနေပါ၏။ တစ်ခါတစ်ရံတွင်ကား ဘုရားလောင်းထက်ပင် ကျော်လွန်နေပါသေး၏။ အရှင်ဘုရား၊ တပည့်တော်လျှောက်ထားခဲ့သော စကားအားလုံးတို့ မှန်ပါသလော။ မှားပါသလော'

'မင်းမြတ်၊ သင်မင်းမြတ်သည် များစွာသော ဇာတ်တော်တို့ကို ဆောင်ယူ၍ လျှောက်ထားပေ၏။ ထိုစကားအားလုံး မှန်ကန်ကြပေ၏။ အမှားအယွင်း မရှိကြပေ'

'အရှင်ဘုရား၊ မည်းညစ် ယုတ်ညံ့သောသူနှင့် ဖြူစင်ကောင်းမြတ်သော သူတို့ထပ်တူထပ်မျှ ဖြစ်နေကြပါလျှင် အကုသိုလ်နှင့် ကုသိုလ်တို့သည်လည်း ထပ်တူညီမျှ အကျိုးပေးကြသည် ဖြစ်တန်ရာ၏'

'မင်းမြတ်၊ အကုသိုလ်နှင့် ကုသိုလ်တို့သည် ထပ်တူညီမျှ အကျိုးမပေးနိုင်ကြကုန်။ ဒေဝဒတ်သည် ရှိရှိသမျှ လူအားလုံးတို့နှင့် ဆန့်ကျင်သည် မဟုတ်ပေ။ ဘုရားအလောင်းနှင့်သာ ဆန့်ကျင်ဘက်ဖြစ်ခဲ့၏။ ထိုသို့ဆန့်ကျင်ဘက် ဖြစ်ရခြင်း၏ မကောင်းကျိုးကိုလည်း ဆန့်ကျင်ဘက် ဖြစ်ခဲ့ရာ ဘဝမှာပင် ခံစားရ၏။ မင်းမြတ်၊ ဒေဝဒတ်သည်လည်းမင်းဖြစ်စဉ် အခါက မြို့ငယ်ရွာငယ်တို့ကို အစောင့်အရှောက်ပေးခဲ့၏။ တံတားဆောက်စေခဲ့၏။ သဘင်ပွဲများ ကျင်းပစေခဲ့၏။ အလှူတင်းကုပ်၊ အလှူမဏ္ဍပ်များ ဆောက်လုပ်စေခဲ့၏။ ရဟန်းပုဏ္ဏားများ၊ အထီးကျန်ဆင်းရဲများ၊ ခရီးသည်များ၊ သူတောင်းစားများအား စားရေရိက္ခာ ပေးလှူခဲ့၏။ ထိုအလှူ၏ အကျိုးအားဖြင့် ဒေဝဒတ်သည် ဘဝတိုင်း ဘဝတိုင်း၌ စည်းစိမ် ချမ်းသာခံစားရ၏။ အလှူပေးခြင်း၊ ဣန္ဒြေကို ဆုံးရခြင်း ကိုယ်နှင့်နှုတ်ကိုစောင့်စည်းခြင်း၊ ဥပုသ်စောင့်ခြင်း တို့ကို ကြဉ်ထား၍ အခြားတရားတို့ဖြင့် စည်းစိမ်ချမ်းသာ ခံစားရလိမ့်မည်ဟူ၍ မည်သူပြောနိုင်ပါမည်နည်း။

'မင်းမြတ်၊ ဒေဝဒတ်နှင့် ဘုရားလောင်းတို့ ပေါင်းဆုံမိခြင်းသည် ဘဝတစ်ရာ၊ ဘဝတစ်ထောင်၊ ဘဝတစ်သိန်း လွန်သော်ငြားလည်း တစ်ကြိမ်တစ်ခါ ဖြစ်မလာချေ။ အချိန်များစွာ ကျော်လွန်ပြီးမှ တစ်ခါတစ်ရံ ကြုံကြိုက် လာရခြင်းသာ ဖြစ်၏။ လူ့အဖြစ်ကို ရရှိရန် ခဲယဉ်းပုံကို ဘုရားရှင်က လိပ်ကန်းဥပမာဖြင့် ဟောကြားတော်မူသကဲ့သို့ပင် မှတ်ယူလေလော့။

'မင်းမြတ်၊ ဘုရားလောင်းသည် ဒေဝဒတ်နှင့်သာ ပေါင်းဆုံခဲ့ရသည် မဟုတ်ပေ။ အရှင်သာရိပုတ္တရာနှင့်လည်း ပေါင်းဆုံခဲ့ဖူးသည်သာ ဖြစ်၏။ အလျဉ်မပြတ် စီးဆင်းနေသော ရေသည် ကောင်းသောဝတ္ထုနှင့် လည်းကောင်း၊ မကောင်းသောဝတ္ထုနှင့် လည်းကောင်း ပေါင်းဆုံရ၏။ ဤအတူသာပင် သံသရာအလျဉ်၌ မျောပါနေရသူ အားလုံးသည်ပင် မချစ်မနှစ်သက်သော သူတို့နှင့်သော်လည်းကောင်း၊ ချစ်ခင်နှစ်သက်သော သူတို့နှင့်သော်လည်းကောင်း ပေါင်းဆုံရပေ၏။

'မင်းမြတ်၊ ဒေဝဒတ်သည် နတ်သားဖြစ်စဉ်က မိမိကိုယ်တိုင်လည်း မတရားပြုမှု ကျင့်ကြံကာ သူတစ်ပါးတို့ကိုလည်း မတရားပြုမှုကျင့်ကြံစေရန် တိုက်တွန်းခဲ့သဖြင့် ငါးဆယ့် ခုနစ်ကုဋေ၊ အနှစ်ခြောက်သန်းပတ်လုံး အဝီစိ ငရဲကြီး၌ ကျခံရ၏။ ဘုရားလောင်းသည်ကား နတ်သားဖြစ်စဉ်က မိမိလည်း တရားသဖြင့် ပြုမှုကျင့်ကြံ၍ သူတပါးတို့ကိုလည်း တရားသဖြင့် ပြုမှု ကျင့်ကြံစေရန် တိုက်တွန်းခဲ့သဖြင့် ငါးဆယ့်ခုနစ်ကုဋေ၊ အနှစ်ခြောက်သန်းတို့ပတ်လုံး နတ်စည်းစိမ်ကို ခံစားရ၏။ စင်စစ်သော်ကား ဒေဝဒတ်သည် ဤဘဝ၌ မပြစ်မှားထိုက်သော ဘုရားရှင်ကို ပြစ်မှား၍လည်းကောင်း၊ ညီညွတ်သောသံဃာကို သင်းခွဲ၍လည်းကောင်း မြေမျိုခံရ၏။ ဘုရားလောင်း သည်ကား ဉေယျခံ တရားအားလုံးကိုသိရှိ၍ ဘုရားအဖြစ်သို့ရောက်တော်မူပြီးလျှင် အနုပါဒိသေသနိဗ္ဗာန် ဝင်စံတော်မူရပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၈။ အမရာဒေဝီသည် ဆိတ်ကွယ်ရာကိုရလျှင် မကောင်းမှုပြုမည်လော

'အရှင် နာဂသေန ဘုရား၊ မိန်းမအားလုံးတို့သည်ပင် အခါအခွင့်ကိုလည်းကောင်း၊ ဆိတ်ကွယ်ရာ ကို လည်းကောင်း အကယ်၍ရကုန်ငြားအံ့။ မိမိလင်နှင့်တူသော ကမ်းလှမ်းသူကိုလည်း အကယ်၍ ရကုန်ငြားအံ့။ မကောင်းမှုကိုပြုကုန်ရာ၏။ တစ်ပါးသောသူကို မရနိုင်ခဲ့သော် ခြေရော လက်ပါ တိုနေသောသူနှင့် သော်လည်း အတူတကွ မကောင်းမှုကို ပြုကုန်ရာ၏ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် မဟောသဓာပညာရှိ၏ မယားဖြစ်သော အမရာဒေဝီသည် ရွာငယ်တွင်ပစ်ထားခံရ၍ လင်နှင့်ကင်းလွတ်နေပါလျက်၊ ဆိတ်ကွယ်ရာကို ရနေပါလျက်၊ မင်းနှင့်တူသော လူတစ်ယောက်က အသပြာတစ်ထောင်ပေး၍ ကမ်းလှမ်းပါလျက် မကောင်းမှုကို မပြုဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကိုဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်စလုံးပင် မှန်ကန်ပေ၏။ အမရာဒေဝီသည် အကယ်၍ အခါအခွင့် ကိုလည်းကောင်း၊ ဆိတ်ကွယ်ရာကို လည်းကောင်း၊ မိမိလင်နှင့်တူသော ကမ်းလှမ်းသူက အသပြာတစ်ထောင်ပေး၍ ကမ်းလှမ်းသော်လည်းကောင်း မကောင်းမှုကို ပြုလေရာ၏။ သို့ရာတွင် အမရာဒေဝီသည် အခြေအနေအရပ်ရပ်ကို စူးစမ်းဆင်ခြင်လိုက်သောအခါ အခါအခွင့်ကို လည်းကောင်း၊ ဆိတ်ကွယ်ရာကို လည်းကောင်း၊ မိမိလင်နှင့်တူသောကမ်းလှမ်းသူကို လည်းကောင်း မတွေ့မြင်ရပေ။ ထို့ကြောင့် အမရာဒေဝီသည် မကောင်းမှုကို မပြုရတော့ချေ။

'မင်းမြတ်၊ ဤလူ့ပြည်လောက၌ သူတစ်ပါးတို့ ကဲ့ရဲ့မည့် အရေးကို ကြောက်သောကြောင့် လည်းကောင်း၊ တမလွန်လောက၌ ငရဲဘေးကိုကြောက်သောကြောင့် လည်းကောင်း၊ မကောင်းမှု ကြောင့် ဆိုးရွားသော အကျိုးပေး၏ဟု ဆင်ခြင်မိသောကြောင့်လည်းကောင်း၊ ချစ်သောလင်ကို မစွန့်လွှတ်လိုသောကြောင့် လည်းကောင်း၊ လင်ကိုလေးစားမြတ်နိုးသောကြောင့် လည်းကောင်း၊ တရားကို ရိုသေသောကြောင့် လည်းကောင်း၊ မစင်ကြယ်သော အကျင့်ကို စက်ဆုပ်သောကြောင့် လည်းကောင်း၊ မိမိအကျင့်စာရိတ္တကို မဖျက်ဆီးလိုသောကြောင့် လည်းကောင်း မကောင်းမှုပြုလုပ်ရန် အခွင့်အခါကို မတွေ့မြင်ရပေ။

'မင်းမြတ်၊ အမရာဒေဝီသည် ဆိတ်ကွယ်ရာအရပ်ကို စူးစမ်းဆင်ခြင်ပြန်သောအခါ လူတို့မှ ဆိတ်ကွယ်ရာကိုရသော်ငြားလည်း နတ်တို့မှဆိတ်ကွယ်ရာကို မရနိုင်ရာ။ နတ်တို့မှ ဆိတ်ကွယ်ရာကို ရသော်ငြားလည်း သူတစ်ပါးစိတ်ကိုသိနိုင်သော ရဟန်းတို့မှ ဆိတ်ကွယ်ရာ ကိုမရနိုင်ရာ။ သူတစ်ပါးစိတ်ကိုသိနိုင်သောရဟန်းတို့မှ ဆိတ်ကွယ်ရာကို ရသော်ငြားလည်း သူတပါးစိတ်ကိုသိနိုင်သော နတ်တို့မှ ဆိတ်ကွယ်ရာကို မရိုနိုင်ရာ။ သူတစ်ပါးတို့၏ စိတ်ကို သိနိုင်သောနတ်တို့မှ ဆိတ်ကွယ်ရာကို အကယ်၍ရငြားအံ့။ မိမိကိုယ်တိုင်မှ ဆိတ်ကွယ်ကိုမရနိုင်၏။ မိမိကိုယ်တိုင်မှ ဆိတ်ကွယ်ရာကို အကယ်၍ ရငြားအံ့။ တရားမဝင်သော ဆိတ်ကွယ်ရာသာ ဖြစ်လေရာ၏။ ဤသို့သောအကြောင်းတို့ဖြင့် ဆိတ်ကွယ်ရာကို မရသောကြောင့် အမရာဒေဝီ သည် မကောင်းမှုကို မကျူးလွန်ပေ။

'မင်းမြတ်၊ အမရာဒေဝီသည် မိမိလင်နှင့်တူသော ကမ်းလှမ်းသူကိုစူးစမ်းဆင်ခြင် ပြန်သော အခါ မိမိလင်နှင့်တူသော ကမ်းလှမ်းသူကို မတွေ့ရပေ။ မင်းမြတ်၊ မဟောသဓာပညာရှိသည် ရဲရင့်၏။ မကောင်းမှုမှ ရှက်တတ်၏။ မကောင်းမှုကို ကြောက်လန့်တတ်၏။ အသင်းအပင်းရှိ၏။ အဆွေခင်ပွန်းနှင့်ပြည့်စုံ၏။ သည်းခံတတ်၏။ သီလရှိ၏။ မှန်သောစကားကိုပြောဆိုတတ်၏။ စင်ကြယ်သော အကျင့်နှင့် ပြည့်စုံ၏။ အမျက်မထွက်တတ်။ မာန်ထောင်လွှားခြင်း မပြုတတ်။ ငြူစူစောင်းမြောင်းခြင်း မပြုတတ်။ လုံ့လရှိ၏။ မိမိပစ္စည်းကို ခွဲခြမ်းဝေဖန်ပေးလေ့ရှိ၏။ ပြေပြစ်စွာ ပြောဆိုတတ်၏။ နှိမ့်ချသော စိတ်သဘောရှိ၏။ သိမ်မွေ့၏။ ကောက်ကျစ်စဉ်းလဲမှု မပြုတတ်။ လှည့်ပတ်ဖြားယောင်းခြင်း မပြုတတ်။ သူတစ်ပါးတို့ထက်သာလွန်သော ပညာ ရှိ၏။ နာမည်သီတင်း ကျော်စောထင်ရှား၏။ အတတ်ပညာနှင့်ပြည့်စုံ၏။ မှီခိုလာသူတို့၏ ကြီးပွားတိုးတက်ရေးကို ရှာမှီးဆောင်ရွက်လေ့ရှိ၏။ လူအားလုံးက လိုလားတောင့်တရ၏။ ပစ္စည်း ဥစ္စာပေါများ၏။ အခြွေအရံပေါများ၏။ မဟောသဓာပညာရှိသည် နှစ်ဆယ့်ရှစ်ပါးသော ဤဂုဏ်ကျေးဇူးတို့နှင့် ပြည့်စုံပေ၏။ အမရာဒေဝီသည် မိမိလင်နှင့်တူမျှစွာ ဤသို့သော

ဂုဏ်ကျေးဇူး နှစ်ဆယ့်ရှစ်ပါးနှင့် ပြည့်စုံသူကိုရှာဖွေ၍ မရနိုင်သဖြင့် မကောင်းမှုကို မပြုလုပ်ပေ'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၉။ ရဟန်းပုဂ္ဂိုလ်သည် ကြောက်သေးသလော

'အရှင်နာဂသေနဘုရား၊ ရဟန်းပုဂ္ဂိုလ်တို့သည် ကြောက်ရွံ့ထိတ်လန့်ခြင်းမှ ကင်းလွတ်ကြကုန်၏။ ဟူ၍ ဘုရားရှင် မိန့်ကြားတော်မူပါ၏။ ထိုမှတစ်ဖန် ရာဇဂြိုဟ်မြို့တော်တွင်း၌ ဆွမ်းခံကြွ တော်မူစဉ် ဒေဝဒတ်က ဘုရားရှင်အား သတ်ဖြတ်ရန် အရက်ကိုးမောင်းတိုက်၍ စေလွှတ် လိုက်သော နာဠာဂီရိဆင်ကြီးသည် ဘုရားရှင်ထံ အဘင်းတရကြမ်း ချဉ်းကပ်လာ၏။ ထိုအခါတွင် နောက်တော်ပါ ရဟန်းတို့သည် အရှင်အာနန္ဒာတစ်ပါးတည်းသာ ချန်ထားလျက် ထိုထိုအရပ်တို့သို့ ခွဲခွာသွားကြကုန်၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။

'အရှင်ဘုရား၊ ရဟန္တာပုဂ္ဂိုလ်တို့သည် ကြောက်၍ ဖဲခွာသွားကြပါသလော၊ မိမိကံကြမ္မာအတိုင်း သေပေတော့ဟု နှလုံးသွင်းကာ သေစေလိုသော စိတ်သဘောဖြင့် ခွဲခွာသွားကြပါသလော။ ရဟန္တာပုဂ္ဂိုလ်တို့နှင့် မတူတန်သော ဘုရားရှင်၏တန်ခိုးပြာဋိဟာကို ကြည့်ရှုလိုသောကြောင့် ခွဲခွာ သွားကြပါသလော။ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက် စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်စလုံးပင် မှန်ကန်ပေ၏။ ရဟန္တာပုဂ္ဂိုလ်တို့ ခွဲခွာလာကြခြင်းမှာ ကြောက်သောကြောင့်လည်း မဟုတ်ပေ။ ဘုရားရှင်ကို သေစေလိုသောကြောင့်လည်း မဟုတ်ပေ။ ရဟန္တာပုဂ္ဂိုလ်တို့အား ကြောက်ရွံ့ ထိတ်လန့်ရန် အကြောင်းမရှိပေ။ ဥပမာအားဖြင့် မြေကြီးသည် အတူးအဆွခံရသော် လည်းကောင်း၊ အခွဲအဖြတ်ခံရသော် လည်းကောင်း၊ သမုဒ္ဒရာများနှင့်တကွ တောင်စဉ် တောင်ထွက်တို့ကို ထမ်းရွက်ထားရသော် လည်းကောင်း ကြောက်ရွံ့ပါသေးသလော'

'အရှင်ဘုရား မကြောက်ပါ'

'မင်းမြတ်၊ အဘယ်ကြောင့် မကြောက်ပါသနည်း'

'အရှင်ဘုရား၊ မြေကြီးမှာ ကြောက်ရွံ့ထိတ်လန့်ရန် အကြောင်းမရှိသောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ရဟန္တာပုဂ္ဂိုလ်တို့မှာ ကြောက်ရွံ့ထိတ်လန့်ရန် အကြောင်းမရှိပေ။ မင်းမြတ်၊ လောကဓာတ်တစ်သိန်းမှာ ရှိနေကြသော သတ္တဝါအပေါင်းတို့သည် လုံ့တံ စွဲကိုင်

ကြကုန်လျက် ရဟန္တာပုဂ္ဂိုလ်တစ်ပါးထံသို့ ရေးရှု ပြေးလာ၍ ခြိမ်းခြောက်ကြကုန်ငြားအံ့။ ရဟန္တာပုဂ္ဂိုလ်၏ စိတ်သည် တစ်စိုးတစ်စိမျှ တုန်လှုပ်၍မလာနိုင်ချေ။ တုန်လှုပ်လာနိုင်သော အရာဌာန မဟုတ်သောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ ရဟန္တာပုဂ္ဂိုလ်တို့သည် စင်စစ်အားဖြင့် ဤသို့တွေးတောမိကြကုန်၏။ မြတ်စွာဘုရားသည် ယနေ့ရာဇဂြိုဟ် မြို့တော်တွင်းသို့ ဆွမ်းခံကြွတော်မူလတ်သော် နာဠာဂီရိ ဆင်ကြမ်းကြီးသည် ဘုရားရှင်ထံသို့ လမ်းမကြီးအတိုင်း ပြေးလာလတ္တံ့။ မိမိတို့အားလုံးထံတော်ပါးမှ ခွဲခွာလာခဲ့ကြ သော်လည်း အလုပ်အကျွေးဖြစ်သော ညီတော်အာနန္ဒာသည်ကား မခွဲမခွာ နေရစ်လတ္တံ့။ မိမိတို့ အားလုံးက စွန့်ခွာမလာကြလျှင် ညီတော်အာနန္ဒာ၏ ဂုဏ်ကျေးဇူးသည် မထင်ရှားဘဲနေလတ္တံ့။ ဆင်ကြမ်းကြီးသည်လည်း ဘုရားရှင်ထံတော်သို့ မရောက်နိုင်လတ္တံ့။ မိမိတို့အားလုံး ခွဲသွားလျှင်ကား နာဠာဂီရိဆင်ကြီးသည် ဘုရားရှင်ထံမှောက်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာလတ္တံ့။ ဤတွင် ညီတော်အာနန္ဒာသည် မိမိအသက်ထက် ဘုရားရှင်၏အသက်ကို ချစ်မြတ်နိုးသည်ဖြစ်၍ ဘုရားရှင်ကိုယ်စား မိမိကအသေခံရန် ဘုရားရှင်ရှေ့တော်သို့ ကျော်တက်လာလတ္တံ့။ ဘုရားရှင်သည် ညီတော်အာနန္ဒာကို ပြန်ဆုတ်စေကာ နာဠာဂီရိဆင်ကြမ်းကြီးကို လိမ္မာယဉ်ကျေးသွားအောင် ဆုံးမတော်မူလတ္တံ့။ ထိုအခါ ညီတော်အာနန္ဒာ၏ ဂုဏ်ကျေးဇူးသည်လည်း ထင်ရှားလတ္တံ့။ ဖူးမြင်ရသူ လူအပေါင်းသည်လည်း ကိလေသာအနှောင်အဖွဲ့မှ လွတ်ကြရကုန်လတ္တံ့။ ဤသို့ နှလုံးသွင်း၍ ဖဲခွာသွားကြခြင်း ဖြစ်ပေ၏။

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[နာဠာဂီရိ ဆင်ကြမ်းကြီးအား အရှင်ဘုရားက ဆုံးမသောအခါ လမ်းဘေးမှ တိုးတိုးကြိတ်မျှ ကြည့်နေကြသော လူအပေါင်းသည် ဆင်ကြီးအား ကောင်းချီးသြဘာ ပေးသောအားဖြင့် ဦးရစ်ခေါင်းပေါင်းများ၊ အဝတ်ပုဆိုးများ၊ လက်ဝတ်တန်ဆာများဖြင့် ပစ်ပေါက်၍ ဂုဏ်ပြုကြ၏။ ဤသို့ ပစ္စည်းဥစ္စာမြောက်မြားစွာ ရရှိသဖြင့် နာဠာဂီရိဟူသော မူလနာမည်နောက်တွင် ဓနပါလ ဟူသော နာမည်သစ်ဖြင့် ကျော်ကြားလာပေ၏။]

## ၁၀။ ဘုရားရှင်သည် သဗ္ဗညူ ဟုတ်ပါ၏လော

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် အလုံးစုံကို သိတော်မူ၏ဟူ၍ အရှင်ဘုရားတို့ ဆိုတော်မူကြကုန်၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန် အမှူးရှိသော ရဟန်းသံဃာကို နှင်ထုတ်တော်မူလေရာ စာတုမ မြို့နေ သကျမင်းမျိုးတို့နှင့်သဟမ္ပတိ ဗြဟ္မာကြီးတို့က မျိုးစေ့ဥပမာ၊ နွားသငယ် ဥပမာတို့ကို ပြဆို လျှောက်ထား၍ ဘုရားရှင်ကို

ကြည်လင် ရွှင်ပျစေကုန်၏။ သည်းခံကျေအေးစေကုန်၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုတော်မူကြပြန်၏။

'အရှင်ဘုရား၊ ထိုဥပမာတို့ကို ဘုရားရှင်သည် မသိမမြင်ဘဲ နေခဲ့ပါသလော။ အကယ်၍ ဘုရားရှင်သည် ထိုဥပမာတို့ကို သိတော်မူငြားအံ့။ ထိုသို့ဖြစ်လျှင် ဘုရားရှင်သည်အလုံးစုံကို သိမြင်သော သဗ္ဗညုပုဂ္ဂိုလ် မဟုတ်ပေရာ၊ အကယ်၍ ဘုရားရှင်သည် အလုံးစုံကို သိတော်မူငြားအံ့။ ထိုသို့ ဖြစ်လျှင် ဆွဲငင်နှိပ်စက်၍ စုံစမ်းမေးမြန်းလိုသဖြင့် နှင်ထုတ်တော်မူသည် ဖြစ်ရာ၏။ ထိုသို့ ဖြစ်လျှင် ဘုရားရှင်မှာ ကရုဏာတော်မရှိရာ ရောက်နိုင်ပါ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကိုဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ ဘုရားရှင်သည် အလုံးစုံသိမြင်သော သဗ္ဗညုပုဂ္ဂိုလ်လည်း ဟုတ်မှန်ပေ၏။ မျိုးစေ့ဥပမာ၊ နွားငယ်ဥပမာ တို့ကိုလည်း သိမြင်တော်မူပေ၏။ ဘုရားရှင်သည် တရားတော်၏ အရှင် ဖြစ်တော်မူပေ၏။ ဥပမာအားဖြင့် ဆတ္တာသည်သည် မင်း၏ဥစ္စာသာလျှင်ဖြစ်သော ရွှေဘီးဖြင့် ပြည့်ရှင်မင်း၏ ဦးခေါင်းကို ပြုပြင်ဖြီးလိမ်းပေးလျက် အားရစေ၏။ နှစ်သက်စေ၏။ ကြည်လင် ရွှင်ပျစေ၏။ ပြည့်ရှင်မင်းသည် ဆတ္တာသည်၏ဆောင်ရွက်မှုကို အားရကျေနပ်ကာ ကောင်းလှပြီဟူ၍ ထုတ်ဖော် ချီးကျူး၏။ ဤအတူသာပင် စာတုမမြို့နေ သကျမင်းမျိုး တို့နှင့် သဟမ္ပတိ ဗြဟ္မာကြီးတို့သည် ဘုရားရှင် ဟောကြားထားခဲ့ပြီးဖြစ်သော မျိုးစေ့ဥပမာ၊ နွားငယ်ဥပမာ တို့ဖြင့် ဘုရားရှင်အား ကြည်လင်ရွှင်ပျစေကုန်၏။ သည်းခံကျေအေးစေကုန်၏။ ဘုရားရှင်သည် ကြည်လင် ရွှင်ပျတော်မူသည်ဖြစ်၍ ကောင်းလှပြီဟူ၍ ထုတ်ဖော်မိန့်ကြားတော်မူပေ၏'

[အရှင်မြတ်ကြီးနှစ်ပါးအား နှင်ထုတ်ခဲ့ပုံကို ရှေ့မှာဖော်ပြခဲ့ပါပြီ။ ဤသို့ နှင်ထုတ်လိုက်သောအခါတွင် စာတုမမြို့နေ သကျမင်းမျိုးများနှင့် သဟမ္ပတိ ဗြဟ္မာကြီးတို့က 'အရှင်ဘုရား၊ အညှာက်ပေါက်ခါစဖြစ်သော မျိုးစေ့သည် မိုးရေနှင့် မထိမတွေ့ရသော် ရှင်သန်ကြီးထွားမှု မဖြစ်နိုင်ပါ။ ဖွားမြင်ခါစ နွားသငယ်သည် မိခင်နွားမ၏ နို့ရည်ကို မသောက်စို့ရလျှင် ရှင်သန် ကြီးထွားမှု မရှိနိုင်ပါ။ ဤအတူပင် ဤရဟန်းသစ်ကလေးတို့မှာလည်း အရှင်ဘုရား၏အဆုံးအမကို မခံယူရပါလျှင် သီလ၊ သိက္ခာ၊ ဉာဏ်ပညာအားဖြင့် ရှင်သန်ကြီးထွားမှု မရှိနိုင်တော့ပါဘုရား' ဟု လျှောက်ထား တောင်းပန်ကြ၏။ ဤဥပမာများကို နှစ်သက်တော်မူသဖြင့် ဘုရားရှင်သည် 'သာရိပုတ္တရာ၊ မောဂ္ဂလာန်အမှူးရှိသော ရဟန်းသံဃာတို့ပြန်လာစေ' ဟု ခွင့်ပြုတော်မူလိုက်၏။

ဘုရားရှင်၏ ခွင့်ပြုသံကို ဒိဗ္ဗသောတ အဘိညာဉ်ဖြင့် ကြားသိကြသဖြင့် အရှင် သာရိပုတ္တရာ၊ အရှင်မဟာ မောဂ္ဂလာန် အမှူးရှိသော ရဟန်းသံဃာများသည် ဘုရားရှင်ထံ ဝင်ရောက် လာကြ၏။ ဤတွင်ဘုရားရှင်က 'သာရိပုတ္တရာ ငါဘုရား နှင်ထုတ်စဉ်က သင့်စိတ်ထဲမှာ မည်သို့ တွေးတောကြံစည်ခဲ့ပါသနည်း'ဟု မေးမြန်းတော်မူ၏။ အရှင်သာရိပုတ္တရာက 'အရှင်ဘုရား၊ ယခုအခါ ဘုရားရှင်သည် ဖလသမာပတ် ချမ်းသာခံစားလျက် တစ်ပါးတည်း သီတင်းသုံးတော်မူလိုပြီ၊ ငါတို့လည်း ဖလသမာပတ် ချမ်းသာခံစားကာ ကြောင့်ကြမဲ့ နေကြကုန်အံ့ဟု တွေးတော ကြံစည်မိပါသည်

ဘုရား' ဟု လျှောက်ထား၏။ ဘုရားရှင်က 'သာရိပုတ္တရာ၊ ကြောင့်ကြမဲ့နေခြင်းကို သည်းခံဦးလော့' ဟု မိန့်ကြားတော်မူ၏။

ထိုမှတစ်ဖန် အရှင်မဟာမောဂ္ဂလာန်ကို မေးမြန်းတော်မူသောအခါ အရှင်မဟာမောဂ္ဂလာန်က 'အရှင်ဘုရား၊ ယခုအခါ ဘုရားရှင်သည် ဖလသမာပတ် ချမ်းသာကို ခံစားလျက် တစ်ပါးတည်း သီတင်းသုံးတော်မူလိုပြီ၊ ယခုအခါ ရဟန်းပရိသတ်များ၏ တာဝန်ကို ငါနှင့်တကွ သာရိပုတ္တရာတို့က ဦးဆောင်ထမ်းရွက်ကြကုန်အံ့ဟု တွေးတောကြံစည်မိပါသည် ဘုရား'ဟု လျှောက်ထား၏။ အရှင်မဟာမောဂ္ဂလာန်၏ လျှောက်ထားချက်ကို ဘုရားရှင် အားရကျေနပ်စွာ သာဓု ခေါ်တော်မူပေ၏။

ရှေ့ပဏ္ဏာမိတဝဂ်မှာလည်း အရှင်မြတ်နှစ်ပါးအား နှင်ထုတ်သော ပြဿနာကို မေးခဲ့ ဖြေခဲ့ပြီးပြီ ဖြစ်၏။ ဤပြဿနာတုန်းက ဘုရားရှင်မှာ အမျက်ထွက်လေ့ ရှိလေသလော၊ မရှိလေသလော ဟူ၍ မေးမြန်းခဲ့၏။ ဤ ပြဿနာတွင်ကား ဘုရားရှင်သည် သဗ္ဗညုပုဂ္ဂိုလ် ဟုတ်လေသလော၊ မဟုတ်လေသလောဟူ၍ ဖြစ်၏။

ဤပြဿနာမျိုးကို ရှေ့သတိဝဂ်၊ ဣဒ္ဓိဗလဝဂ် တို့မှာလည်း မေးခဲ့ ဖြေခဲ့ပြီး ဖြစ်ပေ၏။ ]

❁ ❁ ❁




## ၁။ ကျောင်းအလှူကို ပိတ်ပင်သင့်သလော

'အရှင်နာဂသေနဘုရား၊ 'ပေါင်းသင်း ဆက်ဆံခြင်းကြောင့် ဘေးဖြစ်ရ၏။ နေစရာအိမ်ကြောင့် ကိလေသာမြူမှုန် ဖြစ်ပေါ်လာရ၏။ နေစရာ အိမ်မရှိသော၊ ပေါင်းသင်းဆက်ဆံမှု မရှိသော ဤ နိဗ္ဗာန်ကို ဘုရားရှင်သည် ကောင်းစင်စစ် မြင်တော်မူပါ၏' ဟူသော စကားကို ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် 'မွေ့လျော်ဖွယ် ရှိကုန်သော ကျောင်းတို့ကို ဆောက်လုပ် လှူဒါန်းကုန်ရာ၏။ ဤကျောင်း၌ အကြားအမြင်များကုန်သော ရဟန်းတို့ကို နေစေရာ၏' ဟူ၍လည်း ဟောကြားတော် မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက် စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေ ရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံသို့ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ထိုစကားနှစ်ရပ်တို့တွင် ရှေ့စကားသည် သဘောမှန်ဖြစ်သော၊ ခြွင်းချက်မရှိသော မုချစကားပေတည်း။ ရဟန်းတို့အား လျောက်ပတ် သော၊ ရဟန်းတို့အား သင့်လျော်သော၊ ရဟန်းတို့နှင့် ထိုက်တန်သော၊ ရဟန်းတို့၏ ကျက်စားရာ ဖြစ်သော၊ ရဟန်းတို့၏ ကျင့်ဝတ်ဖြစ်သောစကားပေတည်း။ မင်းမြတ်၊ ဥပမာအားဖြင့် တော၌ ကျက်စားသော သမင်သည် နေစရာအိမ်ဟူ၍ စွဲလမ်းသတ်မှတ်၍ မထားသဖြင့် စိတ်အလိုရှိရာသို့ လွတ်လပ်စွာ လှည့်လည်ကျက်စား၍ နေနိုင်၏။ ဤအတူပင် ရဟန်းသည်လည်း နေစရာကျောင်းဟူ၍ စွဲလမ်းသတ်မှတ် မထားသဖြင့် စိတ်အလိုရှိရာသို့ လွတ်လပ်စွာ လှည့်လည်သွားလာနိုင်ပေ၏။

'မင်းမြတ်၊ နောက်စကားကိုကား အကျိုးထူးတရားနှစ်ပါးကို ကောင်းကောင်းကြီး မြင်တော်မူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ အကျိုးထူး တရားနှစ်ပါးတို့ကား ကျောင်းအလှူ ကို အလုံးစုံသော ဘုရား ရှင်တို့ ချီးမွမ်းတော် မူကုန်၏။ ကျောင်းအလှူကို ပေးလှူရသောကြောင့်

ကျောင်းဒါယကာတို့သည် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်းမှ လွတ်မြောက်ရာ နိဗ္ဗာန်တရားတော်ကို ရရှိကြကုန်၏။ ဤကား ကျောင်းအလှူ၏ ပထမဦးစွာ အကျိုးထူးတရားတို့ပေတည်း။

'မင်းမြတ်၊ နောက်တစ်မျိုးအားဖြင့် အကျိုးထူးတရား နှစ်ပါးတို့ကား ကျောင်းရှိနေလတ်သော် ဘိက္ခုနီတို့အတွက် ဤသည်ကား ရဟန်းတို့၏ နေရာပေတည်းဟု အမှတ်သင်္ကေတ ထင်ရှားကြလတ္တံ့။ ရဟန်းတော်တို့ကို ဖူးမြင်လိုသူတို့ လွယ်လင့်တကူ ဖူးမြင်ခွင့်ရကြလတ္တံ့။ ဤသို့သော အကျိုးတရားနှစ်ပါးကို သိမြင်တော်မူ၍ ဘုရားရှင်သည် နောက်စကားကို ဟောကြားတော် မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ရှေ့စကား၏ အဓိက ဆိုလိုရင်းကား ကျောင်းကန် တိုက်တာ စသည်တို့ကို ကပ်ငြိစွဲလမ်းမှု မပြုလုပ်ရန်ဖြစ်၏။ ကျောင်းကန်တိုက်တာတို့၌ လုံးဝမနေရဟု မဆိုလိုပေ။ ပရိသတ်ကို ခင်တွယ်ခြင်း၊ ကျောင်းကန်တိုက်တာတို့ကို စွဲလမ်းခြင်းမပြုဘဲ ရဟန်းတရားကို လွတ်လွတ်ကျွတ်ကျွတ် အားထုတ်ရန် ဖြစ်၏။ ထို့ကြောင့်လည်း ကျောင်းအလှူကို အလုံးစုံသော ဘုရားရှင်တို့ ချီးကျူးတော်မူကြခြင်း ဖြစ်ပေ၏။

ဘိက္ခုနီတို့သည် အနီးအပါး၌ ရဟန်းယောကျာ်း မရှိသောကျောင်း၌ မနေထိုင်ရပေ။ ထို့ကြောင့် ဘိက္ခုနီတို့အဖို့ အနီးအပါး၌ ရဟန်းတို့၏ ကျောင်းတစ်ဆောင်ဆောင် ရှိနေဖို့ လိုအပ်နေပေ၏။ ]

## ၂။ ဘုရားရှင်သည် ဝမ်းတိုစောင့်စည်းပါ၏လော

'အရှင်နာဂသေနဘုရား၊ 'ဆွမ်းခံ၍ စားသောက်သော အကျင့်ကို မမေ့မလျော့ ကျင့်သုံးရာ၏။ အစားမကြီးသောအားဖြင့် ဝမ်း၌ စောင့်စည်းသည် ဖြစ်ရာ၏' ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် 'ဥဒါယီ၊ ငါသည် တစ်ခါတစ်ရံ ဤသပိတ်အနားရေးနှင့် ညီမျှသော ဆွမ်းကိုလည်း ဘုဉ်းပေး၏။ ထို့ထက်ပို၍လည်း ဘုဉ်းပေ၏' ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ထိုစကားနှစ်ရပ်တို့တွင် ရှေ့စကားသည် သဘောမှန်ဖြစ်သော၊ ခြွင်းချက်မရှိသော မုချစကားပေတည်း။ သီလ စသော ဂုဏ်ကျေးဇူးကို ရှာမှီးတော် မူကြကုန်သော ဘုရား၊ ရဟန္တာ၊ ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့ စကားပေတည်း။

'မင်းမြတ်၊ အစားကြီးသော အားဖြင့် ဝမ်း၌ မစောင့်စည်းသော သူသည် သူတစ်ပါး အသက်ကို သတ်၏။ သူတစ်ပါးဥစ္စာကိုလည်း ခိုး၏။ သူတစ်ပါး မယားကို ကျူးလွန် ဖောက်ပြား၏။ မုသားစကားကိုလည်း ပြောဆို၏။ သေအရက်ကိုလည်း သောက်၏။ အမိကိုလည်း သတ်၏။ အဖကိုလည်း သတ်၏။ ရဟန္တာကိုလည်း သတ်၏။ သံဃာကိုလည်း သင်းခွဲ၏။ ပြစ်မှားသော စိတ်ဖြင့် ဘုရားရှင်၏ ကိုယ်တော်၌လည်း သွေးစိမ်းရှင်ရှင် ထွက်အောင် ပြုလုပ်၏။ ဤသို့အားဖြင့် ဒေဝဒတ်သည် ဝမ်း၌ မစောင့်စည်းသည် ဖြစ်၍ တစ်ကမ္ဘာပတ်လုံး ငရဲခံရမည့် အကုသိုလ်ကံကို ပြုလုပ်ခဲ့သည် မဟုတ်ပါလော။ မင်းမြတ်၊ ဤသို့သဘောရှိသော အကြောင်းများစွာကို မြင်တော်မူသဖြင့် ရှေ့စကားကို ဘုရားရှင် ဟောကြားတော် မူပေ၏။

'မင်းမြတ်၊ ဝမ်း၌ စောင့်စည်းသော သူသည် သစ္စာလေးပါး တရားကို ထိုးထွင်း၍ သိ၏။ လေးပါးသော မဂ်ဖိုလ်တို့ကို မျက်မှောက်ပြုနိုင်၏။ ပဋိသမ္ဘိဒါလေးပါး၊ သမာပတ်ရှစ်ပါး၊ အဘိညာဉ် ခြောက်ပါးတို့ကို ပွားများနိုင်၏။ ရဟန်းတရား အားလုံးတို့ကို ပြီးပြည့်စုံစေ၏။ မင်းမြတ်၊ ကျေးသားငယ်သည်ပင် ဝမ်း၌စောင့်စည်းသည်ဖြစ်၍ တာဝတိံသာနတ်ပြည်တိုင်အောင် တုန်လှုပ်စေနိုင်မည် မဟုတ်ပါလော။ သိကြားမင်းကိုယ်တိုင်က ထိုကျေးသားငယ်ကို ပြုစု လုပ်ကျွေးရသည် မဟုတ်ပါလော၊ မင်းမြတ်၊ ဤသို့ သဘောရှိကုန်သော အကြောင်း မြောက်မြားစွာ တို့ကို မြင်တော်မူသဖြင့် ရှေ့စကားကို ဘုရားရှင် မိန့်ကြားတော်မူပေ၏။

'မင်းမြတ်၊ ကိစ္စဟူသမျှ ပြုလုပ်ပြီးစီးတော်မူသော၊ အကျိုးတရားတို့ ပြီးပြည့်စုံသော၊ နီဝရဏတရားတို့ ကင်းကွာတော်မူပြီးသော၊ ဉေယျခံတရား အားလုံးကို သိမြင်တော်မူပြီးသော၊ ဆရာမကူ သယမ္ဘူဉာဏ်တော်ဖြင့် မိမိအလိုလို ကိုယ်တော်တိုင် ထိုးထွင်း၍ သိတော်မူပြီးသော ဘုရားရှင်သည် မိမိကိုယ်တော်ကို ရည်စူး၍ ဟောကြားတော်မူခဲ့၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ပျို့အန်သော ရောဂါဝေဒနာကို အစဉ်မပြတ် ခံစားနေရသော လူနာအတွက် သင့်လျော်သော အစားအသောက် စားသောက်နေတတ်ရန် အလေ့အကျင့် ပြုလုပ်နေရာ၏။ မင်းမြတ်၊ ဤအတူသာပင် သစ္စာလေးပါးကို မသိမမြင်သေးသည်ဖြစ်၍ ကိလေသာရောဂါ ခံစားနေရသော သူတို့အတွက်သာ အစားမကြီးသော အားဖြင့် ဝမ်း၌ စောင့်စည်းရန် လိုအပ်၏။ မင်းမြတ်၊ ဥပမာအားဖြင့် အမျိုးစစ်အမျိုးမှန်ဖြစ်၍ အပြစ်အနာ အဆာ ကင်းစင်သော အရောင်တဖိတ်ဖိတ် တောက်ပနေသော ပတ္တမြား ရတနာကို ပွတ်တိုက် သုတ်သင်နေရန် မလိုအပ်ပေ။ ဤအတူသာပင် ဘုရားရှင်တို့၏ အရာဌာန၌ အထွတ်အထိပ်သို့ ရောက်တော်မူပြီးသော ဘုရားရှင်အတွက်လည်း အမှုကိစ္စ ပြုလေသမျှတို့၌ အနှောင့်အယှက်၊ အပိတ်အပင် မဖြစ်လာတော့ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၃။ ဘုရားရှင်မှာ အနာကင်းပါ၏လော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့ ငါဘုရားသည် မကောင်းမှုမှအပ ပြုပြီးသော အရိယာသူတော်ကောင်းတို့၏ ဆွမ်းခံစားခြင်း၌ အားထုတ်သော၊ အခါခပ်သိမ်း ဖြန့်ထားသော လက်ရှိသော၊ နောက်ဆုံး ဆေးဆရာဖြစ်၏ဟူသော စကားကို ဘုရားရှင် ဟောကြားတော်မူပါ၏။ ထိုမှ တစ်ဖန် ရဟန်းတို့၊ အနာကင်းကုန်သော ငါဘုရား၏ တပည့်ရဟန်းတို့တွင် ဤဗာကုလသည် အမြတ်ဆုံးပေတည်း ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။ ဘုရားရှင်၏ ကိုယ်တော်မှာလည်း ကြိမ်ဖန်များစွာ အနာရောဂါ ဖြစ်ခဲ့ရပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက် ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ဘုရားရှင်၏ တပည့်ရဟန်း အချို့သည် ရပ်ခြင်း၊ စင်္ကြံသွားခြင်းဟူသော ဣရိယာပုတ်ဖြင့်သာ နေနှင့် ညဥ့်တို့ကို ကုန်လွန်စေကြ၏။ ထိုင်ခြင်း၊ လျောင်းစက်ခြင်း ဟူသော ဣရိယာပုတ်တို့ကိုကား တစ်ရံတစ်ဆစ်မျှ မပြုကြကုန်။ ဘုရားရှင်သည်ကား ရပ်ခြင်း၊ စင်္ကြံသွားခြင်း၊ ထိုင်ခြင်း၊ လျောင်းစက်ခြင်း တည်းဟူသော ဣရိယာပုတ် လေးပါးတို့ဖြင့် နေ့နှင့်ညဥ့်တို့ကို ကုန်လွန်စေတော်မူ၏။ ထိုရဟန်းတို့သည် ရပ်ခြင်း၊ စင်္ကြံသွားခြင်း ဟူသော ဣရိယာပုတ်ဖြင့်သာ လွန်ကုန်၏။

'မင်းမြတ်၊ ဘုရားရှင်၏ တပည့်ရဟန်းအချို့သည် တစ်ရက်တွင် တစ်ထပ်သာ စားသောက်သော ကောသနိက်ဓုတင်ကို ဆောင်ကြကုန်၏။ အသက်ဘေးနှင့် ကြုံတွေ့ရသော်လည်း နှစ်ထပ်သော ဆွမ်းကို မစားကြပေ။ ဘုရားရှင်သည်ကား နှစ်ထပ်သော ဆွမ်းကို လည်းကောင်း၊ သုံးထပ်သော ဆွမ်းကိုလည်းကောင်း ဘုဉ်းပေးတော်မူပေ၏။ ထိုရဟန်းတို့သည် ကောသနိက်ဓုတင်ဖြင့် သာလွန်ကုန်၏။ ထိုရဟန်းတို့၏ ဤသို့ သာလွန်သော ဂုဏ်ကျေးဇူးကို အကြောင်းပြု၍ နောက်စကားကို ဘုရားရှင် ဟောကြားတော်မူ၏။

'မင်းမြတ်၊ သီလအားဖြင့် လည်းကောင်း၊ သမာဓိအားဖြင့် လည်းကောင်း၊ ပညာအားဖြင့် လည်းကောင်း၊ အရဟတ္တဖိုလ်အားဖြင့် လည်းကောင်း၊ အရဟတ္တဖိုလ်ကို ဆင်ခြင်သော ပစ္စဝေက္ခဏာ ဉာဏ်အားဖြင့် လည်းကောင်း၊ အားတော်ဆယ်ပါးဖြင့် လည်းကောင်း၊ ဝေသာရဇ္ဇဉာဏ်တော် လေးပါးအားဖြင့် လည်းကောင်း၊ ဘုရားရှင်တို့၏ ဂုဏ်ကျေးဇူး တစ်ဆယ့်ရှစ်ပါးတို့အားဖြင့် လည်းကောင်း၊ အသာဓာရဏဉာဏ်တော်ခြောက်ပါးတို့ဖြင့် လည်းကောင်း၊ ဘုရားရှင်

သည် အတုမရှိ မြင့်မြတ်တော်မူဘိ၏။ ထိုဂုဏ်ကျေးဇူးကို ရည်စူးတော်မူ၍ ပထမ စကားကို ဘုရားရှင် ဟောကြားတော် မူခဲ့ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ လူတစ်ယောက်သည် အမျိုးမြတ်၏။ လူတစ်ယောက်သည် ဥစ္စာပေါ၏။ လူတစ်ယောက်သည် ပညာတတ်၏။ လူတစ်ယောက်သည် လက်မှု အတတ်တတ်ကျွမ်း၏။ လူတစ်ယောက်သည် ရဲစွမ်းသတ္တိရှိ၏။ လူတစ်ယောက်သည် မြော်မြင်တွေးခေါ်တတ်၏။ ဤသို့ ဂုဏ်ထူးအသီးသီး ရှိနေကြသော လူတို့ထက် မင်းသည်သာလျှင် သာလွန်မြင့်မြတ်၏။ ဤအတူသာပင် ဂုဏ်ကျေးဇူးအသီးသီး ရှိနေကြသော ရဟန်းတို့ထက် ဘုရားရှင်သည် သာလျှင် ကြီးမြတ် ထူးကဲတော်မူ၏။

'မင်းမြတ်၊ အရှင်ဗာကုလ အနာကင်းခြင်းမှာ ရှေးဆုတောင်း ကောင်းခဲ့သောကြောင့် ဖြစ်ပေ၏။ အရှင်ဗာကုလ၏ အလောင်းလျာသည် ရသေ့ဖြစ်ခဲ့၍ အနောမဒဿီဘုရားရှင် လေနာရောဂါ ခံစားတော်မူရစဉ်တုန်းက လည်းကောင်း၊ ဝိပဿီ ဘုရားရှင်နှင့်တကွ ခြောက်သန်းရှစ်သိန်းသော ရဟန်းများကို မြက်ပွင့်နံ့ကြောင့် ရောဂါဝေဒနာ ခံစားရစဉ်က လည်းကောင်း အထူးထူးသော ဆေးဝါးတို့ဖြင့် ထိုရောဂါကို ကုစား၍ပေးခဲ့၏။ ထိုသို့ ကောင်းမှု ပြုခဲ့သောကြောင့် ဤသာသနာတော်တွင် အနာကင်းသော အရာ၌ ဧတဒဂ် ရပေ၏။

'မင်းမြတ်၊ ဘုရားရှင်၌ အနာရောဂါဖြစ်သော လည်းကောင်း၊ မဖြစ်သော် လည်းကောင်း၊ ဓုတင်အကျင့် ကျင့်သော် လည်းကောင်း၊ မကျင့်သော် လည်းကောင်း ဘုရားရှင်သာလျှင် အတုမရှိ မြင့်မြတ်တော်မူ၏။ ထို့ကြောင့် သံယုတ္တနိကာယ်ပါဠိတော်၌-

'ရဟန်းတို့၊ အခြေမရှိကုန်သော၊ အခြေနှစ်ချောင်း ရှိကုန်သော၊ အခြေလေးချောင်း ရှိကုန်သော၊ အခြေများစွာ ရှိကုန်သော၊ ရုပ်ရှိကုန်သော၊ နာမ်ရှိကုန်သော၊ သညာရှိကုန်သော၊ သညာမရှိကုန်သော၊ သညာရှိသည်လည်း မဟုတ်၍ သညာမရှိသည်လည်း မဟုတ်ကုန်သော မြောက်မြားလှစွာ ကုန်သော သတ္တဝါတို့ထက် ပူဇော်အထူးကို ခံယူတော် မူထိုက်သော၊ သစ္စာလေးတန် တရားမှန် ကို ကိုယ်တော်တိုင် ထိုးထွင်း၍ သိမြင်တော်မူသော ငါဘုရားကို အမြတ်ဆုံးဟု ဆိုအပ်၏' ဟု ဘုရားရှင် ဟောကြားတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၄။ မဂ်လမ်းစဉ်သည် အသစ်လော၊ အဟောင်းလော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ ပူဇော်အထူးကို ခံယူတော် မူထိုက်သော၊ သစ္စာလေးတန် တရားမှန်ကို ကိုယ်တော်တိုင် ထိုးထွင်း၍ သိမြင်တော်မူသော ငါဘုရားသည် မဖြစ်ပေါ်သေးသော မဂ်လမ်းစဉ်ကို ဖြစ်ပေါ်စေ၏ဟု ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန်

ရဟန်းတို့၊ ရှေးကပွင့်တော် မူခဲ့ကုန်သော ဘုရားရှင်တို့ ကြွသွားတော် မူခဲ့ပြီးသော ခရီးဟောင်း ဖြစ်သော မဂ်လမ်းစဉ်ကို ငါဘုရားမြင်တော်မူပြီ ဟူ၍လည်း ဟောကြားတော် မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်စကားနှစ်ရပ်လုံးပင် မှန်ပေ၏။ ရှေးရှေးက ပွင့်တော်မူကြကုန်သော ဘုရားရှင်တို့ ပရိနိဗ္ဗာန် စံဝင်တော်မူကြသဖြင့် ဟောပြောဆုံးမတတ်သောဆရာ မရှိလတ်သော် မဂ်လမ်းစဉ်သည် ပျောက်ကွယ်လေပြီ။ ပျက်စီးလေပြီ။ ပြတ်စဲလေပြီ။ တိမ်မြုပ်လေပြီ။ ပိတ်ကွယ်လေပြီ။ ဖုံးလွှမ်းလေပြီ။ အသွားအလာပြတ်လေပြီ။ ဘုရားရှင်သည် ထိုမဂ်လမ်းစဉ်ကို ပညာမျက်စိဖြင့် ကောင်းစွာမြင်တော်မူ၏။ ထို့ကြောင့် ရှေ့စကားကို ဟောကြားတော်မူ၏။ ရှေးရှေးသော ဘုရားရှင်တို့ ကြွသွားတော်မူခဲ့ကြသော ထိုမဂ်လမ်းစဉ်ကို ဘုရားရှင်သည် ဆက်လက်၍ ကြွသွားတော်မူခဲ့၏။ ထို့ကြောင့် နောက်စကားကို ဟောကြားတော်မူ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ စကြဝတေးမင်းကြီး ကွယ်လွန်သောအခါ စကြရတနာသည် တောင်ထွတ်အတွင်း ပြန်ဝင်သွားကာ ဖုံးလွှမ်းကွယ်ပျောက်သွား၏။ ထို့နောက် အချိန်များစွာ ကျော်လွန်လာပြီးသောအခါ အခြားသော စကြဝတေးမင်းတစ်ပါးက စကြဝတေးမင်း၏ ကျင့်ဝတ်ကို ကောင်းမွန်စွာ ကျင့်သုံးသဖြင့် ပြန်လည်ပေါ်ထွက်ကာ ဆိုက်ရောက်လာ၏။ မင်းမြတ်၊ ထိုစကြာရတနာသည် စကြဝတေးမင်းအသစ်အတွက် အသစ်ဖြစ်ပေါ်လာပါသလော'

'အရှင်ဘုရား၊ မဟုတ်ပါ။ နဂိုပကတိရှိနေပြီးဖြစ်သော စကြရတနာကိုပင် စကြဝတေးမင်း အသစ်က အသစ်တစ်ဖန် ဖြစ်ပေါ်လာစေခြင်းသာ ဖြစ်ပါ၏။

'မင်းမြတ်၊ ဤအတူသာပင် ရှေးဘုရားရှင်တို့ ပရိနိဗ္ဗာန်စံဝင်တော်မူသဖြင့် အသွားအလာ ပြတ်လေပြီးသော မဂ်လမ်းစဉ်ကို ဘုရားရှင် ပညာမျက်စိဖြင့် ကောင်းစွာမြင်တော်မူ၏။ ထို လမ်းစဉ်အတိုင်း ကြွသွားတော်မူလေ၏။ ထို့ကြောင့် ရှေးစကားကို ဟောကြားတော်မူပေ၏။

'အရှင်ဘုရား ကောင်းလှပါပေ၏'

[ကျွမ်းရင်း၌ ဝမ်းထဲမှာပင် ဖြစ်ပေါ်နေပြီးသော သားကို မိခင်က ဝမ်းကြာတိုက်မှ မွေးထုတ်လိုက် ခြင်းကို မိခင်က သားကို ဖြစ်ပေါ်စေသည်ဟု ခေါ်ရပုံကို လည်းကောင်း၊ ပျောက်ဆုံးနေသော ပစ္စည်းတစ်ခုကို တစ်စုံတစ်ယောက် ရှာ၍တွေ့သောအခါ ထိုပစ္စည်းကို ထိုသူက ဖြစ်ပေါ်စေသည်ဟု ဆိုရပုံကိုလည်းကောင်း၊ တောရိုင်းကို ခုတ်ထွင် ရှင်းလင်း၍ လယ်မြေတည်ပြီးသောအခါ ထိုမြေကို ထိုသူ၏ မြေဟုခေါ်ရပုံကို လည်းကောင်း ဥပမာပြုသေး၏။]

# ၅။ ဘုရားလောင်းသည် သူတပါးကို နှိပ်စက်ခဲ့သလော

'အရှင်နာဂသေနဘုရား၊ ငါသည် ရှေးရှေးဘဝက လူဖြစ်စဉ် အခါက သတ္တဝါတို့အား မညှဉ်းဆဲသော သဘောရှိခဲ့၏ဟု ဘုရားရှင်ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် လောမသကဿပ ရသေ့ ဖြစ်စဉ်က အရာမကများလှစွာကုန်သော သတ္တဝါတို့ကို သတ်ဖြတ်ကာ ဝါဇပေယျမည်သော ယဇ်ပူဇော်ပွဲကြီးကို ကျင်းပခဲ့ပေ၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပေ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍နောက်စကားသည် မှန်ခဲ့ ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ လောမသကဿပ ရသေ့က ဝါဇပေယျ မည်သော ယဇ်ပူဇော်ပွဲကြီး ကျင်းပခြင်းမှာ ရာဂလွှမ်းမိုးနှိပ်စက်၍ အဘိညာဉ်ကင်းသော မိန်းမောတွေဝေသည်ဖြစ်၍ ပူဇော်ခဲ့ခြင်းသာ ဖြစ်၏။ သေစေလိုသော စေတနာဖြင့် ပူဇော်ခဲ့ခြင်း မဟုတ်ပေ'

'အရှင်ဘုရား၊ ရှစ်ယောက်သော ပုဂ္ဂိုလ်တို့သည် သူ့အသက်ကို သတ်ကြပါကုန်၏။ ထို ရှစ်ယောက်တို့ကား- ရာဂကြီးသောသူသည် ရာဂကြီးသော အစွမ်းအားဖြင့်၊ ဒေါသကြီးသောသူသည် ဒေါသ၏အစွမ်းအားဖြင့်၊ မောဟကြီးသောသူသည် မောဟ၏ အစွမ်းအားဖြင့်၊ မာနကြီးသောသူသည် မာန၏ အစွမ်းအားဖြင့်၊ လောဘကြီးသောသူသည် လောဘ၏အစွမ်းအားဖြင့်၊ ဆင်းရဲမွဲတေ သူသည် အသက်မွေးဝမ်းကျောင်းလိုသောအားဖြင့်၊ မိုက်မဲသော သူသည် ရွှင်မြူးလိုသောအားဖြင့်၊ မင်းသည် နှိမ်နင်းဆုံးမလိုသောအားဖြင့် သတ္တဝါတို့ကို သတ်ဖြတ်၏။ ထိုသို့ သူ့အသက်သတ်သော သူတို့၏ ပကတိ သဘောအတိုင်းသာလျှင် ဘုရားလောင်းရသေ့သည် သတ်ဖြတ်ခဲ့သည်မဟုတ် ပါလော'

'မင်းမြတ်၊ မဟုတ်ပေ။ ဘုရားလောင်းရသေ့သည် မိမိ၏ ပကတိသော စိတ်သဘော ထားဖြင့် ဝါဇပေယျ ယဇ်ပူဇော်ပွဲကျင်းပရန် အကယ်၍စိတ်ညွတ်ခဲ့လျှင်-

သမုဒ္ဒရာအရံနှင့်တကွသော၊ သမုဒ္ဒရာတည်းဟူသော နားတောင်းရှိသော ဤမြေပြင် တစ်ခုလုံးကို ကဲ့ရဲ့စရာ အပြစ်အနာအများ ရှိနေသောကြောင့် ငါ အလိုမရှိပေ။ သေယှအမတ်၊ ဤသို့ ငါ အလိုမရှိသော သဘောကို သိမှတ်ပါလော့ဟူသော စကားကို မဆိုရာပေရာ။

'မင်းမြတ်၊ ဥပမာအားဖြင့် သူရူးသည် ပျံ့လွင့်သောစိတ်ရှိသည်ဖြစ်၍ မီးကိုလည်း တက်နင်း၏။ အမျက်ထွက်၍နေသော မြွေကိုလည်းထိကိုင်၏။ မုန်ယစ်နေသော ဆင်ပြောင်ကြီး အနားသို့လည်း ချဉ်းကပ်၏။ သမုဒ္ဒရာသို့လည်း ပြေးဆင်း၏။ တံစည်းတွင်းကိုလည်းကောင်း၊

အညစ်အကြေး စီးဆင်းရာ ညွှန်အိုင်ကိုလည်း နင်းနယ်၏။ ဆူးထောင်ထားရာကိုလည်း တက်နင်း၏။ ကမ်းပါးပြတ်မှလည်း ခုန်ချ၏။ မစင်ကိုလည်းစား၏။ အဝတ်မပါ ဗလာကိုယ်တည်းဖြင့် လမ်းမသို့လည်းလျှောက်သွား၏။ သူကောင်းတို့ မပြုအပ်သော အခြားအမှုများကိုလည်း ပြုလုပ်၏။ ဤအတူပင် ဘုရားလောင်း လောမသကဿပ ရသေ့သည် စန္ဒဝတီမင်းသမီးကို မြင်လိုက်ရသည်နှင့် တစ်ပြိုင်နက် မောဟတပ်မက် အမှတ်သညာချို့ယွင်းကာ မိန်းမောတွေဝေပလျက် ယဇ်ပူဇော်ရန်အလို့ငှာ သားကောင်အပေါင်းကို သတ်၍ လည်ချောင်းသွေးကို စုဆောင်းခဲ့ပေ၏။

'မင်းမြတ်၊ ဤလောက၌ တစ်စုံတစ်ယောက်သော သူရူးသည် ပြစ်မှုတစ်စုံတစ်ခုကို ကျူးလွန်သောအခါ သင်မင်းမြတ်တို့သည် ထိုသူရူးအား အဘယ်သို့သော အပြစ်ဒဏ်ကို ပေးကြပါသနည်း'

'အရှင်ဘုရား၊ သူရူးအား အဘယ်မှာ အပြစ်ဒဏ်ပေး၍ ဖြစ်ပါမည်နည်း။ ထိုသူရူးအား ရိုက်ပုတ်၍ နှင်ထုတ်စေရန်သာ စေခိုင်းရပါ၏။ ထိုသို့ ရိုက်ပုတ်၍ နှင်ထုတ်ခြင်းသည်ပင် ထိုသူရူးအတွက် ထိုက်တန်သော ဒဏ်ခတ်ခြင်း ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ပျံ့လွင့်သောစိတ်ဖြင့် ပြုလုပ်သော မကောင်းမှုသည် မျက်မှောက်ဘဝ၌လည်း ကြီးလေးသော အပြစ်မရှိပေ။ နောင်တမလွန်၌လည်း ကြီးလေးသော အပြစ်ဒဏ်မခံရပေ။ လောမသကဿပ ရသေ့ သည်လည်း စန္ဒဝတီမင်းသမီးကို တပ်မက်မောကာ ပျံ့လွင့်သောစိတ်ဖြင့် မကောင်းမှုကို ပြုခဲ့၏။ သတိလည်၍ ပကတိအတိုင်း ဖြစ်လာသော အခါတွင်ကား ရဟန်းပြုကာ အဘိညာဉ် ငါးပါးကို ရ၍ ဗြဟ္မာ့ဘုံသို့ လားရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[လောမသကဿပ ရသေ့၏ ဝတ္ထု ဇာတ်လမ်းသည် နဝကနိပါတ်ဇာတ် အဋ္ဌကထာတွင် ပါရှိ၏။ ထိုဇာတ်လမ်းအကျဉ်းချုပ်ကား–ဘုရားလောင်းသည် ဗာရာဏသီမြို့တော် ဗြဟ္မဒတ်မင်းထံ ခစားရသော ပုရောဟိတ်၏ သားဖြစ်၍ လောမသကဿပဟု အမည်တွင်၏။ သူသည် ဟိမဝန္တာသို့ထွက်၍ ရသေ့ဝတ်ကာ အဘိညာဉ် သမာပတ်တို့ ရရှိပြီးလျှင် ပြင်းထန်သော အကျင့်ကိုကျင့်၏။ လောမသကဿပ ရသေ့၏ ပြင်းထန်လှသော အကျင့်ကြောင့် သိကြားမင်း၏ ပဏ္ဍုကမ္ဗလာသည် ပူပြင်း၍လာ၏။ သိကြားမင်းသည် လူ့ပြည်သို့ ကြည့်ရှုလေရာ လောမသကဿပရသေ့၏ အကျင့်ပြင်းထန်မှုကြောင့် ဖြစ်ရပုံကို တွေ့မြင်ရ၏။ ဤတွင် သိကြားမင်းသည် 'ဤရသေ့သည် ငါ၏စည်းစိမ်ကို လုယူတော့မည်တကား' ဟု အတွေးများကာ ရသေ့၏အကျင့်ကို ဖျက်ဆီးရန် အားထုတ်၏။ ညအခါတွင် ဗြဟ္မဒတ်မင်း၏ အိပ်ခန်းသို့ ဝင်ရောက်ကာ 'သင်သည် အကယ်၍ မြေအပြင်လုံးကို အစိုးရသော ကေရာဇ်မင်းကြီး ဖြစ်လိုပါလျှင် သင့်သမီး စန္ဒာဒေဝီကို ဟိမဝန္တာသို့ စေလွှတ်ပါလော့။ လောမသကဿပ ရသေ့ကို ပင့်ခေါ်စေကာ ခြေလေးချောင်း သတ္တဝါအပေါင်းကို သတ်ဖြတ်၍ ဝါဇပေယျယဇ်ပူဇော်ပွဲကြီး ကျင်းပစေလော့' ဟု ပြောကြား၏။

ဗြဟ္မဒတ်မင်းသည် သိကြားမင်း ပြောကြားသည့်အတိုင်း သမီးတော် စန္ဒာဒေဝီနှင့် သေယျအမတ်တို့ကို စေလွှတ်၏။ လောမသကဿပရသေ့သည် စန္ဒာဒေဝီကို မြင်လျှင်ပင် တပ်မက်မောကာ ရှာန်လျှော့ခဲ့ရ၏။ ဗာရာဏသီမြို့တော်သို့ လိုက်ပါလာကာ ဝါဇပေယျ ယဇ်ပူဇော်ပွဲကြီး ကျင်းပရန် ခြေလေးချောင်း သတ္တဝါတို့၏ လည်ချောင်းသွေးကို စဆောင်း၏။ နောက်ဆုံး ဆင်ကြီးကို သတ်ရန် ပြင်ဆင်နေဆဲမှာပင် လူအပေါင်းက အော်ဟစ်ငိုယိုကာ သတိပေးကြသဖြင့် ဘုရားလောင်း သတိရသွားလေ၏။]

## ၆။ ဆဒ္ဒန်ဆင်မင်းနှင့် ဇောတိပါလလုလင်တို့ အဘယ့်ကြောင့် အမြင်မတူကြသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားအလောင်းတော် ဆဒ္ဒန်ဆင်မင်းသည် မိမိအား လေးနှင့်ပစ်သောသူကို သတ်ပေအံ့ဟု ဥမင်တွင်းမှ ဆွဲထုတ်လတ်သော် ဒေဝဒတ်အလောင်း ဖြစ်သော သောဏုတ္တရမုဆိုးသည် အလောင်းတော်၏ နှာမောင်းပေါ်သို့ ဖန်ရည်စွန်းသော သင်္ကန်းကို ကပျာကသီ လှမ်းတင်လိုက်၏။ အလောင်းတော် ဆဒ္ဒန်ဆင်မင်းသည် ဒုက္ခဝေဒနာ ကြီးကျယ်စွာ ခံစားနေရပါလျက် ဘုရား၊ ပစ္စေကဗုဒ္ဓါတို့၏ တံခွန်ဖြစ်သော သင်္ကန်းကို မြင်လိုက်ရသောကြောင့် (ဤသင်္ကန်းကား မွန်မြတ်လှပေစွ။ မွန်မြတ်လှစွာသော သင်္ကန်းကို ဝတ်ရုံထားသူကို မသတ်အပ်တကား) ဟု အမှတ်သညာ ပေါ်ပေါက်လာ၏ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။

ထိုမှတစ်ဖန် ဇောတိပါလလုလင် ဖြစ်စဉ်တုန်းက ပူဇော်အထူးကို ခံယူတော် မူထိုက်သော၊ သစ္စာလေးတန် တရားမှန်ကို ကိုယ်တော်တိုင် ထိုးထွင်း၍ သိတော်မူသော ကဿပဘုရားရှင်အား ဦးပြည်းခေါင်းတုံး ဟူ၍ လည်းကောင်း၊ ရဟန်းယုတ်ဟူ၍ လည်းကောင်း ကြမ်းတမ်းသော စကားတို့ဖြင့် ဆဲရေးရေရွတ်ခဲ့၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ တိရစ္ဆာန်ဖြစ်၍ ရန့်ရင်းကြမ်းကြုတ်လှစွာသော ဒုက္ခဝေဒနာတို့ကို ခံစားနေရသော ဆဒ္ဒန်ဆင်မင်းသည်ပင် သောဏုတ္တရမုဆိုး ဝတ်ဆင်ထားသော သင်္ကန်းကို အကယ်၍ ပူဇော်သည်ဖြစ်ငြားအံ့။ လူသားစင်စစ် ဇကန်ဖြစ်သော ဇောတိပါလလုလင်သည် ဗောဓိဉာဏ် ရင့်ကျက်ပြီးသူဖြစ်ပါလျက် အဘယ့်ကြောင့် ကဿပဘုရားရှင်ကို ဆဲရေးရေရွတ်ပါသနည်း။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်စလုံးပင် မှန်ကန်ပေ၏။ ဇောတိပါလ လုလင်က ကဿပဘုရားရှင်အား ဆဲရေးခြင်းသည် အမျိုးအနွယ်တူအစွမ်းအားဖြင့် ဖြစ်၏။ ဇောတိပါလ လုလင်သည် သာသနာတော်ကို မကြည်ညိုသော ပုဏ္ဏားမျိုး၌ ဖွားမြင်၏။ သူ၏ အမိ၊ အဖ၊ ညီအစ်ကို၊

အစ်မ၊ နမ၊ ကျေးကျွန်အစေအပါးမှ စ၍ ဗြဟ္မာကြီးများကိုသာ ကိုးကွယ်ကြ၏။ ဗြဟ္မာကြီးများကိုသာ အလေးအမြတ်ပြုကြ၏။ ပုဏ္ဏားမျိုးတို့သည်သာ အလွန်တရာ မွန်မြတ်ကြကုန်၏။ အခြား အမျိုးတို့ကား ယုတ်ညံ့ကြကုန်၏ဟု တစ်ယူသန်စွဲမှတ်ကာ ပုဏ္ဏားမျိုးမဟုတ်သော ရဟန်းတို့ကို ကဲ့ရဲ့ရှုတ်ချကြကုန်၏။ ရွံရှာစက်ဆုပ်ကြကုန်၏။ ထို့ကြောင့်ပင် ဆွေမျိုးရင်းချာဖြစ်သော ဃဋိကာရ အိုးထိန်းသည်က ကဿပဘုရားရှင်ကို ဖူးမြော်ရန် ခေါ်လာသောအခါ (ခေါင်းတုံး ဦးပြည်းနှင့် ထိုရဟန်းယုတ်ကို ဖူးမြော်ခြင်းဖြင့် ဘာအကျိုးရှိမည်နည်း) ဟု ဆဲရေး ရေရွတ်ခဲ့ပေ၏။

'မင်းမြတ် ဥပမာအားဖြင့် ချိုမြိန်လှစွာသော အမြိုက်သုဓာဘုတ်သည် အဆိပ်နှင့် ရောစပ်မိသောအခါ ခါးသက်သော အရသာရှိလာ၏။ ဤအတူသာပင် ဇောတိပါလ လုလင်သည် သာသနာတော်ကို မကြည်ညိုသော အမျိုး၏စွမ်းအားဖြင့် မိုက်မိုက် ကန်းကန်း ဆဲရေးရေရွတ်ခဲ့၏။ ထို့နောက် ကဿပ ဘုရားရှင်ထံ ဖူးမြင်ဆည်းကပ်သောအခါတွင်ကား ကဿပဘုရားရှင်၏ ဂုဏ်ကျေးဇူးတော်များကို သိမြင်လာကာ ကဿပဘုရားရှင်ကို ရိုသေလေးမြတ်စွာ ပြုစုလုပ်ကျွေး၏။ ကဿပဘုရားရှင်၏ သာသနာတော်၌ ရဟန်းပြုကာ အဘိညာဉ်သမာပတ်တို့ကို ရရှိ၍ ဗြဟ္မာ ပြည်သို့ လားရပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ ဇောတိပါလလုလင်၏ မကြည်ညိုမှုကို အေးသောရေသည် မီးနှင့်တွေ့လျှင်ပူလောင်၍ သွားရခြင်းကို လည်းကောင်း၊ အလျှံ ပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီးသည် ရေနှင့်တွေ့လျှင် အရောင်အဝါ ကင်းမဲ့သွားရပုံကို လည်းကောင်း ဥပမာပြုသေး၏။]

## ၇။ ဃဋိကာရ၏ အိမ်နှင့် ကဿပဘုရားရှင်၏ကျောင်းတော်တို့ အဘယ့်ကြောင့် မတူသနည်း

'အရှင်နာဂသေနဘုရား၊ ဃဋိကာရ အိုးထိန်းသည်၏ အိမ်သည် မိုးတွင်းသုံးလ ကာလပတ်လုံး ကောင်းကင်မှ တစ်ပါး အခြားအမိုးမရှိပါဘဲလျက် မိုးရေမစွတ်စိုပေ ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ကဿပဘုရားရှင်၏ ကျောင်းတော်သည် မိုးရေစိုစွတ်၏ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ ဤမျှလောက် ကုသိုလ်ကောင်းမှု ပြုလုပ်ခဲ့ပြီးသော ကဿပဘုရားရှင်၏ ကျောင်းတော်သည် အဘယ့်ကြောင့် မိုးရေစိုစွတ်ရပါသနည်း။ ဘုရားရှင်၏တန်ခိုးတော်ဖြင့် မိုးရေ မစွတ်စိုအောင် ဖန်ဆင်းသင့်သည် မဟုတ်ပါလော။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရား ထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ် စကားနှစ်ရပ်စလုံးပင် မှန်ကန်ပေ၏။ ဃဋိကာရ အိုးထိန်းသည်သည် သီလရှိ၏။ ကောင်းသော စိတ်သဘောရှိ၏။ ကုသိုလ်ကောင်းမှု မြောက်မြားစွာပြုလုပ်ခဲ့၏။ မျက်မမြင် မိဘနှစ်ပါးကို ပြုစုလုပ်ကျွေးနေ၏။ တစ်နေ့သ၌ ကဿပဘုရားရှင်၏ ကျောင်းတော်သည် မိုးမလုံ၍ မိုးရေများစိုစွတ်နေသောအခါ ကဿပဘုရားရှင်၏ တပည့်ရဟန်းတို့သည် ဃဋိကာရ အိုးထိန်းသည်ထံ ပန်ကြားမနေဘဲ ဃဋိကာရအိုးထိန်းသည်၏ အိမ်မိ၌ မိုးထားသော မြက်သက်ငယ်တို့ကို ဖြုတ်ယူကာ ကဿပဘုရားရှင်၏ ကျောင်းတော်မှာ မိုးကြကုန်၏။ ဃဋိကာရ အိုးထိန်း သည်သည် အိမ်ပြန်ရောက်၍ ဤအဖြစ်ကို တွေ့မြင်ရသောအခါ စိတ်နှလုံးတုန်လှုပ်ခြင်း၊ ဖောက်ပြန်ခြင်း လုံးဝမဖြစ်ပေါ်ပေ။ လောက၌အထွတ်အမြတ်ဆုံး ဖြစ်တော်မူပေသော ဘုရားရှင်သည် ငါ့အပေါ် အလွန်တရာ အကျွမ်းဝင်ပေတကားဟု တွေးတောကာ ပီတိသောမနဿ လွန်မင်းစွာ ခံစားရ၏။ ထိုကဲ့သို့ ကုသိုလ်ကံကြောင့် ဃဋိကာရ အိုးထိန်းသည် မျက်မှောက်ဘဝမှာပင် ဟင်းလင်းပွင့်နေသော အိမ်မှာ မိုးရေမစိုစွတ်ခြင်း တည်းဟူသော အကျိုးတရားကို ခံစားပေရ၏။

'မင်းမြက်၊ ဥပမာအားဖြင့် တစ်သိန်းမက များလှစွာကုန်သော လေမုန်တိုင်းတို့ တိုက်ခတ်သော်လည်း မြင်းမိုရ်တောင်မင်းသည် မတုန်လှုပ်ပေ။ တစ်သိန်းမက များလှစွာသော မြစ်ကြီးများ စီးဝင်လာကြသော်လည်း မဟာသမုဒ္ဒရာသည် ဖောက်ပြန်လျှံထွက်ခြင်း မရှိပေ။ ဤအတူပင် ကဿပဘုရားရှင်သည် ကျောင်းတော်ကို မိုးရေစိုစွတ်ကာမျှသော ဖောက်ပြန်မှုကြောင့် တုန်လှုပ်တော်မမူပေ။

'မင်းမြတ်၊ ကဿပဘုရားရှင်၏ ကျောင်းတော်ကို မိုးရေစိုစွတ်ခြင်းမှာ စင်စစ်အားဖြင့် လူအပေါင်းတို့အား အစဉ်စောင့်ရှောက်ခြင်း အလို့ငှာဖြစ်၏။ အကျိုးထူးတရား နှစ်ပါးကို ကောင်းစွာ ရှုမြင်တော်မူကြကုန်လျက် ဘုရားရှင်တို့သည် မိမိကိုယ်တိုင်ဖန်ဆင်းရသော ပစ္စည်းများကို မသုံးဆောင်ဘဲ သူတစ်ပါးလှူဒါန်းသော ပစ္စည်းကိုသာ သုံးဆောင်တော်မူကြကုန်၏။ ထိုအကျိုးထူး တရား နှစ်ပါးတို့ကား ဘုရားရှင်သည် မြင့်မြတ်သော လှူဖွယ်ဝတ္ထုကို အလှူခံထိုက်တော်မူပေ၏ဟု နှလုံးသွင်းကာ နတ်တို့သည် ဘုရားရှင်းအား ပစ္စည်းလေးပါး လှူဒါန်းကြကုန်၏။ ထိုကောင်းမှုကြောင့် လူတို့သည် ဒုဂ္ဂတိဘဝသို့ မလားရောက်ဘဲ လူ့ပြည် နတ်ပြည် ကောင်းမြတ်သော ဘုံဌာနသို့ လားရောက်ရကုန်၏။ ထိုမှတစ်ပါးဘုရားရှင်တို့သည် တန်ခိုးပြဋိဟာကိုပြ၍ အသက်မွေးမှုကို ရှာမှီးကြကုန်၏ဟု သူတစ်ပါး သူတစ်းပါးစွပ်စွဲမည့်အရေးကို ရှောင်ရှားတော်မူကြကုန်၏။ ဤသို့သော အကျိုးထူးတရားနှစ်ပါးကို ဘုရားရှင်တို့ ရှုမြင်တော်မူကြကုန်၏။ အကယ်၍ ထိုကျောင်းတော်ကို သိကြားမင်းက လည်းကောင်း၊ ဗြဟ္မာမင်းက လည်းကောင်း၊ ကဿပဘုရားရှင်ကိုယ်တိုင်ကသော် လည်းကောင်း မိုးရေမစိုစွတ်အောင် တန်ခိုးဖန်ဆင်းခဲ့ငြားအံ့။ ဤ သိကြား၊ ဗြဟ္မာတို့သည် အံ့ဩဖွယ်များကို ထင်ရှားစွာပြကုန်၍ လူအပေါင်းကိုတွေဝေအောင် ပြုကုန်၏

ဟူ၍ ဖိနှိပ်ပြောဆိုစရာ ဖြစ်လာနိုင်၏။ ထို့ကြောင့် ဤသို့သော အကြောင်းကို ရှောင်ကြဉ် ထိုက်ပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၈။ ဘုရားရှင်သည် ဗြာဟ္မဏလော။ ရာဇာလော

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ ငါဘုရားသည် ဆွမ်းခံစားခြင်းနှင့် ယှဉ်သော ဗြာဟ္မဏ ပေတည်းဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် သေလပုဏ္ဏား၊ ငါဘုရားသည် ရာဇာဖြစ်၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော်မူပြန်ပါ၏။

အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကား မှန်ခဲ့ကြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ကြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ ဘုရားရှင်သည်ဖြစ်ခြင်းဖြစ်လျှင် ရာဇာမျိုးသော်လည်း ဖြစ်ရာ၏။ ဗြာဟ္မဏမျိုးသော်လည်း ဖြစ်ရာ၏။ တစ်ဘဝတည်း၌ အမျိုးနှစ်ခု မဖြစ်နိုင်ပါ။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာ သည် အရှင်ဘုရားထံကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ရာဇာ၊ ဗြာဟ္မဏ နှစ်မျိုးဖြစ်ရာ၌ အကြောင်း ရှိပေ၏'

'အရှင်ဘုရား၊ ဗြာဟ္မဏမည်ရခြင်း၏အကြောင်းကား အဘယ်နည်း'

'မင်းမြတ်၊ ဘုရားရှင်သည် ယုတ်ညံ့လှသော မကောင်းမှုအားလုံးကို အပပြုတော်မူပြီး ဖြစ်သောကြောင့် လည်းကောင်း၊

ယုံမှားမှု၊ မဆုံးဖြတ်နိုင်မှု၊ နှလုံးနှစ်ခွဖြစ်မှုကို လွန်မြောက်တော်မူသောကြောင့် လည်းကောင်း၊

'ဘဝကိုးပါး၊ ဂတိငါးပါး၊ ယောနိလေးပါးနှင့် ကိလေသာ မြူအညစ်အကြေးသို့ ရောက်ခြင်း တို့မှ လွတ်မြောက်တော်မူသောကြောင့် လည်းကောင်း၊

အလွန်မြင့်မြတ် လှစွာသော ဒိဗ္ဗဝိဟာရဖြင့် နေထိုင်တော်မူသောကြောင့် လည်းကောင်း၊

ကိုယ်တော်တိုင် တရားဟောခြင်း၊ တပည့်များကို ဟောစေခြင်း၊ အလှူခံခြင်း၊ ဣန္ဒြေကို ဆုံးမခြင်း၊ စောင့်စည်းခြင်း၊ မြဲမြံသော အကျင့်ရှိခြင်း၊ ရှေးဘုရားတို့၏ အလေ့အကျင့်ဖြစ်သော အဆုံးအမ၊ အစဉ်အနွယ်ကို ဆက်ခံဆောင်ရွက်တော် မူသောကြောင့် လည်းကောင်း၊

ကြီးပွားချမ်းသာစွာ နေထိုင်ခြင်းဟူသော ဈာန်ကို ရှုမြင်ဆင်ခြင်လေ့ ရှိတော်မူသောကြောင့် လည်းကောင်း၊

အလုံးစုံသော ဘဝကြီးငယ်တို့၌ ဖြစ်သောသတ္တဝါတို့၏ လေ့စရိုက်ကို သိတော်မူ သောကြောင့် လည်းကောင်း ဗြာဟ္မဏ မည်ပေ၏။

မင်းမြတ်၊ အရှင်ဘုရား၏ ဗြာဟ္မဏဟူသော ဤအမည်တော်ကို ခမည်းတော် မယ်တော်တို့က မှည့်ခေါ်ထားသည် မဟုတ်ပေ။ ညီတော် နှမတော်များ၊ ဆွေမျိုးများ၊ ရဟန်း ပုဏ္ဏားများ မှည့်ခေါ်ထားသည် မဟုတ်ပေ။ ဘုန်းတော် ခြောက်ပါးနှင့် ပြည့်စုံတော်မူကုန်သော ဘုရားရှင်တို့၏ ဗောဓိပင်နှင့် ရွှေပလ္လင်တွင် သဗ္ဗညုတဉာဏ်တော်ကြီး ထင်ရှားစွာဖြစ်ပေါ်လာသော ဟစ်ခဏ၌ ရရှိတော်မူသော အမည်ပညတ်သာဖြစ်ပေ၏'

'အရှင်ဘုရား၊ ရာဇာခေါ်ရခြင်းအကြောင်းကား အဘယ်နည်း'

'မင်းမြတ်၊ ဘုရားရှင်သည် တစ်သောင်းသော လောကဓာတ်၌ တရားဖြင့်မင်းပြုသောကြောင့် လည်းကောင်း၊ နတ်၊ မာရ်နတ်၊ ဗြာဟ္မနှင့်တကွ ဖြစ်သော နတ်လောကနှင့် သမဏ၊ ဗြာဟ္မဏ၊ မင်း၊ လူများနှင့်တကွဖြစ်သော သတ္တလောကကို အဆုံးအမ ပေးတော်မူသောကြောင့် လည်းကောင်း၊

အကျင့်မှားနေကြသော မာရ်နတ်မင်း၏ စစ်သည်တော်အပေါင်းတို့ကို စိုးရိမ်ထိတ်လန့်စေလျက်၊ အကျင့်ကောင်းသောနတ်အပေါင်းကို နှစ်ထောင်းအားရစေလျက် များပြားလှစွာသော အခြွေအရံ တည်းဟူသော အသရေကို ဆောင်တော်မူလျက် သည်းခံခြင်းတည်းဟူသော မြဲမြံခိုင်ခံ့သော အရိုးရှိသော ဗုဒ္ဓဉာဏ်တော်များတည်း ဟူသော အရာမကသော ခရိုင်ချက်တို့ဖြင့် တန်ဆာ ဆင်အပ်သော၊ အရဟတ္တဖိုလ်တည်းဟူသော ထီးဖြူတော်ကို စိုက်ထူတော်မူသောကြောင့် လည်းကောင်း၊

ဆည်းကပ်လာကြသော နတ်အပေါင်းတို့၏ ရှိခိုးပူဇော်ခြင်းကို ခံယူတော်မူရခြင်းသောကြောင့် လည်းကောင်း၊

ကိုယ်နှုတ်နှလုံးတို့ဖြင့် နှစ်သက်ကျေနပ်အောင် ကျင့်ဆောင်နိုင်သူအား ကြည်လင်ရွှင်ပျစေ၍ လိုလားတောင့်တအပ်သော အရဟတ္တဖိုလ်ဆုကြီးကို ပေးသနားတော်မူသောကြောင့် လည်းကောင်း၊

'သာသနာတော်၌ အာဏာတော်ကို ကျော်လွန်သော အလဇ္ဇီပုဂ္ဂိုလ်ကို မျက်နှာမလှ အရှက်ရလောက်အောင် ဖိနှိပ်ရှုတ်ချတော်မူ၍ သာသနာတော်မှ နှင်ထုတ်တော်မူသောကြောင့် လည်းကောင်း၊

ရှေးရှေးသော ဘုရားရှင်တို့၏ အစဉ်အလာကို ဆက်ခံကာ တရားမှု မတရားမှုတို့ကို သင့်လျော်စွာ ညွှန်ပြတော်မူ၍ လောကကိုဆုံးမတော်မူလျက် နတ်လူတို့၏ ချစ်ခင်မြတ်နိုးမှုကိုခံယူပြီးလျှင် တရားတော်၏ အစွမ်းဖြင့် သာသနာတော်ကို ကြာမြင့်စွာ တည်နေစေတော် မူသောကြောင့် လည်းကောင်း ဘုရားရှင်သည် ရာဇာမည်တော်မူပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၉။ တရားဟော၍ရသော ပစ္စည်းကို သုံးဆောင်ကောင်းသလော

'အရှင်နာဂသေနဘုရား၊ ပုဏ္ဏား၊ ငါ့အား တရားဟော၍ ရသော ဘောဇဉ်ကို စားခြင်းငှာ မထိုက်ပေ။ ဤဘောဇဉ်ကိုစားခြင်းသည် စင်ကြယ်ခြင်းကို ကောင်းစွာရှုမြင်ကုန်သော ဘုရားရှင်တို့၏

သဘာဝမဟုတ်ချေ။ ဘုရားရှင်တို့သည် တရားဟော၍ရသော ဘောဇဉ်ကိုပယ်ကုန်၏။ အသက်မွေးမှု စင်ကြယ်ခြင်းသဘောရှိနေလတ်သော် ဤသို့တရားသဖြင့် ရှာမှီးခြင်းသည် ဘုရားရှင်တို့၏ အသက်မွေးခြင်းပေတည်းဟူ၍ ဘုရားရှင်ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ဖန် ဘုရားရှင်သည် ပရိသတ်အား တရားဟောကြားတော်မူလတ်သော ရှေးဦးစွာ လှူဒါန်းခြင်းနှင့် စပ်သော ဒါနကထာကို ဟောကြားတော်မူ၏။ ထို့နောက် စောင့်ထိန်းခြင်းနှင့်စပ်သော သီလကထာကို ဟောကြားတော်မူ၏။ ထိုတရားတော်များကို နာကြားရသဖြင့် ကြည်ညိုသဒ္ဓါ ထက်သန်လာကြသော နတ်လူတို့သည် အလှူကြီးများကို ပေးလှူကြကုန်၏။ ဘုရားရှင်က တရားဟောကြား၍ နှိုးဆော် တိုက်တွန်းပေးအပ်သော ထိုလှူဖွယ်ဝတ္ထုတို့ကို တပည့်ရဟန်းတို့က သုံးဆောင်ကြကုန်၏ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤ ပြဿနာကို ဖြေရှင်းပေးတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်စလုံးပင် မှန်ကန်ပေ၏။ ဘုရားရှင်သည် တရားစကား ဟောကြားတော်မူသောအခါ ဒါနကထာကို ပထမဦးစွာ ဟောကြားတော်မူ၏။ ထိုသို့ ဟောကြားခြင်းမှာလည်း အလုံးစုံသော ဘုရားရှင်တို့၏ ပြုမြဲထုံးပင်ဖြစ်ပေ၏။ ဥပမာအားဖြင့် ဆေးဆရာသည် လူနာအား ပထမဦးစွာ အားအင်ပြည့်ဖြိုးလာစေရန်၊ အကြောအခြင်များ နူးညံ့ပျော့ပျောင်းလာစေရန် လေးငါးရက်ပတ်လုံး ဆီကိုသောက်စေ၏။ ထို့နောက်မှ ဝမ်းနုတ်ဆေးကို တိုက်ကျွေး၏။ ဤ အတူသာပင် ဘုရားရှင်သည် ရှေးဦးစွာအလှူရှင်တို့အား ဒါနကထာဖြင့်မွေ့လျော်စေပြီးမှ သီလ ဆောက်တည်စေရန် သီလကထာကို ဟောကြားတော်မူ၏။ မင်းမြတ်၊ အလှူပေးကုန်သော ကုသိုလ်ရှင်တို့၏ စိတ်သည်နူးညံ့၏။ ပျော့ပျောင်း၏။ ပြေပြစ်၏။ အလှူပေးသူတို့သည် ဒါနတည်းဟူသော တံတား၊ ဒါနတည်းဟူသော လှေဖြင့် သမုဒ္ဒရာ သံသရာ၏ တစ်ဖက်ကမ်းသို့ တက်လှမ်း နိုင်ကြကုန်၏။ ထို့ကြောင့် ထိုသူတို့အား ကမ္မဋ္ဌာန်းဘာဝနာ ပွားများခြင်း၏ အစပြုရာ ဖြစ်သော ဒါနကထာဖြင့် ဘုရားရှင်ဆုံးမတော်မူပေ၏။ ထိုသို့ လှူလို ပေးလိုသည့် သဒ္ဓါတရား ပေါ်ပေါက်လာအောင် ဟောကြားသဖြင့် မည်သည့်အကြောင်းကြောင့်မျှ ဝိညတ်မဖြစ်ပေ'

'အရှင်ဘုရား၊ ဝိညတ်ဟူသော စကားကို အရှင်ဘုရား မိန့်ဆိုခဲ့၏။ ထိုဝိညတ်သည် အဘယ်မျှ ရှိပါသနည်း'

'မင်းမြတ်၊ ကိုယ်ဖြင့်တောင်းခြင်းဟူသော ကာယဝိညတ်၊ နှုတ်ဖြင့်တောင်းခံခြင်း ဟူသော ဝစီဝိညတ်ဟူ၍ နှစ်မျိုးရှိပေ၏။ ထိုနှစ်မျိုးတို့တွင် ကာယဝိညတ်သည် အပြစ်ရှိသော ကာယဝိညတ်၊ အပြစ်မရှိသော ကာယဝိညတ်ဟူ၍ နှစ်မျိုးပြား၏။ ဝစီဝိညတ်သည်လည်း အပြစ်ရှိသော

ဝစီဝိညတ်၊ အပြစ်မရှိသော ဝစီဝိညတ်ဟူ၍ နှစ်မျိုးပြား၏။

'မင်းမြတ်၊ အပြစ်ရှိသော ကာယ ဝိညတ်ကား- ဤသာသနာတော်၌ အချို့သောရဟန်းသည် ဒါယကာတို့ထံချဉ်းကပ်၍ မရပ်သင့်သောနေရာ၌ ရပ်ပြီးလျှင် ရပ်ခြင်းနှင့်သက်ဆိုင်သော သိက္ခာပုဒ်ကို ချိုးဖျက်၏။

'နောက်တစ်မျိုးကား-အချို့သောရဟန်းသည် ဒါယကာထံချဉ်းကပ်၍ မရပ်သင့်သော နေရာ၌ ရပ်ပြီးလျှင် ဒါယကာတို့မြင်သွားစေရန် လည်ပင်းကိုညွတ်၍ ဥဒေါင်းကြည့်ဟန်ဖြင့် ကြည့်ကုန်၏။ ထိုသို့ကြည့်သည်ကို ဒါယကာတို့လည်းမြင်ကုန်၏။

'နောက်တစ်မျိုးကား အချို့သောရဟန်းသည် မေးထိုးပြ၍ လည်းကောင်း၊ မျက်မှောင်ကုပ်ပြ၍ လည်းကောင်း၊ လက်ချောင်းများဖြင့် လည်းကောင်း ဒါယကာတို့အား သိစေ၏။ ဤသည်လည်း အပြစ်ရှိသော ကာယဝိညတ် ပေတည်း။ ထိုဝိညတ်ဖြင့် ရရှိသောပစ္စည်းကို အရိယာပုဂ္ဂိုလ်တို့ မသုံးဆောင်ကြကုန်။ အပြစ်ရှိသော ကာယဝိညတ်ဖြင့် တောင်းခံသော ထိုရဟန်းကို အရိယာပုဂ္ဂိုလ်တို့ ကဲ့ရဲ့ရှုတ်ချကြကုန်၏။

'အပြစ်မရှိသော ကာယဝိညတ်ကား ဤသာသနာတော်၌ ရဟန်းသည် ဒါယကာတို့ထံ ချဉ်းကပ်၍ သတိထားလျက်၊ စိတ်တည်ကြည်လျက်၊ အရာဟုတ်သည်၊ မဟုတ်သည်ကို ပညာဉာဏ်ဖြင့် ဝေဖန်ကြည့်ရှုလျက် ဘုရားရှင် ဆုံးမတော်မူသည့်အတိုင်း ရပ်၏။ ပေးလှူလိုသော် ရပ်၏။ မပေးလှူလိုသော် ဖယ်ခွာသွား၏။ ဤကား အပြစ်မရှိသော ကာယဝိညတ်ပေတည်း။ ထိုဝိညတ်ဖြင့် တောင်းခံရရှိသောပစ္စည်းကို အရိယာတို့ သုံးဆောင်ကြကုန်၏။ အပြစ်မရှိသော ကာယဝိညတ်ဖြင့် တောင်းခံသော ထိုရဟန်းကို အရိယာပုဂ္ဂိုလ်တို့ ချီးမွမ်းကြကုန်၏။ ထို့ကြောင့် နတ်တကာတို့ထက် မြင့်မြတ်၍ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားသည်-

'ပညာရှိသော သူတော် သူမြတ်တို့သည် မတောင်းကြကုန်။ ပညာရှိသည် သိခြင်းငှာ ထိုက်၏။ အရိယာပုဂ္ဂိုလ်တို့သည် ရည်ညွှန်း၍ ရပ်ကုန်၏။ ဤသို့ရပ်ခြင်းသည်ကား အရိယာပုဂ္ဂိုလ်တို့၏ တောင်းခံခြင်း မည်ပေ၏'ဟူ၍ ဟောကြားတော်မူပေ၏။

'မင်းမြတ်၊ အပြစ်ရှိသော ဝစီညတ်သည်ကား- ဤသာသနာတော်၌ ရဟန်းသည် ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို နှုတ်ဟ၍တောင်း၏။

'နောက်တစ်မျိုးကား- အချို့သောရဟန်းသည် ပစ္စည်းရှင်အား တိုက်ရိုက်မတောင်းခံဘဲ ထိုပစ္စည်းရှင်နှင့်ဆက်စပ်နေသော အခြားသူအား ငါသည် ဤသို့သောပစ္စည်းကို အလိုရှိ၏ဟု နှုတ်မြွက်ပြောဆို၏။ ထိုသို့ပြောဆိုသံကို ပစ္စည်းရှင်က တစ်ဆင့်ကြား၍ လှူဒါန်း၏။

'နောက်တစ်မျိုးကား-အချို့သောရဟန်းသည် တစ်စုံတစ်ယောက်ကိုရွေးချယ်မနေဘဲ ပရိသတ် အများစုအား ဤသို့ဤသို့သောပစ္စည်းကို ရဟန်းတို့အား ပေးလှူအပ်ကုန်၏ ဟူ၍ ပြောကြား၏။

ဒါယကာတို့ကလည်း ပြောကြားသောပစ္စည်း လှူဒါန်းလာကုန်၏။ ဤကား အပြစ်ရှိသော ဝစီဝိညတ်ပေတည်း။ ထိုဝိညတ်ဖြင့် တောင်းခံရရှိသော ပစ္စည်းကို အရိယာပုဂ္ဂိုလ်တို့ မသုံးဆောင်ကြကုန်။ အပြစ်ရှိသော ဝစီညတ်ဖြင့် တောင်းခံသော ထိုရဟန်းကို အရိယာပုဂ္ဂိုလ်တို့ ကဲ့ရဲ့ ရှုတ်ချကြကုန်၏။

'မင်းမြတ်၊ အရှင်သာရိပုတ္တရာသည် ညအခါ၌ လေနာရောဂါ ခံစားနေရစဉ် အရှင်မဟာမောဂ္ဂလာန်က ပျောက်ဖူးသောဆေးကို မေးမြန်းသဖြင့်(နို့ဆွမ်းဖြင့်ပျောက်ဖူးပါ၏) ဟု လျှောက်ထား၏။ ဤသို့လျှောက်ထားသည်ကို တစ်ဆင့်ကြားသိရသော ဒါယကာများက နို့ဆွမ်းကို ပို့ဆောင်လာကြ၏။ ဤတွင် အရှင်သာရိပုတ္တရာသည် (ငါက နှုတ်မြွက်မိသဖြင့် ဤနို့ဃနာဆွမ်းသည် ပေါ်ပေါက်လာ၏။ ဤဆွမ်းကိုစားလျှင် ငါ၏အသက်မွေးမှုသည် မစင်ကြယ်တော့ဘဲ ပျက်စီးသွားလတ္တံ့)ဟု နှလုံးသွင်းကာ နို့ဆွမ်းကို မဘုဉ်းပေးတော့ချေ။

'မင်းမြတ်၊ အပြစ်ရှိသော ဝစီဝိညတ်သည်ကား–ဤသာသနာတော်၌ ရဟန်းသည် အကြောင်းရှိလတ်သော် ဆွေတော်သူ၊ ဖိတ်ကြားထားသူတို့ထံ တောင်းခံ၏။ ဤကား အပြစ်မရှိသော ဝစီဝိညတ်ပေတည်း။ ထိုဝိညတ်ဖြင့် တောင်းခံရရှိသောပစ္စည်းကို အရိယာတို့ သုံးဆောင်ကြကုန်၏။ အပြစ်မရှိသော ဝစီဝိညတ်ဖြင့် တောင်းခံသော ထိုရဟန်းကို အရိယာပုဂ္ဂိုလ်တို့ ချီးမွမ်း ကြကုန်၏။

'မင်းမြတ်၊ ဘုရားအရှင်သည် ကသိဘာရဒွါဇ မည်သော ပုဏ္ဏားဏ်၏ဆွမ်းကို အလှူမခံ၊ ပယ်လှန်တော်မူ၏။ ဘုရားရှင် ကသိဘာရဒွါဇ ပုဏ္ဏားအား စကားဖြင့် ရစ်ပတ်ခြင်း၊ ချေချွတ်ခြင်း၊ ဆွဲငင်ခြင်း၊ နှိပ်နယ်ခြင်း၊ ကုစားဖြေရှင်းခြင်းတို့ကို ပြုတော်မူသဖြင့် ထိုဆွမ်းကို လှူဒါန်းသောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ ဘုရားရှင်ဆွမ်းဘုဉ်းပေးတော်မူသောအခါတိုင်း နတ်တို့သည် နတ်သြဇာကို ထည့်ပေးကြပါသလော။ သို့မဟုတ် ဘုရားဖြစ်တော်မူသောနေ့က ဘုဉ်းပေးရသော နို့ဃနာဆွမ်းနှင့် ပရိနိဗ္ဗာန်စံတော်မူသည့်နေ့က ဘုဉ်းပေးရသော ဝက်ပျိုသားဟင်းလျာတို့၌သာ ထည့်ပေးကြပါသလော'

'မင်းမြတ်၊ ဘုရားရှင် ဆွမ်းဘုဉ်းပေးတော်မူသည့်အခါတိုင်း ထည့်ပေးကြကုန်၏။ ဥပမာအားဖြင့် ပြည့်ရှင်မင်း၏ စားတော်ချက်သည် ပြည့်ရှင်မင်းပွဲတော်တည်သည့်အခါ ကိုင်း ဟင်းလျာပွဲကို အနားမှာထားလျက် ထမင်းလုတ်တိုင်း ထမင်းလုတ်တိုင်း ဟင်းလျာကိုထည့်ပေး၏။ ဤအတူသာပင် နတ်တို့သည် နတ်သြဇာကိုအနားသို့ယူလာကာ လက်တော်ဖြင့်ထုတ်ယူတိုင်း ထုတ်ယူတိုင်းသော ဆွမ်းလုတ်များကို နတ်သြဇာကို ထည့်ပေးကြကုန်၏။ ဝေရဉ္စာမြို့မှာ ဂါကပ်စဉ်တုန်းက ဒုဗ္ဘိက္ခန္တ ရကပ်ကြီး ဆိုက်ရောက်နေသဖြင့် ဘုရားရှင်နှင့်တကွ ရဟန်းများသည် မြင်းကုန်သည်များ လှူဒါန်းသော မုယောဆန်ခြောက်များကို ကျောက်မှာကြိတ်၍ အမှုန့်

ပြုလုပ်ကာ ဘုဥ်းပေးကြရကုန်၏။ ထိုမုယောဆန်မှုန့်တို့၌လည်း နတ်တို့က နတ်သြဇာများ ဆွတ်ဖျန်းပေးသဖြင့် ဘုရားရှင်၏ကိုယ်တော်သည် ကြံ့ခိုင် ပွားစည်ရပေ၏'

'အရှင်ဘုရား၊ ဘုရားရှင်အား အမြဲမပြတ် ပြုစုလုပ်ကျွေးနေရသော နတ်တို့သည် အရ တော်လေစွတကား။ အရှင်ဘုရား၊ ကောင်းလှပေ၏'

[ဝေရဉ္ဇာမြို့၌ ဝါကပ်ရန် လျှောက်ထားသူကား ဝေရဉ္ဇာမြို့ကို အပိုင်စားရသော ဝေရဉ္ဇာ ပုဏ္ဏားကြီးပင် ဖြစ်၏။ ဘုရားရှင်နှင့် ရဟန်းများ ဝါကပ်ပြီးချိန်တွင်ကား မရ်နတ်က ရွာသူရွာသား အားလုံး၏ သဒ္ဓါတရားကို ပိတ်ပင်တားစီးထားသဖြင့် မြင်းစာဖြစ်သော မုယောဆန်မှုန့်ကို ဘုဉ်းပေးကြရ၏။ ဝါကျွတ်သောအခါတွင်ကား မာရ်နတ်၏ အနှောင့်အယှက်မှ ကင်းလွတ်ပြီ ဖြစ်၍ ဝေရဉ္ဇာပုဏ္ဏားကြီးသည် ဘုရားရှင်နှင့်တကွ ဝါဆိုခဲ့သော ရဟန်းတို့အား အလှူပွဲကြီးခမ်းနားစွာ ကျင်းပလှူဒါန်းပေ၏။]

## ၁၀။ ဘုရားရှင်သည် တရားမဟောရန် အဘယ့်ကြောင့် စိတ်ညွတ်သနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားရှင်သည် များစွာသောလူအပေါင်းကို သံသရာဝဋ်ဆင်းရဲမှ ကယ်ထုတ်တော်မူခြင်းငှာ သဗ္ဗညုတဉာဏ်တော်ကို ရခြင်းအတွက် လေးအသင်္ချေနှင့်ကမ္ဘာတစ်သိန်း ပတ်လုံး ပါရမီဖြည့်တော်မူခဲ့၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုခဲ့ကြပါ၏။ ထိုမှတစ်ဖန် ဘုရား အဖြစ်သို့ ရောက်တော်မူခါစအချိန်တွင်ဘုရားရှင်၏စိတ်တော်သည် တရားဟောခြင်းငှာ ညွတ်တော် မမူပေ ဟူ၍လည်း အရှင်ဘုရားတို့ မိန့်ဆိုကြပြန်ပါ၏။

'အရှင်ဘုရား၊ ဥပမာအားဖြင့် လေးသမားသည် လည်းကောင်း၊ လေးသမား၏တပည့် သည်လည်းကောင်း ရက်ပေါင်းများစွာ စစ်တိုက်ခြင်း အလို့ငှာ မြားပစ်လေ့ကျင့်ပြီးလျှင် စစ်ပွဲကြီး ဖြစ်လာခါမှ ဆုတ်နစ်လေရာ၏။ ဤအတူပင် ဘုရားရှင်သည် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းတို့ ပတ်လုံး ပါရမီဖြည့်ကာ ဘုရားအဖြစ်သို့ ရောက်တော်မူခါမှ တရားဟောရန် ဆုတ်နစ်တော် မူဘိ၏။

'အရှင်ဘုရား၊ မည်သို့ပါနည်း။ ဘုရားရှင်သည် ကြောက်သောကြောင့် ဆုတ်နစ်တော် မူပါသလော။ ဒေသနာဉာဏ်တော် မပေါ်လွင်သောကြောင့် ဆုတ်နစ်တော်မူပါသလော။ ကိုယ်အား ဉာဏ်အား နည်းပါးသောကြောင့် ဆုတ်နစ်တော်မူပါသလော။ အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့ တွင် အကယ်၍ ရှေ့စကားသည် မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ ဘုရားအဖြစ်သို့ ရောက်တော်မူခါစအချိန်၌ တရားဟောရန် စိတ်ညွတ်တော်မမူခြင်းမှာ တရားတော်၏ နက်နဲသောသဘော၊ သိမ်မွေ့သော သဘော၊ မြင်နိုင်ခဲသောသဘော၊ သိနိုင်ခဲသော သဘော၊ နူးညံ့သောသဘော၊ ထိုးထွင်း၍ သိနိုင်ခဲသော သဘောကို ရှုမြင်သုံးသပ်တော်မူမိ၍လည်းကောင်း၊ သတ္တဝါတို့၏ တဏှာ၌ ပျော်ပိုက်သော သဘော၊ ငါဟူသော သက္ကာယဒိဋ္ဌိဖြင့် စွဲမြဲစွာ ယူနေကြသော သဘောကိုလည်းကောင်း ရှုမြင်သုံးသပ်တော်မူ၍ မည်သို့ဟောရပါအံ့နည်း၊ အဘယ်အကြောင်းဖြင့် ဟောရပါအံ့နည်းဟု စူးစမ်းတော် မူလိုသောကြောင့် ဖြစ်ပေ၏။ လျင်လျင်မြန်မြန် တရားဟောကြားရန် စိတ်ညွတ်တော် မမူပေ။ ဤသို့ စိတ်ညွတ်တော် မမူခြင်းမှာလည်း သတ္တဝါတို့ တရားသိလာနိုင်မည့် နည်းလမ်းကို ကြံစည်သောစိတ် ဖြစ်ရုံမျှသာတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် ရောဂါကို ပယ်ထုတ်နိုင်စွမ်းရှိသော ဆေးဆရာသည် အနာရောဂါ မြောက်မြားစွာ ခံစားနေရသော လူနာထံသို့ချဉ်းကပ်၍ အဘယ်သို့သော ကုသခြင်း၊ အဘယ်သို့သာ ဆေးဝါးဖြင့် ရောဂါပျောက်အောင် ကုသရပါမည်နည်းဟု ကြံစည်၏။ ဤ အတူသာပင် ဘုရားရှင်သည် သတ္တဝါတို့ တရားသိလာနိုင်မည့် နည်းလမ်းကို ကြံစည်သောစိတ် ဖြစ်ရုံမျှသာတည်း။

'မင်းမြတ်၊ အကြောင်းတစ်ပါးသော်ကား– အလုံးစုံသော ဘုရားရှင်တို့သည် သဟမ္ပတိ ဗြဟ္မာကြီး တောင်းပန်လာခါမှ တရားဟောတော်မူကြခြင်းမှာ ဓမ္မတာပေတည်း။ ဤလောကရှိ ရသေ့၊ ပရိဗိုဇ်၊ ရဟန်း၊ ပုဏ္ဏားတို့သည် ဗြဟ္မာကြီးများကို ကိုးကွယ်ကြကုန်၏။ အလေးအမြတ် ပြုကြကုန်၏။ ဥပမာအားဖြင့် ပြည့်ရှင်မင်းနှင့် အမတ်ကြီးတို့က ဦးညွတ်နိမ့်ချခြင်း၊ အရိုအသေ ပြုခြင်းကို ခံယူရသော လူတစ်ယောက်အား လူအပေါင်းတို့က ဦးညွတ်နိမ့်ချ ကြရကုန်၏။ အရိုအသေ ပြုကြကုန်၏။ ဤအတူသာပင် ထင်ရှားကျော်ကြား၍ အလွန်တရာ မြင့်မြတ်လှစွာသော ဗြဟ္မာကြီးက ဦးညွတ်ရှိခိုးလာသဖြင့် နတ်လူအများတို့ကလည်း ဦးညွတ်ရှိခိုး ကြရကုန်လတ္တံ့။ သက်ဝင်ယုံကြည်ကြရကုန်လတ္တံ့။ စိတ်ဝင်စား ကြရကုန်လတ္တံ့။ ဤသို့သော အကြောင်းကြောင့် လည်း ဘုရားရှင်တို့သည် ဗြဟ္မာကြီး တောင်းပန်မှ တရားဟောတော် မူကြပေကုန်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ကျွမ်းရင်း၌ မိလိန္ဒမင်းက ရက်ပေါင်းများစွာ လေ့ကျင့်ပြီးလျှင် ပွဲရက်ကျခါမှ နောက်ဆုတ်သွားသော လက်ဝှေ့သမားကို ဥပမာပြုသေး၏။ အရှင်နာဂသေနက အဘိဘိက်သွန်းပြီးခါစ ပြည့်ရှင်မင်းသည် မိမိထံ ခစားနေကြသော သူအပေါင်းအား ချီးမြှောက်ရန် စဉ်းစားနေပုံတို့ကိုလည်း ဥပမာ ပြုသေး၏။]

## ၁၁။ ဘုရားရှင်မှာ ဆရာရှိသလော

'အရှင်နာဂသေနဘုရား၊ နတ်နှင့်တကွသော လောက၌ ငါဘုရားမှာ ဆရာမရှိ။ ငါနှင့်တူမျှသောသူမရှိ။ ငါနှင့်ဖက်ပြိုင်နိုင်သောသူမရှိဟူ၍ ဘုရားရှင်ဟောကြားတော်မူခဲ့၏။ ထိုမှတစ်ပါးရဟန်းတို့ ဤသို့လျှင် ကာလာမ၏သားဖြစ်သော အာဠာရ ရသေ့သည် ငါ၏ဆရာဖြစ်လျက် တပည့်ဖြစ်သော ငါ့ကို မိမိနှင့်ထပ်တူထပ်မျှထား၏။ မွန်မြတ်သော ပူဇော်ခြင်းဖြင့်လည်း ပူဇော်၏ ဟူ၍လည်း ဘုရားရှင် ဟောကြားတော် မူပြန်ပါ၏။

'အရှင်ဘုရား၊ ထိုစကားနှစ်ရပ်တို့တွင် အကယ်၍ ရှေ့စကားသည်မှန်ခဲ့ငြားအံ့။ နောက်စကားသည် မှားပေရာ၏။ အကယ်၍ နောက်စကားသည် မှန်ခဲ့ငြားအံ့။ ရှေ့စကားသည် မှားပေရာ၏။ အစွန်းနှစ်ဖက်ထွက်၍နေသော ဤပြဿနာသည် အရှင်ဘုရားထံ ကပ်ရောက်လာ၏။ ဤ ပြဿနာကို ဖြေရှင်းတော်မူပါလော့'

'မင်းမြတ်၊ စကားနှစ်ရပ်လုံးပင် မှန်ကန်ပေ၏။ သစ္စာလေးပါးကို သိမြင်၍ ဘုရားဖြစ်တော်မူပြီးသော အချိန်၌ ဆရာမရှိတော့သည်ကို ရည်ရွယ်၍ ရှေ့စကားကို ဟောကြားတော်မူ၏။ သစ္စာလေးပါး မသိသေးမီ၊ ဘုရားမဖြစ်သေးမီက ဆရာရှိသည်ကို ရည်ရွယ်၍ နောက်စကား ဟောကြားတော်မူ၏။

'မင်းမြတ်၊ သစ္စာလေးပါးသိမြင်သော ဘုရားဖြစ်တော်မမူမီက ဘုရားလောင်းကို ဆုံးမသင်ကြားခဲ့သော ဆရာတို့ကား ငါးဦးတို့ပေတည်း။

၁။ 'ဘုရားလောင်း ဖွားတော်မူခါစအချိန်၌ ရာမ,ဓဇ, လက္ခဏ, မန္တီ,ယည, သုယာမ, သုဘောဇ, သုဒတ္တဟူသော ပုဏ္ဏားခြောက်ယောက်တို့သည် ဘုရားလောင်း၏ လက္ခဏာများကို ဖိတ်ကြားကာ ဘုရားလောင်း၏ ချမ်းသာကြောင်းကို ကြားလျှောက်ခြင်းဖြင့် စောင့်ရှောက်ကြကုန်၏။ ထိုပုဏ္ဏားတို့ကား ပထမဆရာတို့ပေတည်း။

၂။ 'အလောင်းတော်မင်းသား ပညာသင်ကြားရန် အရွယ်ရောက်လတ်သော် ခမည်းတော်သုဒ္ဓေါဒန မင်းကြီးသည် ဥဒိစ္စပုဏ္ဏားမျိုးဖြစ်၍ ကျမ်းဂန်စာပေ တတ်မြောက်သော သဗ္ဗမိတ္တမည်သော ပုဏ္ဏားကို ပင့်ဆောင်ကာ ဤမင်းသားအား အတတ်ပညာ သင်ပေးပါလော့ဟူ၍ ရွှေကရားဖြင့် ရေသွန်းလောင်း၍ အပ်နှင်း၏။ ဤပုဏ္ဏားကား ဒုတိယဆရာပေတည်း။

၃။ 'နတ်သားတစ်ပါးသည် ထိတ်လန့်အောင် ပြောဆိုသဖြင့် ဘုရားလောင်းသည် ထိုညမှာပင် တောထွက်ခဲ့၏။ ဤနတ်သားကား တတိယဆရာပေတည်း။

၄။ 'ကာလာမ၏ သားဖြစ်သော အာဠာရ ရသေ့သည် အာကိဉ္စညာယတနစျာန်၏ ပရိကံကို ပြောကြား၏။ ဤရသေ့သည် စတုတ္ထ ဆရာပေတည်း။

၅။ 'ရာမ၏သားဖြစ်သော ဥဒကရသေ့သည် နေဝသညာနာသညာ ယတနစျာန်၏ ပရိကံကို ပြောကြား၏။ ဤရသေ့သည်ကား ပဥ္စမဆရာပေတည်း။

'မင်းမြတ်၊ ဤငါးယောက်သော ဆရာတို့ကား သစ္စာလေးပါးထင်ရှားမသိသေးမီ ဘုရားလောင်းဘဝမှာရှိနေစဉ်က ဆရာတို့ပေတည်း။ လောကီရေးရာ၌ သင်ကြားပြသခဲ့သော ဆရာတို့ပေတည်း။ လောကုတ္တရာရေးရာ၌ကား သဗ္ဗညုတဉာဏ်တော်ကို ရရှိအောင် ဘုရားလောင်းအား ဆုံးမသင်ကြားနိုင်သူ မရှိပေ။ သစ္စာလေးပါးတရားတော်တို့ ဆရာမရှိ မိမိအလိုလို သိမြင်ကာ ဘုရားအဖြစ်သို့ ရောက်တော်မူ၏။ ထို့ကြောင့် ရှေးစကားကို ဘုရားရှင် ဟောကြားတော်မူပေ၏'

'အရှင်ဘုရား ကောင်းမြတ်လှပါပေ၏'

[လက္ခဏာဖတ်သော ပုဏ္ဏားရှစ်ဦးလုံးကို တစ်ဦးတည်းဟု ပေါင်းယူထား၏။ ပထမ၊ ဒုတိယ၊ တတိယဆရာတို့ အကြောင်းကို အခြားကျမ်းဂန်များ၌ တွေ့ရခဲ၏။ တတိယ ဆရာ၏ ပြောဆိုပုံကို အနုမာနပဥှာ၊ ဝေဿန္တရာဝင်၊ အမှတ် ၂ ပြဿနာ၌ တွေ့ရလတ္တံ့။]

❁ ❁ ❁



# အခန်း ၅

# အနုမာနပညာ

လူတို့သည် ကောင်းမှုကုသိုလ်ပြုလုပ်ရာ၌ အမျှဝေနိုင်ပြီး မကောင်းမှု အကုသိုလ် ပြုလုပ်ရာ၌ အမျှ မဝေနိုင်သည်မှာ အဘယ့်ကြောင့်နည်း။ ကောင်းမှုကုသိုလ် ပြုလုပ်သူသည် လွန်စွာ ရွှင်ပျနစ်သက် ကြည်လင်ခြင်းကြောင့် ကုသိုလ်မှုသည် ပျံ့နှံ့တိုးပွားကာ စွမ်းအားကြီးမား၏။ သည်းထန်သော မိုးကြီးသည် မြစ်ချောင်းအင်းအိုင်များသို့တိုင်အောင် ပျံ့နှံ့ကာ ပြည့်လျှံစေ သကဲ့သို့တည်း။ မကောင်းမှု အကုသိုလ် ပြုလုပ်သူသည် ကြည်လင် ရွှင်ပျခြင်းမရှိ။ စိုးရိမ်ခြင်း နှလုံးမသာယာခြင်းတို့ဖြင့် ဆုတ်နစ်ဖိစီးခံရ၍ ပျံ့နှံ့တိုးပွားခြင်းမရှိ။ မိုးသေးမိုးဖွဲ သက်ကျရောက်ရာ ဒေသ၌ပင် အရှိန်သေ တန့်ရပ်ပြီး အခြားဒေသသို့ မစီးဆင်းနိုင် သကဲ့သို့တည်း။




## ၁။ ဘုရားနှစ်ဆူတို့သည် အဘယ့်ကြောင့် တစ်ပြိုင်နက် မပွင့်ကြသနည်း

'အရှင်နာဂသေနဘုရား၊ ရဟန်းတို့၊ တစ်ခုသော လောကဓာတ်၌ ပူဇော်အထူးကို ခံယူတော်မူထိုက်ကုန်သော ဘုရားနှစ်ဆူတို့သည် မရှေးမနှောင်း တစ်ပြိုင်နက် ပွင့်နိုင်ကုန်သော အကြောင်း အခွင့် မရှိနိုင်ဟူ၍ ဘုရားရှင် ဟောကြားတော်မူခဲ့၏။

'အရှင်ဘုရား၊ အလုံးစုံသော ဘုရားရှင်တို့သည် ဗောဓိပက္ခိယ တရားသုံးဆယ့်ခုနစ်ပါးကို ဟောကြားတော်မူကုန်၏။ အရိယသစ္စာလေးပါးကို ပြကြားတော်မူကုန်၏။ သိက္ခာသုံးပါးတို့၌ ကျင့်စေတော်မူကုန်၏။ ကုသိုလ်ကောင်းမှု၌ မမေ့လျော့ရန် ဆုံးမတော်မူကုန်၏။ အလုံးစုံသော ဘုရားရှင်တို့၏ တရားဒေသနာ ပြကြားချက် အကျင့်သိက္ခာနှင့် အဆုံးအမတို့သည် တစ်မျိုးတည်းသာ ဖြစ်ကြပါလျက် အဘယ့်ကြောင့် တစ်ပြိုင်နက် ဘုရားနှစ်ဆူ ပွင့်တော်မမူကြပါသနည်း။ ဘုရား တစ်ဆူတည်းသာ ပွင့်တော်မူခြင်းဖြင့်ပင် လောကသည် တရားအရောင် တောက်ပြောင် ထွန်းလင်းပါသေး၏။ ဒုတိယမြောက် ဘုရားတစ်ဆူသာ ထပ်၍ပွင့်တော်မူပါသော် ဤလောကသည် အတိုင်းထက် အလွန် တရားအရောင် တောက်ပြောင် ထွန်းလင်းပါလတ္တံ့။ နှစ်ဆူသော ဘုရားရှင်တို့သည် သတ္တဝါအပေါင်းအား ချမ်းမြေ့စွာပင် ဆုံးမသွန်သင်တော် မူကြပါကုန်လတ္တံ့။ ဤသို့ဖြစ်ပါလျက် အဘယ့်ကြောင့် တစ်ပြိုင်နက် ဘုရားနှစ်ဆူ ပွင့်တော်မမူကြပါသနည်း။ တပည့်တော်အား ယုံမှားကင်းအောင် အကြောင်းပြ၍ ပြကြားတော်မူပါဘုရား'

'မင်းမြတ်၊ ဥပမာအားဖြင့် လှေငယ်တစ်စင်းသည် ယောကျ်ားတစ်ယောက်ကိုသာ တင်နိုင်ရာ၏။ ထိုယောကျ်ားတစ်ယောက် တက်စီးလိုက်သောအခါ လှေငယ်၏ နံထောင်နှစ်ဖက်တို့သည် ရေပြင်နှင့်အညီ ရှိနေကြကုန်၏။ အကယ်၍ ထိုယောကျ်ားနှင့်သက်တူရွယ်တူ၊ လုံးတူရပ်တူ ယောကျ်ားတစ်ယောက်သည် ထိုလှေပေါ်သို့ တက်စီးလိုက်ငြားအံ့။ ထိုလှေသည် ထိုယောကျ်ား နှစ်ယောက်လုံးကိုပင် တင်ဆောင်နိုင်မည်လော'

'အရှင်ဘုရား၊ မတင်ဆောင်နိုင်ပါ။ နစ်မြုပ်၍ သွားပါလိမ့်မည်'

'မင်းမြတ်၊ ဤအတူသာပင်၊ ဤတစ်သောင်းသော လောကဓာတ်သည် ဘုရားရှင်တစ်ဆူ၏ ကျေးဇူးကိုသာ ဆောင်နိုင်၏။ အကယ်၍နောက်ထပ် ဘုရားတစ်ဆူ ပွင့်တော်မူလိုက်ငြားအံ့။ ဤတစ်သောင်းသော လောကဓာတ်သည် မဆောင်နိုင်ရာ။ တုန်လှုပ်ရာ၏။ နက်ရှိုင်းသွားရာ၏။ ညွတ်ကိုင်းသွားရာ၏။ ယိမ်းယိုင်သွားရာ၏။ ဖရိုဖရဲ လွင့်ကျဲ ပျက်စီးသွားရာ၏။ မိမိနေရာ၌ ရပ်တည်မနေနိုင်ရာပေ'

'အရှင်ဘုရား၊ မည်သို့ပါနည်း။ တရားတည်းဟူသော ဝန်ချိန်က လေးလံလွန်းသဖြင့် တစ်သောင်းသော လောကဓာတ်သည် တုန်လှုပ်ရပါသလော'

'မင်းမြတ် ဥပမာအားဖြင့် ဤလောက၌ လှည်းနှစ်စီးနှင့်အပြည့် ရတနာပစ္စည်းများ တင်ထားငြားအံ့။ ထိုတွင် လှည်းတစ်စီးပေါ်မှ ရတနာပစ္စည်းများကို အခြားလှည်းတစ်စီးပေါ်သို့ တင်ပေးငြားအံ့။ ထိုလှည်းသည် ဆောင်နိုင်ပါမည်လော'

'အရှင်ဘုရား၊ မဆောင်နိုင်ပါ။ ထိုလှည်း၏ ပုံတောင်းတို့သည်လည်း ကွဲကုန်ရာ၏။ ဒေါက်တို့သည်လည်း ကျိုးကုန်ရာ၏။ တံကူတို့သည်လည်း ကျွတ်ထွက်ကုန်ရာ၏။ ဝင်ရိုးသည်လည်း ကျိုးလေရာ၏။

'မင်းမြတ်၊ များလွန်းလှသော ရတနာပစ္စည်းဟူသော ဝန်ချိန်ကြောင့် လှည်းကျိုးရပါသလော'

'အရှင်ဘုရား၊ ဟုတ်ပါပေ၏'

'မင်းမြတ်၊ ဤအတူသာပင် လွန်ကဲသော တရားတည်းဟူသော ဝန်ချိန်ကြောင့် မြေကြီး တုန်လှုပ်ရပေ၏'

'မင်းမြတ်၊ ထိုမှတစ်ပါးလည်း ဘုရားရှင်တို့၏ တန်ခိုးအာနုဘော်ကို ပြဆိုခြင်းငှာ ဤအကြောင်းကိုလည်း ထည့်သွင်းပြောဆိုသင့်၏။ ဟစ်ပြိုင်နက် ဘုရားနှစ်ဆူ ပွင့်တော်မမူကြခြင်း၏ အခြားအကြောင်းတစ်ခုကို နာဦးလော့။ မင်းမြတ်၊ ဥပမာအားဖြင့် သြဇာတိက္ကမ ကြီးမားကုန်သော အမတ်ကြီးနှစ်ယောက်တို့၏ ပရိသတ်တို့၌ သင်တို့၏အမတ်ကြီး၊ ငါတို့၏ အမတ်ကြီးဟု အငြင်းအခုံဖြစ်ပွားကာ နှစ်သင်းနှစ်ဖွဲ့ ဖြစ်လာကုန်ရာ၏။ ဤအတူသာပင် အကယ်၍ တစ်ပြိုင်နက် ဘုရားနှစ်ဆူ ပွင့်တော်မူငြားအံ့။ သင်တို့၏ဘုရား၊ ငါတို့၏ဘုရားဟူ၍ အငြင်းအခုံ ဖြစ်ပွားကာ နှစ်သင်းနှစ်ဖွဲ့ ဖြစ်လာကုန်ရာ၏။ ဤကား ရှေးဦးစွာအကြောင်းတည်း။

'မင်းမြတ်၊ နောက်တစ်ကြောင်းကိုလည်း နာဦးလော့။ အကယ်၍ တစ်ပြိုင်နက် ဘုရားနှစ်ဆူ တို့ ပွင့်တော်မူကုန်ငြားအံ့။ ဘုရားရှင်သည် အမြတ်ဆုံး၊ ဘုရားရှင်သည် အကြီးဆုံး၊ ဘုရားရှင်သည် အလွန်ချီးမွမ်းထိုက်၏။ ဘုရားရှင်သည် ထူးခြား၏။ ဘုရားရှင်သည် သာလွန်မြင့်မြတ်၏။ ဘုရားရှင်သည် အတုမရှိ၊ ဘုရားရှင်သည် ရှေးဘုရားတို့နှင့်သာ တူတော်မူ၏။ ဘုရားရှင်အား ယှဉ်ပြိုင်နိုင်သူ မရှိဟူသော စကားသည် မှားပေကုန်ရာ၏။

'မင်းမြတ်၊ နောက်တစ်ကြောင်းကိုလည်း နာဦးလော့။ သဗ္ဗညုတ ဉာဏ်တော်ကြီးကို ရရှိတော်မူကြကုန်သော ဘုရားရှင်တို့၏ ဂုဏ်တော်၊ ကျေးဇူးတော်တို့ ကြီးမြတ်သည်၏ အဖြစ်ကြောင့် ဤလောက၌ ဘုရားတစ်ဆူသာ ပွင့်တော်မူ၏။ ဤသို့တစ်ဆူတည်းသာ ပွင့်တော်မူခြင်းသည် အလုံးစုံသော ဘုရားရှင်တို့၏ ပကတိ သဘောပေတည်း။

'မင်းမြတ်၊ ဘုရားရှင်မှတစ်ပါး အခြားကြီးကျယ်သော အရာဝတ္ထုတို့သည်လည်း အပြိုင်မရှိ၊ တစ်ခုတည်းသာ တည်ရှိကြကုန်၏။ မြေကြီး၊ မဟာသမုဒ္ဒရာ၊ မြင်းမိုရ်တောင်နှင့် ကောင်းကင်တို့သည် တစ်ခုတည်းသာ ရှိကြကုန်၏။ သိကြားမင်း၊ မာရ်နတ်မင်းနှင့် မဟာဗြဟ္မာတို့သည်လည်း တစ်ဦးတည်းသာ ရှိကြကုန်၏။ ဤအတူသာပင် ပူဇော်အထူးကို ခံယူတော်မူထိုက်သော ဘုရားရှင်သည်လည်း ကြီးကျယ် မြင့်မြတ်သည်ဖြစ်၍ တစ်ဆူတည်းသာ ပွင့်တော်မူ၏။ တစ်သောင်းသော လောကဓာတ် အတွင်း၌ နောက်ထပ်တစ်ဆူ ပွင့်ပေါ်လာခွင့်မရှိချေ'

'အရှင်ဘုရား ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ ဤလောကဓာတ်သည် ဘုရားနှစ်ဆူ၏ ဂုဏ်ကျေးဇူးကို မခံနိုင်ပုံကို လည်မျိုဆိုက်အောင် အစာ စားထားပြီးသော ယောကျ်ားသည် နောက်ထပ် တစ်ဖန် စားသောက်ပြန်သော် ဘေးသင့်နိုင်ပုံဖြင့်လည်း ဥပမာ ပြုသေး၏။

## ၂။ ဘုရားနှင့်သံဃာ မည်သူတမြတ်သနည်း

'အရှင်နာဂသေနဘုရား၊ မိထွေးတော် မဟာ ပဇာပတိ ဂေါတမီသည် ကိုယ်တိုင် ဝါဖန်၍၊ ကိုယ်တိုင် ဝါကြိတ်၍၊ ကိုယ်တိုင် ဝါဖတ်၍၊ ကိုယ်တိုင် ချည်ငင်၍၊ ကိုယ်တိုင် ရက်ကန်းရက်၍ ယူခဲ့သော မိုးရေခံသင်္ကန်းကို ဘုရားရှင်အား လှူဒါန်းသောအခါ ဘုရားရှင်က ဂေါတမီ၊ သင်သည် သံဃာအားလှူပါလော့။ သံဃာအား လှူဒါန်းသည်ရှိသော် ငါဘုရားကိုလည်းကောင်း၊ သံဃာကို လည်းကောင်း ပူဇော်ပြီးဖြစ်လတ္တံ့ဟု မိန့်ကြားတော်မူခဲ့၏။

'အရှင်ဘုရား မည်သို့ပါနည်း။ ဤသို့ မိန့်ကြားတော်မူခြင်းမှာ ဘုရားရှင်သည် သံဃာရတနာထက် မလေးစားထိုက်သောကြောင့်လော့။ အလေးအမြတ် မပြုထိုက်သောကြောင့်ပေလော။ မြတ်သော အလှူကို မခံယူထိုက်၍ပေလော။ အကယ်၍ ဘုရားရှင်သည် သံဃာထက် လွန်မြတ်သည် ဖြစ်ငြားအံ့။ ထူးခြားသည်ဖြစ်ငြားအံ့။ ငါ့အား လှူဒါန်းသော် အကျိုးကြီးစွာရ လတ္တံ့ဟု နှလုံးသွင်းတော်မူငြားအံ့။ ဘုရားရှင်သည် မိထွေးတော် ဂေါတမီ ဆက်ကပ်သော မိုးရေခံ သင်္ကန်းကို သံဃာအားလှူဒါန်းရန် မိန့်ကြားတော် မမူပေရာ။ ဘုရားရှင်သည် မိထွေးတော် ဂေါတမီ ဆက်ကပ်သော သင်္ကန်းကို သံဃာအား လှူစေသောကြောင့် ဘုရားရှင်သည် မိမိကိုယ်ကို မြတ်နိုးတော် မမူချေတကား။ အားကြီးသောမှီခိုရာ ပြုတော်မမူချေတကား'

'မင်းမြတ်၊ ဘုရားရှင်က ဤသို့ မိန့်ကြားတော်မူခြင်းမှာ မိမိအား ကြည်ညိုမြတ်နိုးလျှင် အကျိုးမရှိသောကြောင့် မဟုတ်ချေ။ မြတ်သောအလှူကို မခံယူထိုက်သောကြောင့်လည်း မဟုတ်ချေ။ စင်စစ်အားဖြင့် နောင်လာနောက်သားတို့၏ အစီးအပွားအလို့ငှာ၊ အစောင့်အရှောက် အလို့ငှာ၊ ဘုရားရှင် ပရိနိဗ္ဗာန် စံဝင်တော်မူပြီးနောက် သံဃာအား ရိုသေလေးမြတ်စွာ ဆည်းကပ်ကိုးကွယ်ကြစေရန် မိန့်ကြားတော်မူခြင်းသာ ဖြစ်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ခမည်းတော် ပြည့်ရှင်မင်းကြီးသည် မိမိနတ်ရွာစံသော် မိမိ၏သားတော်အား တိုင်းသူပြည်သားတို့က ရိုသေလေးစား၍ နေရစ်ကြစေရန် ပရိသတ် ဗိုလ်ပုံစုံလင်စွာ တက်ရောက်သော ညီလာခံ၌ သားတော်၏ဂုဏ်ကျေးဇူးများကို ထုတ်ဖော်ချီးကျူး၏။ ဤအတူသာပင် ဘုရားရှင်သည်လည်း မိမိ ပရိနိဗ္ဗာန် စံဝင်တော်မူပြီးနောက် သံဃာအား ရိုသေလေးမြတ်စွာ ဆည်းကပ်ကိုးကွယ်နေရစ်စေရန် မိန့်ကြားတော်မူ၏။

'မင်းမြတ်၊ ဤသို့ မိန့်ကြားတော်မူကာမျှဖြင့် သံဃာသည် ဘုရားရှင်ထက် မြင့်မြတ်မသွားနိုင်ပေ။ ဥပမာအားဖြင့် မိဘတို့သည် သားသမီးတို့ကို နံ့သာဖြင့်ပွတ်သပ်ပေးကုန်၏။ ဆီဖြင့် ဆုပ်နယ်ပေးကုန်၏။ နံ့သာဖြင့် ရေချိုးပေးကုန်၏။ လက်ရုံးများကြီးထွားသန်မာစေရန် ထုရိုက်၍ ပေးကြကုန်၏။ ဤသို့ ခြေဆုပ်လက်နယ် ပြုစုပေးကာမျှဖြင့် သားသမီးတို့သည် မိဘတို့ထက် သာလွန်ကြပါသလော။ ထူးချွန်ကြပါသလော'

'အရှင်ဘုရား၊ မသာလွန်နိုင်ပါ၊ မထူးချွန်နိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် မိုးရေခံသင်္ကန်းကို သံဃာအား လှူစေကာမျှဖြင့် သံဃာသည် ဘုရားရှင်ထက် မသာလွန်နိုင်ပေ။ မထူးချွန်နိုင်ပေ။

''မင်းမြတ်၊ ထိုမှတစ်ပါးလည်း သံဃာသည် ပူဇော်အပ်သော ဂုဏ်ထူးရှိပေ၏။ ငါဘုရား၏ ပစ္စည်းဖြင့် သံဃာကို ပူဇော်ပေအံ့ဟူ၍ ဘုရားရှင် ကြံစည်တော်မူ၍လည်း မိုးရေခံသင်္ကန်းကို သံဃာအား ပေးလှူစေ၏။ ဘုရားရှင်သည် မိမိအား ပူဇော်ခြင်းကိုသာ ချီးကျူးတော်မူသည် မဟုတ်ပေ။ ပူဇော်ထိုက်သူတို့အား ပူဇော်ခြင်းကိုလည်း ချီးကျူးတော်မူပေ၏။ မဇ္ဈိမနိကာယ်၊ ဓမ္မဒါယာဒသုတ် ဒေသနာတော်၌ အလိုနည်းသောအကျင့်ကို ချီးကျူးတော် မူသည်ဖြစ်၍ စားကြွင်းကို မစားမူ၍ တရားအားထုတ်သော ရှေးဦးရဟန်းကို အထူးသဖြင့်လည်း ပူဇော်အပ်၏။ အလွန်တရာလည်း ချီးကျူးအပ်၏ဟု ဘုရားရှင် မိန့်ကြားတော်မူပေ၏။

'မင်းမြတ် ဘုံသုံးပါးတို့၌ ဘုရားရှင်ထက် သာလွန်သော၊ ဘုရားရှင်ထက် ထူးချွန်သော အလှူခံပုဂ္ဂိုလ်ဟူ၍လည်း မရှိချေ။ ဘုရားရှင်သည်သာလျှင် အသာလွန်ဆုံး၊ အထူးချွန်ဆုံး ဖြစ်တော်မူ၏။ သံယုတ္တနိကာယ်၌ မာဏဝဂါမိက မည်သော နတ်သားသည် နတ်တို့အလယ်၌ ရပ်လျက် -

'ရာဇဂြိုဟ်မြို့တော်၌ တောင်ငါးလုံးတွင် ဝိပုလတောင်ကို အမြင့်ဆုံးဟု ဆိုအပ်၏။ ဟိမဝန္တာရှိ တောင်အားလုံးတို့တွင် ကေလာသတောင်ကို အမြတ်ဆုံးဟု ဆိုအပ်၏။ ကောင်းကင်၌ သွားနေကြသော ကြယ်တာရာအားလုံးတို့တွင် နေမင်းကို အမြတ်ဆုံးဟု ဆိုအပ်၏။

'မြစ်အပေါင်းတို့တွင် သမုဒ္ဒရာကို အမြတ်ဆုံးဟု ဆိုအပ်၏။ နက္ခတ်အပေါင်းတို့တွင် လကိုအမြတ်ဆုံးဟု ဆိုအပ်၏။ နတ်နှင့်တကွသော လူအပေါင်းတွင် ဘုရားရှင်ကို အမြတ်ဆုံးဟူ၍ ဆိုအပ်၏'ဟု ချီးကျူးစကား လျှောက်ထားခဲ့၏။

'မင်းမြတ်၊ တရားစစ်သူကြီး ဖြစ်တော်မူသော အရှင်သာရိပုတ္တရာသည်လည်း–

မာရ်စစ်သည် အပေါင်းကို ပယ်ရှားတော်မူပြီးသော ဘုရားရှင်၌ တစ်ကြိမ် တစ်ခါမျှ စိတ်ထဲမှ ကြည်ညိုခြင်းသည် လည်းကောင်း၊ သရဏဂုံ ဆောက်တည်ခြင်းသည် လည်းကောင်း၊ လက်အုပ်ချီမိုး ရှိခိုးခြင်းသည် လည်းကောင်း ထိုသူအား အပယ်လေးပါးသို့ မကျရောက်ရအောင် စောင့်ရှောက် ကယ်တင်နိုင်စွမ်းရှိပေ၏ဟု ဟောကြားတော်မူခဲ့၏။

'မင်းမြတ်၊ နတ်တကာတို့ထက် လွန်မြတ်၍ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်ကလည်း–

ရဟန်းတို့၊ လောက၌ တစ်ဦးသောပုဂ္ဂိုလ်သည် လူများစွာတို့၏ အစီးအပွား အလို့ငှာ၊ ချမ်းသာခြင်းငှာ၊ လူအပေါင်းအား အစဉ်စောင့်ရှောက်ခြင်းငှာ၊ နတ်တို့၏အကျိုးငှာ၊ စီးပွား ချမ်းသာ အလို့ငှာ ဖြစ်ပေါ်လာပေ၏။ ထိုပုဂ္ဂိုလ်သည် အဘယ်သူနည်း ဟူမူကား– ပူဇော် အထူးကို ခံတော်မူထိုက်သော ၊ သစ္စာလေးတန် တရားမှန်ကို ကိုယ်တော်တိုင် သိမြင်တော်မူပေသော ဘုရားရှင်တည်းဟု ဟောကြားတော် မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ သံဃာက ဘုရားထက် မမြတ်ပုံကို ပြည့်ရှင်မင်းက မိမိထံ ဆက်သလာသော လက်ဆောင်ကို တစ်ဆင့်ချီးမြှောက်ခြင်း ခံရသော အမှုထမ်းများနှင့်လည်း ဥပမာ ပြုသေး၏။]

## ၃။ ရဟန်းနှင့်လူ မည်သူကမြတ်သနည်း

'အရှင်နာဂသေနဘုရား၊ လူ၏ လည်းကောင်း၊ ရဟန်း၏ လည်းကောင်း ကောင်းမွန်စွာ ကျင့်ခြင်းကို ငါဘုရား ချီးမွမ်း၏။ ရဟန်းတို့ လူဖြစ်စေ၊ ရဟန်းဖြစ်စေ ကောင်းမွန်စွာ ကျင့်ခဲ့သည်ရှိသော် ကောင်းစွာကျင့်ခြင်းဟူသော အကြောင်းကြောင့် မဂ်ကုသိုလ်တရားတို့ကို ပြီးစီးစေနိုင်၏ဟု ဘုရားရှင် ဟောတော်မူ၏။

'အရှင်ဘုရား၊ လူသည် အဝတ်ဖြူ ဝတ်ဆင်လျက်၊ ကာမဂုဏ်ခံစားလျက်၊ သားမယားတို့ဖြင့် ကျဉ်းမြောင်းစွာ အိမ်ရာတည်ထောင်လျက်၊ ကာသိတိုင်းဖြစ် အဝတ်များ ဝတ်ဆင်လျက်၊

စန္ဒကူးနံ့သာ လိမ်းကျံလျက်၊ ပန်းပန်လျက်၊ ဆန်းကြယ်သော ဦးသျှောင်ထုံးကို ထုံးလျက် ကောင်းစွာ ကျင့်ကြံခြင်းဖြင့် မဂ်ကုသိုလ်တရားကို အကယ်၍ ပြီးစီးနိုင်စေငြားအံ့။ ရဟန်းသည် ခေါင်းတုံး တုံးလျက်၊ ဖန်ရေဆိုးသော အဝတ်ကို ဝတ်ဆင်လျက်၊ သူတစ်ပါးအိမ်မှာ ဆွမ်းခံစားလျက်၊ စတုပါရိသုဒ္ဓိ သီလလေးပါးတို့ကို ကောင်းစွာ စောင့်စည်းလျက်၊ နှစ်ရာနှစ်ဆယ့် ခုနစ်သွယ်သော သိက္ခာပုဒ်တို့ကို ကောင်းစွာဆောက်တည် ကျင့်သုံးလျက်၊ ဓုတင် ဆယ့်သုံးပါးလုံးကို ဆောက်တည်လျက် မဂ်ကုသိုလ်တရားကို အကယ်၍ ပြီးစီးစေနိုင်ငြားအံ့ ။ဤသို့ ဖြစ်လတ်သော် လူနှင့် ရဟန်းတို့၏ ထူးခြားချက်ကား အဘယ်ပါနည်း၊ ရဟန်းပြုရခြင်း၊ ရဟန်းဘဝ၌ ဆင်းဆင်းရဲရဲ ကျင့်သုံးရခြင်းသည် အကျိုးမရှိတော့ပါတကား။ ချမ်းသာသော အကျင့်ဖြင့်သာလျှင် နိဗ္ဗာန်ချမ်းသာသို့ ရောက်ရှိနိုင်မည် မဟုတ်ပါလော့'

'မင်းမြတ်၊ ဘုရားရှင် ဟောကြားတော်မူသော ဤစကားတော်သည် ဟောကြားသည့် အတိုင်းမှန်ကန်သည်သာတည်း။ ရဟန်းသည် ငါရဟန်းဖြစ်သည် တကားဟု မဆင်ခြင်ဘဲ ကောင်းမွန်စွာ မကျင့်ငြားအံ့။ ရဟန်းအဖြစ်မှ ဝေးကွာသည်သာတည်း။ အဝတ်ဖြူ ဝတ်ထားသော လူသည်ကား အဘယ်ဆိုဖွယ်ရာ ရှိတော့မည်နည်း။

'မင်းမြတ်၊ အလိုဆန္ဒ ဟူသမျှကို ပေးစွမ်းနိုင်သော ဣစ္ဆသယ ပတ္တမြား ရတနာကို တန်ဖိုး မဖြတ်နိုင်သကဲ့သို့၊ မဟာသမုဒ္ဒရာရှိ လှိုင်းတံပိုးတို့ကို မရေမတွက်နိုင်ဘိ သကဲ့သို့ ရဟန်းအဖြစ်၏ ဂုဏ်ကျေးဇူးတို့ကို နှိုင်းယှဉ် ရေတွက်ခြင်းငှာ မစွမ်းနိုင်ပေ။

'မင်းမြတ် ဥပမာအားဖြင့် အဖုအထစ်မရှိသော၊ ကောင်းစွာပွတ်တိုက်ထားသဖြင့် ဖြောင့်မတ်သော၊ အညစ်အကြေး ကင်းစင်သော မြားသည် လိုအပ်သော အရာတွင်သို့ တည့်မတ်စွာ စူးဝင်နိုင်၏။ ဤအတူသာပင် ရဟန်းသည် အလိုနည်း၏။ ရောင့်ရဲလွယ်၏။ ကာမဂုဏ်၌ ကင်းဆိတ်၏။ မြဲမြံသော ဝီရိယရှိ၏။ ကပ်ငြိမှု ကင်းရှင်း၏။ တဏှာတည်းဟူသော အိမ်မရှိ။ သီလနှင့်ပြည့်စုံ၏။ ခေါင်းပါးသော အကျင့်ရှိ၏။ ဓုတင်အကျင့်၌လိမ္မာ၏။ ဤသို့သော အကြောင်းတို့ကြောင့် ရဟန်း၏ ပြုဖွယ်ကိစ္စသည် ကြာမြင့်စွာစောင့်မနေဘဲ လျင်မြန်စွာသာလျှင် ပြီးစီးပေ၏'

'အရှင်ဘုရား ကောင်းလှပေ၏'

## ၄။ ဒုက္ကရစရိယာအကျင့်ဖြင့် အဘယ့်အကြောင့် ဘုရားမဖြစ်သနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားလောင်းသည် ဒုက္ကရစရိယာ ကျင့်တော်မူစဉ်က အနည်းငယ်မျှ မတွန့်ဆုတ်ဘဲ ပြင်းပြင်းထန်ထန်ကြီး ကြိုးစားအားထုတ်ခဲ့၏။ ထိုကဲ့သို့ ပြင်းထန်စွာ အားထုတ်ခဲ့ခြင်းကို အခြားနေရာ၌ မတွေ့ရပေ။ ထိုသို့ပြင်းထန်စွာ အားထုတ်ခြင်း၌ စိုးစဉ်းမျှ

သာယာနှစ်သိမ့်ဖွယ် မရှိသောကြောင့် အားထုတ်နေသော စိတ်တော်ကိုပင် ယုတ်လျော့စေ၍ ငါသည် ပြင်းထန်လွန်းလှသော ဤဒုက္ကရစရိယာ အကျင့်ဖြင့် လောကုတ္တရာ တရားထူးကို မရနိုင်ချေ။ တရားထူးကိုရခြင်းငှာ အခြားကျင့်စဉ်များ ရှိနေသေးသလောဟု သုံးသပ် ဆင်ခြင်ခဲ့၏။ ထိုဒုက္ကရစရိယာ အကျင့်၌ ငြီးငွေ့တော်မူသည် ဖြစ်၍ အခြားသော ကျင့်စဉ်ဖြင့် ဘုရားအဖြစ်သို့ ရောက်တော်မူခဲ့၏။ ထိုသို့ ဘုရားအဖြစ်သို့ ရောက်တော်မူပြီးမှ–

ငါဘုရား သာသနာတော်၌ ကြိုးကြိုးစားစား အားယုတ်ကြကုန်လော့။ မတွန့်မဆုတ် အားထုတ် ကြကုန်လော့။ အမြဲတစေ ကြိုးပမ်းကြကုန်လော့။ ဆင်ပြောင်ကြီးသည် ကျူရိုးအိမ် ကို စိစိညက်ညက် နင်းခြေဘိသကဲ့ မာရ်နတ်မင်း၏ စစ်သည်တို့အား တိုက်ခိုက်ဖျက်ဆီး ကြကုန်လော့ ဟူ၍လည်း ဆုံးမတော်မူပြန်ပါ၏။ အရှင်ဘုရား၊ မိမိကိုယ်တော်တိုင် ငြီးငွေ့ခဲ့သော စွန့်လွှတ်ခဲ့ပြီးသော ကျင့်စဉ်ကို ကျင့်သုံးရန် တပည့်ရဟန်းတို့အား အဘယ့်ဘုရားရှင် ဆောက်တည် ကျင့်သုံးစေတော်မူပါသနည်း'

'မင်းမြတ်၊ ဥရုဝေလတောကြီးထဲမှာ ကျင့်ခဲ့သော ကျင့်စဉ်သည်လည်းကောင်း၊ ယခု ဆုံးမသော ကျင့်စဉ်သည် လည်းကောင်း ထိုဒုက္ကရစရိယာ အကျင့်ချည်းသာတည်း။ ထိုဒုက္ကရစရိယာ အကျင့်ဖြင့်ပင် ဘုရားအဖြစ်သို့ ရောက်တော်မူခဲ့၏။ စင်စစ်သော်ကား ဘုရားလောင်းသည် ပြင်းထန်စွာ ကျင့်သုံးသည်ရှိသော အစားအစာကို လုံးလုံးကြီးပယ်ပစ်၏။ အာဟာရကို ဖြတ်လိုက် သောကြောင့် ဘုရားလောင်း၏ စိတ်ဓာတ်အင်အား နည်းပါးသွား၏။ စိတ်ဓာတ်အင်အား နည်းပါးသွားသောကြောင့် ဘုရားအဖြစ်သို့ မရောက်နိုင်ပေ။ ထို့နောက် ဘုရားလောင်းသည် အနည်းငယ်၊ အနည်းငယ်မျှသော အစာအာဟာရကို မှီဝဲပြီးလျှင် ထိုအကျင့်ကိုပင် ဆက်လက် ကျင့်သုံးလေရာ မကြာမီမှာပင် ဘုရားအဖြစ်သို့ ရောက်တော်မူပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် အစာအာဟာရကို စားသောက်ရသောကြောင့် သတ္တဝါတို့သည် ချမ်းသာခြင်းကို ခံစားကြရကုန်၏။ ဤအတူသာပင် ဤဒုက္ကရစရိယာ အကျင့်ကို ကျင့်သုံး သောကြောင့် အလုံးစုံသော ဘုရားရှင်တို့သည် သဗ္ဗညုတဉာဏ်တော်ကို ရတော်မူကုန်၏။ ပြော့ကျန်နှစ်ပတ်လုံး ကျင့်သုံးစဉ်က သဗ္ဗညုတဉာဏ်တော်ကို မရရှိခြင်းကား ဒုက္ကရစရိယာအကျင့်၏ အပြစ်မဟုတ်ချေ။

'မင်းမြတ်၊ ဥပမာအားဖြင့် အစွန့်ရှည်သော ခရီးသို့ ယောကျ်ားတစ်ယောက်သည် အလွန်လျင်မြန်စွာ ပြေးသွားသောကြောင့် ခြေဆွံ့ခြင်း၊ ခြေလေးခြင်းသော် လည်းကောင်း၊ မသွားနိုင် မလှမ်းနိုင်ခြင်းသည် လည်းကောင်း ဖြစ်လေရာ၏။ ထိုသို့ဖြစ်ရာတွင် မြေကြီးမှာ အပြစ်ရှိပါ၏လော'

'အရှင်ဘုရား၊ မြေကြီးသည် အခါခပ်သိမ်းသွားခြင်းနှင့် ယှဉ်စပ်နေသည်သာ ဖြစ်၏။ အဘယ်မှာ အပြစ်ရှိပါမည်နည်း'

'မင်းမြတ်၊ ဤအတူသာပင် ဒုက္ကရစရိယာ အကျင့်သည် အခါခပ်သိမ်း သဗ္ဗညုတဉာဏ်တော်နှင့် ယှဉ်စပ်သည်သာတည်း။ အဘယ်မှာ အပြစ်ရှိပါမည်နည်း။ အစာအာဟာရကို လုံးလုံးကြီး ပစ်ပယ်လိုက်ခြင်းသည်သာလျှင် အပြစ်ဖြစ်ပေ၏။ ထို့ကြောင့် ဘုရားရှင်သည် ထိုအကျင့်ဖြင့်ပင် တပည့်သာဝကတို့ကို ဆုံးမတော်မူပေ၏။ ဆောက်တည် စေတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၅။ ရဟန်းလူထွက်ကြောင့် သာသနာတော်ကို ထိခိုက်သလော

'အရှင် နာဂသေနဘုရား၊ ဘုရားရှင်၏ ဤသာသနာတော်သည် ကြီးကျယ်လှပါပေ၏။ ကောင်းမြတ်လှပါပေ၏။ တောင့်တအပ်ပါပေ၏။ ချီးမွမ်းအပ်ပါပေ၏။ အလွန်တရာကောင်းမြတ်လှပါပေ၏။ နှိုင်းယှဉ်ဖွယ်ကင်းပါပေ၏။ စင်ကြယ်ပါပေ၏။ အညစ်အကြေး ကင်းပါပေ၏။ ဖြူစင်လှပါပေ၏။ အပြစ်မျိုးစုံ ကင်းလွတ်ပါပေ၏။ ထိုမျှလောက်ကြီးကျယ် မြင့်မြတ် လှစွာသော သာသနာတော်၌ သာမန်လူတို့ကို ရှင်ရဟန်းပြုပေးရန် မသင့်ပါ။ လူ့ဘဝတုန်းကပင်လျှင် တစ်မဂ်တစ်ဖိုသို့ တည်စေပြီးမှ တစ်ဖန် ပြန်လည်ဆုတ်နစ်ကာ လူထွက်ရန်အကြောင်း မရှိတော့သော သူကိုသာလျှင် ရှင်ရဟန်းပြုပေးသင့်ပါ၏။ ဤမျှလောက် စင်ကြယ်လှသော သာသနာတော်မှ လူထွက်လာကြသော သူယုတ်တို့ကို လူအများက တွေ့မြင်ကြရသောကြောင့် အချင်းတို့၊ ရဟန်းဂေါတမ၏ သာသနာတော်သည် အချည်းနှီးသာ ဖြစ်ပေလတ္တံ့။ အချည်းနှီး ဖြစ်သောကြောင့်သာလျှင် ဤသူတို့သည် လူထွက်လာကြကုန်၏ဟု အောက်မေ့မှတ်ထင် တတ်ကြသောကြောင့် ဖြစ်ပါ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် ရေပြည့်လျှံနေသော၊ အညစ်အကြေး ကင်းစင်၍ ကြည်လင်အေးမြ စင်ကြယ်လှသော ရေရှိသော တစ်ဖက်ဆည် ကန်ကြီး ရှိလေရာ၏။ ထိုကန်၏ အနီးသို့ ချွံ့ညွန်၊ အညစ်အကြေးများ ပေကျံနေသော ယောကျ်ား တစ်ယောက် ရောက်လာကာ ထိုရေကန်ကြီးမှာ ရေမချိုးဘဲ ချွံ့ညွန် အညစ်အကြေးများ ပေကျံလျက်ပင် ပြန်လာခဲ့ငြားအံ့။ ထိုသို့ဖြစ်လျှင် လူအများတို့က တစ်ဖက်ဆည်ကန်ကြီးကို ကဲ့ရဲ့ကြမည်လော။ ပေကျံနေသော ယောကျ်ားကို ကဲ့ရဲ့ ကြမည်လော'

'အရှင်ဘုရား၊ ကန်ထဲသို့ မဆင်းသက်သော ယောကျ်ားကို ကန်ကြီးက မိမိအလိုအလျောက် အဘယ်မှာ ရေချိုး၍ ပေးနိုင်ပါမည်နည်း။ ပေကျံနေသော ထိုယောကျ်ားကိုသာ ကဲ့ရဲ့ကြပါလိမ့်မည်'

မင်းမြတ်၊ ဤအတူသာပင် ကိလေသာမှ လွတ်မြောက်ရာ အရဟတ္တဖိုလ် ဟူသော မြတ်သောရေဖြင့် ပြည့်လျှံသော၊ သာသနာတော်တည်း ဟူသော တစ်ဖက်ဆည်ကန်ကြီးကို ဖန်ဆင်းတော်မူခဲ့၏။ ကိလေသာ အညစ်အကြေး လိမ်းကျံရာမှ စင်ကြယ်ခြင်းကို အလိုရှိကုန်သော အချို့သော ပညာရှိတို့သည် ဤကန်ကြီးသို့ဆင်းသက်၍ ရေချိုးကြရန် ရည်သန်တော်မူခဲ့၏။ သို့ပါလျက် တစ်စုံ တစ်ယောက်သော သူသည် ထိုကန်ကြီးသို့ ဆိုက်ရောက်ပြီးသည် ဖြစ်ပါလျက် ရေမချိုးဘဲ ကိလေသာအညစ်အကြေးများနှင့်အတူ ပြန်လည်ဆုတ်နစ်လာအံ့။ ဤသူသည် သာသနာတော်၌ ရဟန်းပြုပြီးခါမှ သာသနာတော်မှာ ဆောက်တည်ရာကို မရသဖြင့် လူထွက်လာဘိ၏။တရားမကျင့်သော ဤသူကို ဘုရားသာသနာတော်က အဘယ်မှာ အလို အလျောက် သိစေနိုင်ပါမည်နည်းဟု ထိုရဟန်းလူထွက်ကိုသာလျှင် ကဲ့ရဲ့ကြရာ၏။

'မင်းမြတ်၊ အကယ်၍ ဘုရားရှင်သည် တစ်မဂ်တစ်ဖိုလ်၌ တည်ပြီးသော သူကိုသာ ရဟန်းပြုပေးငြားအံ့။ ထိုရဟန်းအဖြစ်သည် ကိလေသာကို ပယ်ခြင်းငှာလည်းကောင်း၊ ကိလေသာမှ စင်ကြယ်ခြင်းငှာ လည်းကောင်း မဖြစ်နိုင်တော့ပေ။ ရဟန်းအဖြစ်၌ ပြုဖွယ်ကိစ္စ မရှိနိုင်တော့ပေ။

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် လုပ်အားများစွာ အသုံးပြု၍ တစ်ဖက်ဆည် ကန်ကြီးကို တူးစေပြီးလျှင် အချင်းတို့၊ အညစ်အကြေးများ ပေကျံ၍ ညစ်နွမ်းနေသော သူတို့သည် ဤကန်ကြီးသို့ မသက်ဆင်းကြပါကုန်လင့်။ အညစ်အကြေး ကင်းရှင်း၍ စင်ကြယ်ပြီးသော သူတို့သာလျှင် ဤကန်ကြီးသို့ သက်ဆင်းကြကုန်လော့ဟု ပရိသတ်များ ကြားသိအောင် ကြွေးကြော်ရာ၏။ အညစ်အကြေး ကင်းရှင်း၍ စင်ကြယ်ပြီးသော သူတို့အား ထိုတစ်ဖက်ဆည်ကန်ဖြင့် ပြုဖွယ်ကိစ္စ ရှိပါသေးသလော'

'အရှင်ဘုရား၊ ထိုသူတို့သည် အညစ်အကြေးများ ကင်းစင်စေခြင်းငှာ တစ်ဖက်ဆည်ကန်သို့ ချဉ်းကပ်ကြကုန်၏။ ရေချိုး၍ စင်ကြယ်အောင် ပြုရသော ပြုဖွယ်ကိစ္စကို အခြားနေရာ၌ ပြုလုပ်ခဲ့ပြီး ဖြစ်ကြပေပြီ။ ထိုသူတို့အတွက် ထိုတစ်ဖက်ဆည်ကန်ဖြင့် အဘယ်မှာ ပြုဖွယ်ကိစ္စ ရှိပါတော့မည်နည်း'

'မင်းမြတ်၊ ဤအတူသာပင် အကယ်၍ ဘုရားရှင်သည် တစ်မဂ်တစ်ဖို၌ တည်ပြီးသော သူကိုသာ ရဟန်းပြုပေးတော် မူငြားအံ့။ ထိုသူတို့သည် ပြုဖွယ်ကိစ္စကို ထိုဖိုလ်၌ပင် ပြုလုပ်ကြပြီး ဖြစ်ကြပေ၏။ ထိုသူတို့အတွက် ရဟန်း အဖြစ်ဖြင့် အဘယ်မှာ ပြုဖွယ်ကိစ္စ ရှိပါတော့မည်နည်း။

'မင်းမြတ်၊ စင်စစ်အားဖြင့် ရဟန်းလူထွက်တို့သည် ဤသာသနာတော်ကြီး၏ ဂုဏ်ကျေးဇူး ငါးပါးကို ပြဆိုကြပေကုန်၏။ ထိုဂုဏ်ကျေးဇူး ငါးပါးတို့ကား- သာသနာတော်၏ တည်ရာ မြင့်မြတ်ခြင်း၊ စင်ကြယ် သန့်ရှင်း အညစ်အကြေး ကင်းခြင်း၊ မကောင်းမှုနှင့် မရောနှောခြင်း၊ ထိုးထွင်း သိမြင်နိုင်ခဲခြင်းနှင့် များစွာထိန်းသိမ်း စောင့်ရှောက်ရခြင်းတို့ပေတည်း။

မင်းမြတ်၊ သာသနာတော်၏တည်ရာ မြင့်မြတ်ပုံကား ဤသို့တည်း။ ဥပမာအားဖြင့် အမျိုးယုတ်သော၊ အရည်အချင်းကင်းမဲ့သော၊ ပညာမရှိသော ယောကျာ်းသည် ကြီးကျယ် မြင့်မြတ်လှစွာသော မင်းအဖြစ်ကိုရသော်လည်း မကြာမီမှာပင် လျှောကျပျက်စီးရ၏။ ကြီးကျယ် မြင့်မြတ်လှစွာသော မင်းအဖြစ်နှင့် မထိုက်တန်သောကြောင့် ဖြစ်ပေ၏။ ဤအတူသာပင် ကုသိုလ်ကောင်းမှု မပြုခဲ့ဖူးကုန်သော၊ အရည်အချင်း ကင်းမဲ့ကုန်သော သူအချို့သည် ဘုရားရှင် သာသနာတော်အတွင်း၌ ရဟန်းပြုလာကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် မကြာမီမှာပင် သာသနာတော်ကြီးမှ လျှောကျ ပျက်စီးကြကုန်၏။ ကြီးကျယ် မြင့်မြတ်လှစွာသော သာသနာတော် ကြီးနှင့် မထိုက်တန်သောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ သာသနာတော်၏ စင်ကြယ်သန့်ရှင်း အညစ်အကြေးကင်းပုံကား ဤသို့တည်း၊ ဥပမာအားဖြင့် ရေစက်ရေပေါက်သည် ပဒုမ္မာကြာရွက်ပေါ်တွင် ကြာရှည်စွာ မရပ်တည်နိုင်ဘဲ လျင်မြန်စွာ လျှောကျသွား၏။ စင်ကြယ်သန့်ရှင်းသော ပဒုမ္မာကြာရွက်ပေါ်တွင် တွယ်ကပ် မနေနိုင်သောကြောင့် ဖြစ်ပေ၏။ ဤအတူ သာပင် စဉ်းလဲကောက်ကျစ်သော စိတ်သဘောထား ရှိကုန်သော၊ မညီညွတ်သော အယူဝါဒ ရှိကုန်သော သူအချို့တို့သည် သာသနာတော်၌ ရဟန်း ပြုလာ ကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် မကြာမီမှာပင် သာသနာတော်မှ လျှောကျ ပျက်စီး ကြရကုန်၏။ စင်ကြယ်သန့်ရှင်း အညစ်အကြေးကင်းသော သာသနာတော်တွင် တွယ်ကပ်၍ မနေနိုင်သောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ ဤသာသနာတော်၏ မကောင်းမှုနှင့် မရောနှောပုံကား ဤသို့သာတည်း။ ဥပမာအားဖြင့် မဟာသမုဒ္ဒရာသည် မိမိအထဲသို့ မျောပါလာသော အသေကောင်ပုပ်တို့ကို မကြာမီမှာပင် ကမ်းပါးပေါ်သို့ လှိုင်းပုတ်၍ ထုတ်တင်လိုက်၏။ မဟာသမုဒ္ဒရာသည် အသေကောင်ပုပ်တို့နှင့် အတူမနေသောကြောင့် ဖြစ်ပေ၏။ ဤအတူသာပင် လုံ့လဝီရိယ ချို့တဲ့ကုန်သော၊ ညစ်နွမ်းကုန်သော၊ စိတ်ရှိကုန်သော၊ ယုတ်မာကုန်သောသူ အချို့သည် သာသနာတော်၌ ရဟန်းပြုလာကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် မကြာမီမှာပင် သာသနာတော်မှ လျှောကျ ပျက်စီးကြကုန်၏။ သာသနာတော်သည် မကောင်းမှုတို့နှင့် မရောနှောသောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ သာသနာတော်၏ ထိုးထွင်းသိမြင် နိုင်ခဲခြင်းကား ဤသို့တည်း။ ဥပမာအားဖြင့် မကျွမ်းကျင်ကုန်သော၊ လေးအတတ်ကို မသင်ဖူးကုန်သော၊ ပညာမဲ့ကုန်သော လေးသမား အချို့သည် သားမြီးဖျားကို မြားနှင့်ခွင်း၍ မရနိုင်ကြကုန်။ သားမြီးဖျား၏ ဖောက်ထွင်းရန် ခဲဉ်းလှသောကြောင့် ဖြစ်ပေ၏။ ဤအတူသာပင်လျှင် ဖျင်း, အ, ထုံထိုင်း ကုန်သော၊ မိုက်မဲ ကုန်သော၊ ပညာမဲ့ကုန်သော သူအချို့သည် သာသနာတော်၌ ရဟန်းပြုလာကြကုန်၏။

သို့ရာတွင် ထိုသူတို့သည် နူးညံ့ သိမ်မွေ့လှစွာသော သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိမြင်ခြင်းငှာ မစွမ်းနိုင်သဖြင့် မကြာမီမှာပင် သာသနာတော်မှ လျှောကျပျက်စီး ကြရကုန်၏။ သစ္စာလေးပါး တရားတော်၏ ထိုးထွင်းသိမြင်ရန် ခဲယဉ်းသောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ သာသနာတော်၌ များးစွာ ထိန်းသိမ်းရပုံကား ဤသို့တည်း။ ဥပမာအားဖြင့် ကြီးကျယ်လှစွာသော စစ်မြေပြင်၌ တိုက်ပွဲဝင်နေသော စစ်သည် တစ်ယောက်သည် တစ်ဖက် ရန်သူများက ဝိုင်းဝန်းပိတ်ဆို့၍ လှံကိုယ်စီဖြင့် ချီတက်လာကြသည်ကို မြင်ရသောအခါ ကြောက်ရွံ့သဖြင့် ထွက်ပြေးရ၏။ စစ်သည်ဗိုလ်ပါ မြောက်မြားစွာတို့ကို ထိန်းသိမ်း မထား နိုင်သောကြောင့် ဖြစ်ပေရာ၏။ ဤအတူသာပင် ယုတ်မာကုန်သော ကိုယ်နှင့်နှုတ်ကို မစောင့်စည်းကုန်သော၊ အရှက်မရှိကုန်သော၊ သိက္ခာပုဒ်ကို မကျင့်နိုင်ကုန်သော၊ သည်းမခံတတ် ကုန်သော၊ လျှပ်ပေါ်လောလည် ကုန်သော၊ စိတ်နှလုံး တုန်လှုပ်တတ်ကုန်သော၊ ခဏာပန်းမျှသာ စိတ်ကောင်းရှိကုန်သော သူအချို့သည် သာသနာတော်၌ ရဟန်းပြုကုန်၏။ သို့ရာတွင် ထိုသူတို့သည် မြောက်မြားလှစွာသော သိက္ခာပုဒ်တို့ကို မစောင့်ထိန်းနိုင်ကြကုန်သည်ဖြစ်၍ မကြာမီမှာပင် သာသနာတော်မှ လျှောကျ ပျက်စီးကြကုန်၏။ သာသနာတော်၏ များးစွာ ထိန်းသိမ်းဖွယ်ရှိနေ သောကြောင့် ဖြစ်ပေ၏။

'မင်းမြတ်၊ ပန်းတကာတို့တွင် အထွတ်မြတ်ဆုံးသော မြတ်လေးပန်းချုံ၌လည်း ပိုးကိုက် ပန်းပွင့် တို့သည် ပါလာကြ၏။ ထိုပန်း တို့သည် တွန့်လိမ် ကောက်ကွေးကုန်လျက် မရင့်ရော် မီကပင် ကြွေကျကုန်၏။ ထိုသို့ ကြွေကျကုန်သော ပိုးကိုက်ပန်းပင်တို့ကို အကြောင်းပြုကာ မြတ်လေး ပန်းချုံကို မကဲ့ရဲ့ထိုက်ပေ။ ထိုပန်းချုံမှာ ကျန်နေသေးသော မြတ်လေးပန်းတို့သည် သင်းပျံ့လှစွာသော ရနံ့ဖြင့် ထိုထိုအရပ်မျက်နှာတို့သို့ ပျံ့နှံ့စေကုန်၏။ ဤအတူသာပင် ရဟန်း လူထွက်တို့ကို အကြောင်းပြုကာ သာသနာကို မကဲ့ရဲ့ထိုက်ချေ။ သာသနာတော်၌ တည်နေကြ သေးသော ရဟန်းကောင်းတို့သည် သီလတည်းဟူသောရနံ့ဖြင့် နတ်နှင့်တကွသော လောကကို ပျံ့နှံ့စေကုန်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ ရဟန်းလူထွက်များကို အကြောင်းပြု၍ သာသနာတော်၌ အပြစ်မရှိပုံကို သေချာပေါက် ရောဂါပျောက်အောင် ကုစားနိုင်သော ဆေး၊ ဆေးဆရာနှင့်တွေ့ပါလျက် ရောဂါပျောက်အောင် ဆေးကု မခံရသူ ဖြင့်လည်းကောင်း၊ ကုသိုလ်ရှင်တို့က စတုဒိသာ ကျွေးမွေးရာသို့ ရောက်ခဲ့ပါလျက် မစား မသောက်ဘဲ ဝမ်းဟာဟာနှင့် ပြန်လာသူဖြင့် လည်းကောင်း ဥပမာပြုသေး၏။

တစ်မဂ်တစ်ဖိုလ် တည်ပြီးသော သူကိုသာ ရဟန်းပြုမပေးထိုက်ပုံကို သေချာပေါက် ရောဂါပျောက် အောင် ကုစားနိုင်သော ဆေးဆရာက ရောဂါရှင်များကို လက်မခံဘဲ ရောဂါကင်းသူများကိုသာ လက်ခံပုံဖြင့်လည်းကောင်း၊ ထမင်းဟင်းတွေ အများကြီး ချက်ပြုတ်တည်ခင်းပြီးလျှင် ဆာလောင်သူတို့ကို

မကျွေးမွေးဘဲ တင်းတိမ်ပြီး သူတို့ကိုသာ ကျွေးမွေးပုံဖြင့် လည်းကောင်း ဥပမာပြုသေး၏။

ရဟန်းလူထွက်များကြောင့် သာသနာတော်ကြီးသည် မညှိုးမှိန်ပုံကို ကရမ္ဘကအမည်ရှိသော သလေးစပါး အပျက်အစီး ပါရှိသော်လည်း ကျန်သော သလေးစပါးတို့မှာ မင်းသုံးမင်းဆောင် ဖြစ်နေရပုံဖြင့် လည်းကောင်း၊ တစ်စိတ်တစ်ဒေသ၌ ကြမ်းတမ်းနေသော ပတ္တမြားရတနာသည့် ကောင်းမွန် ချောမွေ့နေသော အစိတ်အပိုင်းများဖြင့် လူအပေါင်းအား အားရရွှင်လန်း စေနိုင်ပုံ ဖြင့်လည်းကောင်း ဥပမာပြုသေး၏။]

## ၆။ ရဟန္တာပုဂ္ဂိုလ်သည် အဘယ်ဝေဒနာကို ခံစားသနည်း

'အရှင် နာဂသေန ဘုရား၊ ရဟန္တာပုဂ္ဂိုလ်သည် ကိုယ်၌ဖြစ်သော ဝေဒနာတစ်ခုတည်းကို သာခံစား၏။ စိတ်၌ဖြစ်သော ဝေဒနာကိုမခံစားဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုခဲ့ကြပါ၏။ အရှင်ဘုရား၊ မည်သို့ပါနည်း။ ရဟန္တာပုဂ္ဂိုလ်သည် မိမိစိတ်၏ တည်ရာဖြစ်သောကိုယ်ကို အစိုးမရ ပါသလော။ မပိုင်ဆိုင်ပါသလော။ အလိုသို့ မလိုက်စေနိုင်ပါသလော'

'မင်းမြတ်၊ ဩော်-ဟုတ်ပေ၏'

'အရှင်ဘုရား၊ ဤသို့ဖြစ်ရခြင်းမှာ မသင့်လျော်ပါ။ ငှက်ငယ်ကလေးသည်ပင် မိမိအသိုက်မှာ နေသမျှ ကာလပတ်လုံး ထိုအသိုက်ကို အစိုးရပါသေး၏။ ပိုင်ဆိုင်ပါသေး၏။ အလိုသို့ လိုက်စေနိုင်ပါသေး၏'

'မင်းမြတ်၊ ဆယ်ပါးသော တရားတို့သည် ကိုယ်၏နောက်သို့သာ အစဉ်သဖြင့် လိုက်ပါကြရကုန်၏။ ထိုတရား ဆယ်ပါးတို့ကား-အချမ်း၊ အပူ၊ ဆာလောင်ခြင်း၊ ရေမွတ်သိပ်ခြင်း၊ ကျင်ကြီး၊ ကျင်ငယ်၊ ငိုက်မျဉ်းခြင်း၊ အိုခြင်း၊ ဖျားနာခြင်းနှင့် သေခြင်းတို့ပေတည်း'

'အရှင်ဘုရား၊ ရဟန္တာပုဂ္ဂိုလ်သည် ကိုယ်အပေါ်၌ အဘယ့်ကြောင့် အာဏာထား၍ မစေစားစေနိုင်ပါသနည်း'

'မင်းမြတ်၊ ဥပမာအားဖြင့် မြေပေါ်မှာ မှီခို၍ သွားလာနေထိုင်ကြသော သတ္တဝါတို့သည် မြေကြီးကို အာဏာပေး၍ စေစားနိုင်ပါသလော'

'အရှင်ဘုရား၊ အာဏာထား၍ မစေစားနိုင်ပါ'

'မင်းမြတ်၊ ရဟန္တာပုဂ္ဂိုလ်၏စိတ်သည် ကိုယ်ပေါ်မှာမှီခို၍ကား ဖြစ်ပါ၏။ သို့ရာတွင် အရာမဟုတ်သောကြောင့် ကိုယ်ကိုကား အာဏာထား၍ မစေစားနိုင်ပေ'

'အရှင်ဘုရား၊ ပုထုဇဉ်ပုဂ္ဂိုလ်တို့သည် ကိုယ်မှာ စိတ်မှာ ဖြစ်ပေါ်လာသော ဝေဒနာ နှစ်မျိုးလုံးကို အဘယ့်ကြောင့် ခံစားကြရပါသနည်း'

'မင်းမြတ်၊ စိတ်၌ဘာဝနာပွားများမှု မပြုရသောကြောင့် ဖြစ်ပေ၏။ ဥပမာအားဖြင့်

ဆာလောင်မွတ်သိပ်သောနွားကို သေးငယ်လှသော မြက်ပင်၊ နွယ်ပင်၌ ချည်နှောင်ထားရာ၏။ ထိုနွားသည် ဆာလောင်သည်ထက် ဆာလောင်လာ၍ အမျက်ထွက်လာသောအခါ ထိုမြက်ပင် နွယ်ပင်ကိုပါ ကျွတ်ပါလာအောင် ရုန်းကန်၍ ထွက်လာပေရာ၏။ ဤအတူသာပင် စိတ်၌ ဘာဝနာပွားများမှု မပြုကြသော ပုထုဇဉ်များသည် ကိုယ်၌ဖြစ်သော ဒုက္ခဝေဒနာ ခံစားလာရသောအခါ စိတ်သည် ဖောက်ပြန်လာ၏။ စိတ်ဖောက်ပြန်လာသဖြင့် ကိုယ်သည်လည်း တပြောင်းပြန်ပြန် ဖြစ်လာ၏။ ထိတ်လန့်၏။ မြည်တမ်း၏။ ကြောက်မက်ဖွယ် အော်ဟစ်၏။ ဤသို့လျှင် ပုထုဇဉ်ပုဂ္ဂိုလ်သည် ဝေဒနာနှစ်မျိုးလုံးကို ခံစားရပေ၏'

'အရှင်ဘုရား ရဟန္တာပုဂ္ဂိုလ်သည် အဘယ့်ကြောင့် စိတ်၌ဖြစ်သော ဝေဒနာကို မခံစားရဘဲ ကိုယ်၌ဖြစ်သော ဝေဒနာကိုသာ ခံစားရပါသနည်း'

'မင်းမြတ်၊ စိတ်၌ ဘာဝနာပွားမှုများ ပြုလုပ်ပြီးသောကြောင့်၊ စိတ်ကို ယဉ်ကျေးအောင် ဆုံးမပြီးဖြစ်သောကြောင့်၊ ဘုရားရှင်ဆုံးမတော်မူသည့်အတိုင်း တစ်သဝေမတိမ်း လိုက်နာပြီးသောကြောင့် ဖြစ်ပေ၏။ ထိုရဟန္တာပုဂ္ဂိုလ်သည် ဒုက္ခဝေဒနာကို ခံစားရသောအခါ အနိစ္စဟူ၍ မြဲမြံစွာ နှလုံးသွင်း၏။သမာဓိတည်း ဟူသော တိုင်၌ စိတ်ကိုမြဲမြံစွာ ဖွဲ့ချည်ထားသဖြင့် မယိမ်းမယိုင် မတုန်မလှုပ်ဘဲ တည်တံ့ခိုင်မြဲ၏။ ထိုရဟန္တာပုဂ္ဂိုလ်၏ ကိုယ်သည်သာလျှင် ဒုက္ခဝေဒနာကြောင့် တပြောင်းပြန်ပြန် ဖြစ်နေရ၏။ ဤသို့သာလျှင် ရဟန္တာပုဂ္ဂိုလ်သည် စိတ်၌ ဖြစ်သောဝေဒနာကို မခံစားဘဲ ကိုယ်၌ဖြစ်သော ဒုက္ခဝေဒနာကိုသာ ခံစားရ၏'

'အရှင်ဘုရား၊ ကိုယ်တုန်လှုပ်နေပါလျက် စိတ်မတုန်လှုပ်ပုံသည် အံ့သြဖွယ်ရှိပါ၏။ အဘယ့်ကြောင့် ဤသို့ဖြစ်ရပုံကို မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ခက်လက် ဝေဆာသော သစ်ပင်ကြီးကို လေပြင်းတိုက်သောအခါ အခက်အလက်များ လှုပ်ယမ်းသကဲ့သို့ ပင်စည်ပါ တုန်လှုပ်ပါသလော'

'အရှင်ဘုရား၊ မတုန်လှုပ်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ရဟန္တာပုဂ္ဂိုလ်၏ စိတ်သည်လည်း မြဲမြံခိုင်ခံ့ပြီး ဖြစ်သောကြောင့် မတုန်လှုပ်ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကိုယ်၌ဖြစ်သော ဝေဒနာနှင့် စိတ်၌ဖြစ်သော ဝေဒနာဟူ၍ သာမည ပြဆိုထားသော်လည်း အရာဌာန အားလျော်စွာ ဒုက္ခ ဒေါမနဿ ဝေဒနာများကို ကောက်ယူရပေ၏။]

## ၇။ ပါရာဇိက ကျမှန်းမသိသော ရဟန်းသည် မဂ်ဖိုလ် ရမည်လော

'အရှင်နာဂသေနဘုရား၊ ဤလောက၌ လူတစ်ယောက်သည် သာသနာတော်တွင်း၌ ရဟန်းပြုခွင့် မရနိုင်သဖြင့် ပါရာဇိက ကျနေ၏။ အခါတစ်ပါး၌ ထိုသူသည် ရဟန်းပြုလေရာ၏။ လူ့ဘဝဟုန်း ကပင် ပါရာဇိက ကျပြီ ဖြစ်နေကြောင်းကို ထိုရဟန်းကလည်းမသိ။ အခြားရဟန်းများကလည်း မပြောကြပေ။ ထိုရဟန်းသည် ဘာဝနာ ကမ္မဋ္ဌာန်း စီးဖြန်းလတ်သော် သစ္စာလေးပါးကို ထိုးထွင်း၍ သိမည်လော'

'မင်းမြတ်၊ မသိနိုင်ပါ'

'အရှင်ဘုရား၊ အဘယ့်ကြောင့်နည်း'

'မင်းမြတ်၊ သစ္စာလေးပါးကို ထိုးထွင်း၍သိခြင်း၏ အကြောင်းကို ပယ်ဖြတ်ပြီးသောကြောင့် ဖြစ်ပေ၏'

'အရှင်ဘုရား၊ မိမိ ပါရာဇိကကျနေကြောင်းကို သိသောသူမှာ နောင်တတစ်ဖန် ပူပန်မှု ဟူသော ကုက္ကုစ္စ ဖြစ်ပေါ်လာ၏။ ကုက္ကုစ္စဖြစ်လျှင် သစ္စာလေးပါးကို ထိုးထွင်း၍ မသိနိုင်စေရန် တားဆီးပိတ်ပင်၏ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ မိမိ ပါရာဇိက ကျနေကြောင်းကို မသိသော၊ ကုက္ကုစ္စ မဖြစ်ပေါ်သော၊ စိတ်ငြိမ်သက်နေသော ထိုရဟန်းသည် အဘယ့်ကြောင့် သစ္စလေးပါးကို မသိနိုင်ပါသနည်း'

'မင်းမြတ်၊ ကောင်းစွာထွန်ယက်ထား၍ တမန်းညက်နေသော လယ်ထဲသို့ ကြဲချထား သော မျိုးစေ့သည် အပင်ပေါက်နိုင်ပါသလော'

'အရှင်ဘုရား၊ ပေါက်နိုင်ပေ၏'

'မင်းမြတ်၊ ထိုမျိုးစေ့ကိုပင် တစ်ခဲနက်သော ကျောက်တောင်ပေါ်၌ ကြဲချထားလျှင် အပင်ပေါက်ဦးမည်လော'

'အရှင်ဘုရား၊ မပေါက်နိုင်တော့ပါ'

'မင်းမြတ်၊ အဘယ့်ကြောင့်နည်း'

'အရှင်ဘုရား၊ တစ်ခဲနက်သော ကျောက်တောင်ပေါ်၌ အပင်ပေါက်စရာအကြောင်း မရှိ သောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ပါရာဇိက ကျထားခြင်းကြောင့် သစ္စာလေးပါး ထိုးထွင်း၍ သိနိုင်ခြင်း၏အကြောင်း ပယ်ဖြတ်ပြီး ဖြစ်နေ၏။ ဤသို့ အကြောင်းပြတ်နေခြင်းကြောင့် မသိနိုင်တော့ပေ'

အရှင်ဘုရား၊ ပါရာဇိကကျနေကြောင်းကို မသိသဖြင့် ကုက္ကုစ္စ မဖြစ်ပေါ်သောသူအား သစ္စာလေးပါး ထိုးထွင်းမသိနိုင်အောင် အပိတ်အဆို့ဖြစ်ရ၏ ဟူသော စကားကို တပည့်တော် သဘောမပေါက်သေးပါ။ အကြောင်းပြ၍ မိန့်တော်မူပါလော့'

'မင်းမြတ်၊ လောလောလတ်လတ် သေစေတတ်သော အဆိပ်ကို အဆိပ်မှန်းမသိ၍ စားမိလျှင် သေနိုင်သည်မဟုတ်လော'

'အရှင်ဘုရား၊ သေစေနိုင်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် မသိသဖြင့် ပြုခဲ့မိသော အကုသိုလ်ကံသည်လည်း သစ္စာလေးပါး သိမြင်ခြင်းကို တားဆီးနိုင်သည်သာတည်း။ မင်းမြတ်၊ ရသေ့တို့၏ သားဖြစ်သော ကလိင်္ဂ စကြဝတေးမင်းသည် ရတနာ ခုနစ်ပါးဖြင့် တန်ဆာဆင်ထားသော ဆင်တော်ကိုစီးလျက် ခမည်းတော်၊ မယ်တော်တို့ကို ဖူးမြင်ရန် ကောင်းကင်ခရီးမှ လှည့်လည်လာ၏။ ဗောဓိမဏ္ဍိုင်၏ အထက်သို့ရောက်သောအခါတွင် မိမိအောက်၌ ဗောဓိမဏ္ဍိုင် ရှိနေကြောင်းကို မသိဘဲလျက် ဗောဓိမဏ္ဍိုင်၏ အပေါ်မှ ဖြတ်သွား၍ မရနိုင်ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ပါရာဇိက ကျခြင်းဟူသည်မှာ သာမန်အားဖြင့် ရဟန်းအဖြစ်ဖြင့် ပါရာဇိကကျခြင်းနှင့် လူအဖြစ်နှင့် ပါရာဇိကကျခြင်းဟူ၍ နှစ်မျိုးရှိ၏။ ထိုတွင်ဘိက္ခု၊ ဘိက္ခုနီနှ စ်ဖက်စလုံးအတွက် ပါရာဇိကရှစ်ပါး၊ ခါးရိုးပျော့သဖြင့် မိမိအင်္ဂါဇာတ်ကို ငုံ့၍စုပ်ခြင်း၊ အင်္ဂါဇာတ် ရှည်သဖြင့် မိမိ၏ဝစ္စမဂ်သို့ ထိုးသွင်းခြင်း၊ သူတစ်ပါး၏အင်္ဂါဇာတ်ပေါ်သို့ မိမိ၏ဝစ္စမဂ်ဖြင့်ထိုင်ချခြင်း၊ သူတစ်ပါး၏ အင်္ဂါဇာတ်ကို ပါးစပ်ဖြင့်စုပ်ယူခြင်းတို့သည် ရဟန်းဖြစ်ပြီးမှသင့်နိုင်သော ပါရာဇိက အာပတ်များဖြစ်၏။ လူအဖြစ်ဖြင့် ကျနိုင်သောပါရာဇိကတို့ကား–နပုံးပဏ္ဍုက်၊ ရဟန်းမဟုတ် ပါဘဲလျက် ရဟန်းယောင်ဆောင်၍နေသော ထေယျသံဝါသက၊ တိတ္ထိတို့၏ အယူဝါဒဘက်သို့ ကူးပြောင်းသွားသူ၊ လူယောင်ဆောင်ထားသော တိရစ္ဆာန်၊ အနန္တရိယကံကြီးငါးပါးကို ကျူးလွန်သူငါးယောက်၊ ဘိက္ခုနီမကို အတင်းကျင့်ကြံ၍ ဖျက်ဆီးသူ၊ ယောကျ်ားလိင်အင်္ဂါ၊ မိန်းမလိင်အင်္ဂါ နှစ်မျိုးလုံးပါရှိသော ဥပတောဗျည်းဂို့ ဖြစ်ကြ၏။ ထိုသူတို့သည် ဤသာသနာတော်၌ ရဟန်းပြုခွင့် မရနိုင်ကြသောကြောင့် ပါရာဇိက ကျသူများဟု ဆိုရပေ၏။]

## ၈။ ရဟန်း ဒုဿီလနှင့် လူဒုဿီလ မည်သို့ ကွာခြားသနည်း

'အရှင်နာဂသေနဘုရား၊ ရဟန်းဒုဿီလနှင့် လူဒုဿီလတို့သည် တူညီကြပါသလော။ ကွာခြား ကြပါသလော'

'မင်းမြတ်၊ ကွာခြားကြပေကုန်၏၊ ရဟန်းဒုဿီလသည် ဆယ်ပါးသောဂုဏ်ကျေးဇူးတို့ဖြင့် သာလွန်၏၊ ဆယ်ပါးသော အကြောင်းတို့ဖြင့် လူတို့၏ မြတ်သောအလှူကို သုတ်သင်နိုင်ပေ၏။ ..ယ်ပါးသော ဂုဏ်ကျေးဇူးတို့ကား– ဤသာသနာတော်ရှိ ရဟန်းဒုဿီလသည် ဘုရား၌ ..သေ၏။ တရား၌ ရိုသေ၏။ သံဃာ၌ ရိုသေ၏။ သီတင်းသုံးဖော်တို့၌ ရိုသေ၏။ ပါဠိအဋ္ဌ

ဂုဏ်ထာ သင်ကြားအားထုတ်၏။ ပါဠိအဋ္ဌကထာကို ကြိမ်ဖန်များစွာ ကြားနာရ၏။ သီလပျက်စီးနေသော်လည်း ပရိသတ်ထဲသို့ ဝင်သောအခါ သီလရှိသကဲ့သို့ တည်ကြည်သောအသွင်ကိုဆောင်၏။ အကဲ့ရဲ့ မခံရစေရန် ကိုယ်မှုနှုတ်မှုတို့ကို စောင့်စည်း၏။ ကမ္မဋ္ဌာန်းကိုရှေးရှု၏။ သာမန် ရဟန်းတစ်ပါးအဖြစ်ကိုရရှိ၏။ လင်ရှိ မိန်းမတို့သည် မကောင်းမှုကို ပုန်းလျှိုး၍ ပြုလုပ်သကဲ့သို့ မကောင်းမှုကို ပုန်းလျှိုး၍ ပြုလုပ်၏။ ဤသို့သော ဂုဏ်ကျေးဇူးတို့ ဖြစ်ပေ၏။

'မင်းမြတ်၊ လူတို့၏ မြတ်သောအလှူကို သုတ်သင်နိုင်သောအကြောင်း ဆယ်ပါးတို့ကား– ချပ်မိန်ညိုနှင့်တူစွာ အပြစ်ကင်းစင်သောသင်္ကန်းကို ဝတ်ရုံထားခြင်း၊ ဘုရား ရဟန္တာအရိယာသူတော်ကောင်းများကဲ့သို့ ခေါင်းတုံး တုံးထားခြင်း၊ ရဟန်းသံဃာ အရေအတွက်ထဲမှာ ပါဝင်ခြင်း၊ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခြင်း၊ ကမ္မဋ္ဌာန်း အားထုတ်သော ကျောင်းများ၌ နေထိုင်ခြင်း၊ သာသနာတော်ကြီး တည်တံ့ရေးကို လိုလားခြင်း၊ ယစ္စာလေးပါး တရားကို ဟောကြားနိုင်ခြင်း၊ တရားကို မှီခိုအားထားခြင်း၊ ဘုရားရှင်သည်သာလျှင် အမြတ်ဆုံးဟူ၍ အယူဖြောင့်မတ်ခြင်း၊ တစ်လလျှင် နှစ်ကြိမ် ဥပုသ် ပြုခြင်းတို့ပေတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် ကျိုက်ကျိုက်ဆူနေသော ရေနွေးသည် အလျှံပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီးကို ငြိမ်းစေနိုင်၏။ ဤအတူသာပင် ရဟန်းဒုဿီလသည် အကျင့်ကို ဖောက်ပြန်သော်ငြားလည်း လူတို့၏ မြတ်သောအလှူကို သုတ်သင်နိုင်ပေ၏။ ထို့ကြောင့်ဘုရားရှင်သည် မဇ္ဈိမနိကာယ်၊ ဒက္ခိဏာဝိဘင်္ဂသုတ် ဒေသနာတော်၌–

'သီလရှိသော ဒါယကာသည် အလွန်ကြည်လင်သောစိတ် ရှိသည်ဖြစ်၍ ကံ၊ ကံ၏အကျိုးကို ယုံကြည်လျက် တရားသဖြင့် ရှာဖွေစုဆောင်းထားသော လှူဖွယ်ဝတ္ထုကို ရဟန်း ဒုဿီလအား လှူဒါန်း၏။ ထိုအလှူသည် ဒါယကာကြောင့် စင်ကြယ်ပေ၏ဟု ဟောကြားတော်မူခဲ့၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ ရဟန်းဒုဿီလက ဒါယကာတို့အလှူကို သုတ်သင်နိုင်ပုံကို နောက်ကျိနေသော ရေဖြင့် ရွံ့ညွှန်အညစ်အကြေးများ ဆေးကြောနိုင်ပုံဖြင့် လည်းကောင်း၊ ဘောဇဉ်သည် အရသာမရှိသော်လည်း ဆာလောင်ခြင်း၊ အားနည်းခြင်းကို ပယ်ဖျောက်နိုင်ပုံဖြင့် လည်းကောင်း ဥပမာ ပြုသေး၏။]

## ၉။ ရေမှာ အသက်ရှိသလော

'အရှင် နာဂသေန ဘုရား၊ ရေကို ကျိုချက် လိုက်သောအခါ အသံ မျိုးစုံ မြည်လာ၏။ မည်သို့ပါနည်း။ ရေမှာ အသက် ရှိပါသလော။ ပျော်ရွှင်မြူးထူး၍ အသံပြုပါသလော။ အခြားသော အရာဝတ္ထုတို့ ဖိနှိပ်ကြိတ်ခြေခြင်းကို ခံရ၍ အသံပြုပါသလော'

'မင်းမြတ်၊ ရေမှာအသက်မရှိပေ။ မီးအပူရှိန် ပြင်းထန်သောကြောင့်သာ အသံထွက်ပေ၏'

'အရှင်ဘုရား၊ ဤလောက၌ အချို့သောတိတ္ထိတို့သည် ရေမှာ အသက်ရှိ၏ဟုဆိုကာ ရေစိမ်းကို မသောက်ကြကုန်။ ကျိုချက်ထားသော ရေကိုသာ သောက်ကြကုန်၏။ သကျနွယ်ဖွား ရဟန်းများသည် ရုပ်ဣန္ဒြေတစ်ခုသာရှိသောအသက်ကို ညှဉ်းဆဲကြကုန်အံ့ဟု ရေစိမ်းသောက်သော ရဟန်းများကို ကဲ့ရဲ့ကြကုန်၏။ နှိမ့်ချကြကုန်၏။ တိတ္ထိတို့၏ ဤကဲ့သို့သော ကဲ့ရဲ့နှိမ့်ချခြင်းကို ပယ်ရှားတော်မူပါလော့'

'မင်းမြတ်၊ ထုံးအိုင်၊ ရေကန်၊ မြစ်ချောင်း၊ အိုင်ကြီး၊ တစ်ဖက်ဆည်ကန်၊ ချောက်၊ ချောက်လက်တက်၊ ရေတွင်း၊ နိမ့်ဝှမ်းရာ အရပ်၊ လေးထောင့်ကန်တို့၌ တည်ရှိသောရေသည် လေပူ နေဒဏ် ပြင်းထန်လှသဖြင့် လျော့နည်းသွား၏။ ကုန်ခန်းသွား၏။ ထိုရေတို့သည် အသံမြည်ကြပါသလော'

အရှင်ဘုရား၊ မမြည်ကြပါ'

'မင်းမြတ်၊အခြား အကြောင်းတစ်မျိုးကိုလည်း နာဦးလော့။ ရေနှင့်ဆန်ကို အိုး၌ထည့်ကာ မီးဖိုပေါ်သို့ မတင်ရသေး။ ထိုရေသည် အသံထွက်ပါသလော'

'အရှင်ဘုရား၊ အသံမထွက်ပါ။ မတုန်မလှုပ်ဘဲ ငြိမ်သက်လျက်သာ ရှိနေပါ၏'

'မင်းမြတ်၊ ထိုရေကိုပင် မီးဖိုပေါ်တင်၍ မီးပြင်းတိုက်လိုက်သောအခါ ငြိမ်သက်ပါ သေးသလော'

'အရှင်ဘုရား၊ မငြိမ်သက်တော့ပါ။ ဆူဝေပွက်ထလာပေ၏'

'မင်းမြတ်၊ ပကတိရေက အဘယ့်ကြောင့် ဆူဝေ ပွက်ထလာပါသနည်း'

'အရှင်ဘုရား၊ ပကတိရေက ဆူဝေပွက်ထလာသည် မဟုတ်ပါ။ မီးပြင်းထိုးလိုက်သောကြောင့် ဆူဝေပွက်ထလာခြင်း ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအကြောင်းကြောင့်လည်း ရေမှာအသက်မရှိပုံကို သိရှိပါလော့။ နောက် တစ်ကြောင်းကိုလည်း နာဦးလော့၊ အိမ်တိုင်းအိမ်တိုင်း၌တည်ထားသော ရေအိုးများရှိ ရေတို့သည် ဆူဝေပွက်ထလာကြပါသလော'

'အရှင်ဘုရား၊ ဆူဝေ ပွက်ဆ၍ မလာကြပါ'

'မင်းမြတ်၊ မဟာသမုဒ္ဒရာရေတို့ ဆူပွက်ထပုံကို ကြားဖူးပါ၏လော'

'အရှင်ဘုရား၊ ကြားဖူးပါ၏။ ကိုယ်တိုင်လည်းမြင်ဖူးပါ၏။ မဟာသမုဒ္ဒရာရှိ လှိုင်းတံပိုးကြီး တို့သည် အတောင်တစ်ရာ၊ အတောင်နှစ်ရာထိအောင် မြင့်တက်ကြပါကုန်၏'

'မင်းမြတ်၊ ရေအိုးထဲရှိရေတို့သည် အဘယ့်ကြောင့် ငြိမ်သက်နေကြပါသနည်း၊ အဘယ့်ကြောင့် အသံမထွက်ကြပါသနည်း။ သမုဒ္ဒရာရှိရေတို့သည် အဘယ့်ကြောင့် ဆူဝေပွက်ထကြပါသနည်း။ အသံထွက်ကြပါသနည်း။

'အရှင်ဘုရား၊ အဟုန်ပြင်းထန်လှသောမုန်တိုင်းများ အတိုက်ခံရသဖြင့် မဟာသမုဒ္ဒရာရှိရေတို့သည် ဆူဝေပွက်ထ ကြပါကုန်၏။ အသံထွက်ကြပါကုန်၏။ ရေအိုးထဲရှိ ရေတို့ကား တစ်စုံတစ်ရာနှင့် အတိုက်မခံရသဖြင့် ငြိမ်သက်နေကြပါ၏။ အသံမထွက်ဘဲ နေကြပါ၏'

'မင်းမြတ်၊ မဟာသမုဒ္ဒရာရေတို့သည် လေအဟုန်ကြောင့် ဆူဝေပွက်ထလာကြရသကဲ့သို့၊ အသံထွက်လာကြရသကဲ့သို့ မီးဖိုပေါ် တင်ထားသော ရေသည်လည်း အပူရှိန်ပြင်းထန်လှသောကြောင့်သာလျှင် ဆူဝေပွက်ထလာပေ၏။ အသံထွက်လာပေ၏'

'မင်းမြတ်၊ နွားရေဖြင့် ကြက်သည့် စည်တွင် အသက် ရှိသလော'

'အရှင်ဘုရား၊ မရှိပါ'

'မင်းမြတ်၊ အသက်မရှိပါဘဲလျက် အဘယ့်ကြောင့် အသံမြည်လာပါသနည်း'

'အရှင်ဘုရား၊ ယောကျ်ား မိန်းမတစ်ယောက်ယောက်က တီးလိုက်သောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ အသက်မရှိသောစည်ကို လူက တီးလိုက်သဖြင့် အသံထွက်လာ သကဲ့သို့ပင် မီးဖိုပေါ်မှာ တင်ထားသော ရေသည်လည်း အပူရှိန်ပြင်းထန်လှသောကြောင့်သာလျှင် ဆူဝေပွက်ထလာပေ၏။

'မင်းမြတ်၊ သင်မင်းမြတ်အား မေးစရာရှိသေး၏။ ဤသို့မေးသဖြင့် ဤပြဿနာကို ကောင်းကောင်းကြီး အဆုံးအဖြတ်ပေးနိုင်မည် ဖြစ်၏။ မင်းမြတ်၊ မည်သို့ပါနည်း။ ပူသောအိုးအားလုံးရှိရေတို့သည် ဆူဝေပွက်ထ ကြပါသလော။ အသံထွက်ကြပါသလော။ သို့မဟုတ် ပူသော အိုးများတွင် အိုးအချို့မှာရှိသော ရေတို့သာလျှင် ဆူဝေပွက်ထ ကြပါသလော၊ အသံထွက်ကြပါသလော'

'အရှင်ဘုရား၊ ပူသောအိုးများတွင် အချို့သောအိုးများမှာရှိသော ရေတို့သာလျှင် ဆူဝေပွက်ထကြပါကုန်၏။ အသံထွက်ကြပါကုန်၏'

'မင်းမြတ်၊ ဤသို့ဆိုလျှင် ရေမှာအသက်ရှိ၏ဟူသော အယူကိုပယ်စွန့်သင့်၏။ အကယ်၍ ပူသောအိုးအားလုံးရှိ ရေတို့သည် ဆူဝေပွက်ထကုန် ငြားအံ့။ အသံထွက်ကြကုန်ငြားအံ့။ ထိုသို့ဆိုလျှင် ရေမှာအသက်ရှိ၏ဟု ယူသင့်ပေ၏။ အသံထွက်သောရေသည် အသက်ရှိ၏။ အသံမထွက်သောရေကား အသက်မရှိဟူ၍ နှစ်မျိုးနှစ်စား ရှိမနေသင့်ပေ။

'မင်းမြတ်၊ ကိုယ်ခန္ဓာကြီးမား၍ အမုန်ယစ်သော ဆင်ပြောင်ကြီးတို့သည် နှာမောင်းဖြင့် ရေကို စုပ်ယူကာ ပါးစပ်သို့ သွင်းကုန်၏။ ဝမ်းထဲသို့ မျိုချကုန်၏။ အတောင်တစ်ရာမက

ရှည်လျားသော သင်္ဘောကြီးတို့သည် လေးလံစွာသော ကုန်ပစ္စည်းတို့ကို တင်ဆောင်လျက် မဟာသမုဒ္ဒရာ ရေအပြင်၌ ကူးသွားကြကုန်၏။ ယူဇနာ တစ်ရာမက ကြီးမားလှကုန်သောတိမိ၊ တိမိင်္ဂလ အမည်ရှိကုန်သော ငါးကြီးတို့သည်လည်း မဟာသမုဒ္ဒရာရေထဲ၌ ငုပ်လျှိုးကာ ရေ အမြောက်အမြား စုပ်၍လည်း ယူကြကုန်၏။ ထွေး၍လည်း ထုတ်ကြကုန်၏။ မင်းမြတ်၊ ဤမျှကြီးမားလှသော သတ္တဝါနှင့် သင်္ဘောတို့၏ ဖိနှိပ်ကြိတ်ခြေခြင်းကို ခံရပါလျက် ထိုရေသည် အသံမထွက်ပေ။ ထို့ကြောင့်ရေမှာ အသက်မရှိကြောင်းကို မှတ်ယူပါလော့'

'အရှင်ဘုရား ကောင်းလှပါပေ၏'

[ရေမှာ အသက်ရှိဟု ယူဆသော တိတ္ထိတို့ကား နိဂဏ္ဌနာဋပုတ္တဆရာကြီးနှင့် သူ၏ တပည့် များ ဖြစ်ကြ၏။ သူတို့သည် သစ်ပင်မှာလည်း အသက်ရှိ၏။ မြေကြီးမှာလည်း အသက်ရှိ၏ဟု လည်းယူဆကြ၏။ အခြားသက်ရှိ ဝတ္ထုတို့လည်း မြောက်မြားစွာ ရှိသေး၏။ ယုတ်စွအဆုံး အမှုားတကာမစင်ကုန်းသော တုတ်ချောင်းမှာပင် အသက်ရှိနေသည်ဟု ယူဆကာ ထိုသက်ရှိကို မညှဉ်းဆဲလိုသဖြင့် မိမိလက်ဖြင့်သာ မစင်ကုန်းကြ၏။ သူတစ်ပါးကို နှိပ်စက်ကလူ မပြုလိုသော အဟိံသာ သဘောဖြစ်သော်လည်း တစ်ဖက်စွန်းသို့ ရောက်နေကြ၏။ ထို့ကြောင့် ဘုရားရှင်က ထိုကဲ့သို့တစ်ဖက်စွန်းသို့ မရောက်ကြစေရန် ဓမ္မစကြာ ဒေသနာတော်မှစ၍ ဟောကြား ဆုံးမတော်မူပေ၏။]

❁ ❁ ❁




## ၁။ ပါဠိ သင်ခြင်း စသည်တို့သည် သံသရာ ချဲ့ထွင်တတ်သလော

'အရှင် နာဂသေန ဘုရား၊ ရဟန်းတို့၊ သံသရာကို မချဲ့ထွင်တတ်သော နိဗ္ဗာန တရားတို့၌ မွေ့လျော်ကုန်သည် ဖြစ်၍၊ ပျော်ပိုက်ကုန်သည် ဖြစ်၍ နေကြကုန်လော့ ဟူ၍ ဘုရားရှင်ဟောကြားတော်မူခဲ့၏။ ထို နိဗ္ဗာန တရားဟူသည် အဘယ်ပါနည်း'

'မင်းမြတ်၊ သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ် ဟူသော ဖိုလ်လေးပါးတို့ ပေတည်း'

'အရှင်ဘုရား၊ အကယ်၍ ဖိုလ်လေးပါးတို့သည်သာ နိဗ္ဗာနတရား ဖြစ်ကုန်ငြားအံ့။ ဤရဟန်းတို့သည် အဘယ့်ကြောင့် ဘုရားဟော ပါဠိတော်များကို သင်ယူနေပါသနည်း၊ အဘယ့်ကြောင့် အဋ္ဌကထာများ သင်ယူနေကြပါသနည်း၊ အဘယ့်ကြောင့် အမှုသစ်များ ပြုလုပ်နေကြပါသနည်း။ အဘယ့်ကြောင့် အလှူပေးနေကြပါသနည်း။ အဘယ့်ကြောင့် ပူဇော်ပွဲများ ကျင်းပနေကြပါသနည်း။ ထိုရဟန်းများသည် ဘုရားရှင်ပယ်တော်မူထားသော အမှုတို့ကို ပြုနေကြသည် မဟုတ်ပါလော'

'မင်းမြတ်၊ ဘုရားဟော ပါဠိတော်များသင်ယူခြင်း၊ အဋ္ဌကထာများ သင်ယူခြင်း၊ အမှုသစ်များ ပြုလုပ်ခြင်း၊ အလှူပေးခြင်းနှင့် ပူဇော်ပွဲများ ကျင်းပခြင်းတို့သည် နိဗ္ဗာန တရားသို့ ရောက်ခြင်းငှာသာ ဖြစ်ကြကုန်၏။ ဥပမာအားဖြင့် အလွန်တရာကြီးမားလှသော သရက်ပင်ထိပ်ဖျား၌ အသီးခိုင်ကို လှေကားမထောင်ရဘဲ လွယ်လင့်တကူ ဆွတ်ခူးရာ၏။ တန်ခိုးဣဒ္ဓိပါဒ် မရှိသော သူကား သစ်သားနှင့်နွယ်တို့ကို လှေကားဖြစ်အောင် ဖွဲ့ချည်ပြီးလျှင် ထိုလှေကားကိုထောင်၍ တက်ကာ သရက်သီးကို ဆွတ်ခူးရာ၏။ ထိုယောကျ်ား၏ လှေကားဖြစ်အောင် ပြုလုပ်ခြင်းသည် သရက်သီး ကိုရအောင် ပြုလုပ်ခြင်းပင်ဖြစ်၏။ ဤအတူသာပင် ပင်ကိုသဘောအားဖြင့် သန့်ရှင်းစင်ကြယ်ကာ ရှေးရှေးကပါရမီကုသိုလ် အထုံပါခဲ့ပြီးသော ရဟန်းတို့ကား စိတ္တက္ခဏ တစ်ချက်မျှဖြင့်ပင် နိဗ္ဗာနတရားကို ရရှိကြကုန်၏။ ပညာတည်းဟူသောမျက်စိ၌ ကိလေသာတည်းဟူသော

တိမ်သလာ အားကြီးသော ရဟန်းသည်ကား ဘုရားဟော ပါဠိတော်များ သင်ကြားခြင်း စသည်ဖြင့် သစ္စာလေးပါးကို ထိုးထွင်း၍ သိကြကုန်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် အမတ်၊ စစ်သည်ဗိုလ်ပါ၊ တံခါးစောင့်၊ ကိုယ်ရံတော်၊ အခြားအမှုထမ်းများနှင့်အတူ ပြည့်ရှင်မင်းထံ ခစား၏။ ပြည့်ရှင်မင်း၏ အမှုကိစ္စကို ဆောင်ရွက်၏။ ထိုယောကျ်ား၏ အမှုကိစ္စတစ်ခုခု ပေါ်ပေါက်လာသော အခါ ထိုသူတို့က ကူညီဆောင်ရွက်၍ ပေးကြ၏။ ဤအတူသာပင် ဘုရားဟောပါဠိတော် များသင်ယူခြင်း စသည်တို့သည် ကျေးဇူးများပေကုန်၏။ ထိုရဟန်း၏ နိပ္ပပဥ္စ တရားများရရှိရေးတွင် အထောက်အကူ ပြုကြပေ၏။

'မင်းမြတ်၊ အကယ်၍ လူအားလုံးသည် ပဋိသန္ဓေအားဖြင့် စင်ကြယ်နေကြပါလျှင်ကား ဆုံးမစကားပြောကြားနေရန် မလိုပေ။ သို့ရာတွင် ထိုသို့ သူ့အလိုလို စင်ကြယ်သူဟူ၍ကား မရှိနိုင်ချေ။ သူ့အလိုလို မစင်ကြယ်နိုင်သေး၍သာလျှင် တရားနာခြင်း၊ ပါဠိတော်များ သင်ယူခြင်း စသည်ကို ပြုနေကြရ၏။ ပါရမီကုသိုလ်များ ပြည့်ဝစွာဆည်းပူးခဲ့၍ ပညာပါရမီ၏ အထွတ်အထိပ်သို့ ရောက်တော်မူသော အရှင်သာရိပုတ္တရာ သည်ပင် တရားနာခြင်းနှင့် ကင်းကွာ၍ ရဟန္တာ မဖြစ်နိုင်ချေ။ ထို့ကြောင့် တရားနာခြင်း၊ ပါဠိတော် အဋ္ဌကထာများ သင်ယူခြင်း စသည်တို့သည် ကျေးဇူးများကြပေ၏။ ထို့ကြောင့် ထိုအမှုကိစ္စတို့ကိုလည်း နိပ္ပပဥ္စတရားဟု ရေတွက်အပ်ပေကုန်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[တရားနာခြင်း၊ ပါဠိတော် အဋ္ဌကထာများ သင်ယူခြင်း စသည်တို့သည်လည်း တိုက်ရိုက်အားဖြင့် နိပ္ပပဥ္စတရားတို့တွင် မပါဝင်သော်လည်း နိပ္ပပဥ္စ တရားတို့ရရှိခြင်း၏ အကြောင်းဖြစ်သောကြောင့် တင်စားသောအားဖြင့် နိပ္ပပဥ္စတရားဟု ခေါ်ကြရပေ၏။ ထိုမှ အပြန်အားဖြင့် တဏှာ၊ မာန၊ ဒိဋ္ဌိတို့ ကားသံသရာကို ချဲ့ထွင်တတ်သောကြောင့် ပပဉ္စတရားတို့မည်ကုန်၏။]

[ကျမ်းရင်း၌ ပါဠိတော် သင်ယူရခြင်း စသည်ကို လယ်ကွက်ကို လုံခြုံအောင် စည်းရိုးကာခြင်းဖြင့် လည်းကောင်း၊ ပစ္စည်းဥစ္စာပေးကမ်း၍ အသင်းအပင်းဖွဲ့ပြီးလျှင် ထိုအသင်းအပင်း အားကိုးဖြင့် မိမိအလိုရှိရာ အမှုကိစ္စကို ပြီးစီးအောင် ဆောင်ရွက်ခြင်းဖြင့် လည်းကောင်း ဥပမာပြုသေး၏။]

## ၂။ လူဝတ်ကြောင် ရဟန္တာသည် အဘယ့်ကြောင့် လူဝတ်နှင့်ဆက်၍ မနေနိုင်သနည်း

'အရှင်နာဂသေနဘုရား၊ လူ့အသွင်အပြင်ဖြင့် အရဟတ္တဖိုလ်သို့ ရောက်သောသူအတွက် အလားအလာ နှစ်မျိုးတို့သာ ရှိကုန်၏။ အခြားသော အလားအလာတို့ မရှိကြကုန်။ ထိုလူဝတ်ကြောင် ရဟန္တာသည် ထိုနေ့မှာပင် ရဟန်းသော်လည်း ပြုရာ၏။ ပရိနိဗ္ဗာန်သော်လည်း ပြုရာ၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပေကုန်၏။

'အရှင်ဘုရား၊ ထိုလူဝတ်ကြောင် ရဟန္တာသည် ထိုနေ့၌ ကမ္မဝါဆရာ၊ ဥပဇ္ဈာယ်ဆရာနှင့် သပိတ်သင်္ကန်းတို့ကို အကယ်၍ မရနိုင်ငြားအံ့။ ထိုလူဝတ်ကြောင် ရဟန္တာသည် မိမိကိုယ်တိုင် ရဟန်းပြုပါမည်လော။ နေ့ရက်ကို ကျော်လွန်ပါမည်လော၊ တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသော ရဟန္တာတစ်ပါးပါး ကြွလာ၍ ရဟန်းပြုပေးပါမည်လော။ သို့မဟုတ် ပရိနိဗ္ဗာန်ပြုရပါမည်လော'

'မင်းမြတ်၊ ထိုလူဝတ်ကြောင် ရဟန္တာသည် ကိုယ်တိုင်ကား ရဟန်း မပြုပေရာ၊ ကိုယ်တိုင်ရဟန်းပြုလျှင် ရဟန်းအသွင်ကို ခိုးယူသူ ဖြစ်ပါလိမ့်မည်။ ထိုနေ့ရက်ကိုလည်း မကျော်လွန်စေနိုင်။ တန်ခိုးဣဒ္ဓိပါဒ်နှင့်ပြည့်စုံသော ရဟန္တာတစ်ပါးသည် ကြွလာသည်လည်း ရှိရာ၏။ မကြွလာသည်လည်း ရှိရာ၏။ မကြွလာ၍ ထိုနေ့မှာ ရဟန်းမပြုနိုင်လျှင်ကား ပရိနိဗ္ဗာန်ပြုရပေ၏'

'အရှင်ဘုရား၊ ထိုရဟန္တာပုဂ္ဂိုလ်အဖို့ အရဟတ္တဖိုလ်ကြောင့် အသက်သေဆုံးရပါလျှင် အရဟတ္တဖိုလ်သည် ငြိမ်းချမ်းသောဂုဏ်ကို စွန့်လွှတ်တော့သည် မဟုတ်ပါလော'

'မင်းမြတ်၊ လူ၏အသွင်သည် မညီညွတ်ပေ။ အားနည်း၏။ ထို့ကြောင့် ထိုလူဝတ်ကြောင် ရဟန္တာပုဂ္ဂိုလ်သည် ထိုနေ့မှာပင် ရဟန်းသော်လည်း ပြုရာ၏။ ပရိနိဗ္ဗာန်သော်လည်း ပြုရာ၏။ မင်းမြတ်၊ ဥပမာအားဖြင့် သတ္တဝါအားလုံးကို အသက်ရှင်စေတတ်သော အစားအစာသည် အစာ မကြေသော၊ ပါစကတေဇောဓာတ် အားနည်းသူ၏ အသက်ကိုကား သေစေတတ်၏။ ဤသို့ ပါစကတေဇောဓာတ် အားနည်းခြင်းသည် ဝမ်း၏အပြစ်သာတည်း၊ အစားအစာ၏ အပြစ်မဟုတ်ပေ။ ဤအတူသာပင် အသွင်အပြင် အားနည်းခြင်းသည် လူ့အသွင်အပြင်၏ အပြစ်သာတည်း။ အရဟတ္တဖိုလ်၏ အပြစ်မဟုတ်ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျုမ်းရင်း၌ လူ့အသွင်အပြင်၏ အပြစ်သာဖြစ်ခြင်းကို အနည်းငယ်မျှသော မြက်၊ ဝါးခြမ်းပေါ်သို့ ကျောက်ခဲကိုတင်လျှင် အလေးဒဏ် မခံနိုင်သောကြောင့် ပြိုကျရပုံဖြင့်လည်းကောင်း၊ အမျိုးယုတ်သော ယောကျ်ားသည် မင်းအဖြစ်ကို ရရှိသော်လည်း မကြာမီပင် လျှောကျပျက်စီးရပုံဖြင့် လည်းကောင်း ဥပမာပြုသေး၏။]

## ၃။ ရဟန္တာသည် သတိမေ့တတ်သလော

'အရှင်နာဂသေနဘုရား၊ ရဟန္တာပုဂ္ဂိုလ်သည် သတိမေ့တတ်ပါသလော'

'မင်းမြတ်၊ ရဟန္တာပုဂ္ဂိုလ်သည် သတိမမေ့တတ်ပေ'

'အရှင်ဘုရား၊ ရဟန္တာမှာ အာပတ်သင့်သေးသလော'

'မင်းမြတ်၊ သင့်ပေ၏'

'အရှင်ဘုရား၊ အဘယ့်ကြောင့် သင့်ပါသနည်း'

'မင်းမြတ်၊ ကုဋိကာရ သိက္ခာပုဒ်ကြောင့် လည်းကောင်း၊ သဥ္စရိတ္တ သိက္ခာပုဒ်ကြောင့် လည်းကောင်း၊ နေလွဲသောအခါ နေမလွဲသေးဟု ထင်မှတ်၍ စားသောက်မိသောကြောင့် လည်းကောင်း၊ တားမြစ်ထားသော အစားအစာကို တားမြစ်မထားရသေး ထင်မှတ်၍ စားသောက်မိသောကြောင့် လည်းကောင်း၊ အတိရိတ်နည်းကံ မပြုသေးသည်ကို ပြုပြီးပြီ ထင်မှတ်မိသောကြောင့် လည်းကောင်း အာပတ်သင့်ပေ၏'

'အရှင်ဘုရား၊ အာပတ်သင့်သောထိုရဟန်းတို့သည် သိက္ခာပုဒ်ကိုမရိုသေသောကြောင့် လည်းကောင်း၊ သတိမေ့လျော့သောကြောင့် လည်းကောင်း ဤအကြောင်းနှစ်ပါးသာ ရှိကုန်၏ ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ရဟန္တာပုဂ္ဂိုလ်မှာ သိက္ခာပုဒ်ကို မရိုသေမှုတည်း ဟူသော အကြောင်းကြောင့် အာပတ်သင့်ပါသလော'

'မင်းမြတ်၊ မရိုသေမှုဟူသော အကြောင်းကြောင့် အာပတ်မသင့်ပေ'

'အရှင်ဘုရား၊ ရဟန္တာပုဂ္ဂိုလ်မှာ အာပတ်သင့်သေးလျှင် သိက္ခာပုဒ်ကို မရိုမသေ မရှိလျှင် သတိမေ့လျော့မှု ရှိ၍ပင် မဟုတ်ပါလော'

'မင်းမြတ်၊ ရဟန္တာပုဂ္ဂိုလ်မှာ အာပတ်သင့်၏၊ သတိမေ့လျော့ခြင်းကား မရှိပေ'

'အရှင်ဘုရား၊ သတိမေ့လျော့ခြင်း မရှိဘဲ အာပတ်သင့်ရခြင်း၏ အကြောင်းကို မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ညစ်နွမ်းသော သဘောရှိသော အပြစ်တို့သည် လောကအပြစ်၊ ပညတ်တော်အပြစ်ဟူ၍ နှစ်မျိုးရှိကုန်၏။ ထိုတွင် အကုသိုလ် ကမ္မပထတရား ဆယ်ပါးတို့သည် လောကအပြစ် ဖြစ်ကြ၏။ လောက၌ လူတို့အဖို့ကဲ အပြစ်မရှိစေသော်လည်း ရဟန်းများအတွက် မလျောက်ပတ် မအပ်စပ်သော အမှုများ ရှိကြ၏။ ထိုအမှုများကို ရာသက်ပန်မကျူးလွန်စေရန် ဘုရားရှင်က သိက္ခာပုဒ်များ ပညတ်တော်မူ၏။ မင်းမြတ်၊ နေလွဲညစာ စားခြင်းသည် လူတို့အတွက် အပြစ်မရှိ၊ ရဟန်းတို့မှာသာ အပြစ်ရှိ၏။ မြက်၊ သစ်ပင်ကို ဖျက်ဆီးခြင်းသည် လူတို့အတွက် အပြစ်မရှိ။ ရဟန်းတို့မှာသာ အပြစ်ရှိ၏။ ရေထဲ၌ မြူးထူးပျော်ရွှင်ခြင်းသည် လူတို့အတွက် အပြစ်မရှိ။ ရဟန်းတို့မှာသာ အပြစ်ရှိ၏။ ထိုအမှုတို့သည် ဘုရားသာသနာတော်၌ အပြစ်တို့တည်း။ ထိုအပြစ်တို့ကား ပညတ်တော်အပြစ်တို့ ဖြစ်ကြပေ၏။ ရဟန္တာပုဂ္ဂိုလ်သည် လောက၌ အပြစ်ကိုကျူးလွန်ခြင်းမပြုချေ။ ပညတ်တော်အပြစ်ကိုကားမသိသဖြင့် သင့်ကောင်း သင့်ပေရာ၏။ အချို့သောရဟန္တာ သိစေရာအလုံးစုံကို မသိနိုင်ချေ။ ယောကျ်ား မိန်းမ ရှိရှိ သမျှ တို့၏ အမျိုးအမည်ကို မသိနိုင်ပေ။ ကမ္ဘာပေါ်ရှိ လမ်းအားလုံးတို့ကို မသိနိုင်ပေ။ မဂ်ဖိုလ်နိဗ္ဗာန်ကိုသာ

သိပေရာ၏။အဘိညာဉ်ခြောက်ပါးနှင့်ပြည့်စုံသော ရဟန္တာသည် မိမိအရာမှာသာသိနိုင်၏။ သဗ္ဗညုတ ဉာဏ်တော်ကြီးသခင် ဘုရားရှင်တို့သာလျှင် အကြွင်းမဲ့ ဥသုံ အလုံးစုံကို သိနိုင်ပေရာ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[အကုသိုလ် ကမ္မပထတရား၊ ဆယ်ပါးတို့ကား သူ့အသက် သတ်ခြင်း၊ သူ့ဥစ္စာခိုးခြင်း၊ သူ့သားမယား ပြစ်မှားခြင်းဟူသော ကာယကံဒုစရိုက်သုံးပါး၊ လိမ်လည်ပြောကြားခြင်း၊ ကုန်းတိုက်ခြင်း၊ ဆဲရေးတိုင်းထွာခြင်း၊ အတင်းအဖျင်းပြောခြင်းဟူသော ဝစီကံ ဒုစရိုက်လေးပါး၊သူတစ်ပါးစည်းစိမ်ကို ရယူလိုခြင်း၊ သူတစ်ပါးကို ပျက်စီးစေလိုခြင်း၊ မှားယွင်းသောအယူဟူသော မနောကံ ဒုစရိုက်သုံးပါးတို့ ဖြစ်ကြ၏။ ထိုဒုစရိုက် ဆယ်ပါးတို့မှာ အပါယ်သို့လားစေနိုင်သောကြောင့် အကုသလ ကမ္မပထတရားဟု ခေါ်ရပေ၏။]

# ၄။ လောကဌ် မရှိသောအရာကား အဘယ်နည်း

'အရှင်နာဂသေနဘုရား၊ လောကဌ် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ သာဝကတို့ ရှိကြကုန်၏။ စကြဝတေးမင်း၊ ပဒေသရာဇ်မင်းတို့ ရှိကြကုန်၏။ နတ်၊ လူ၊ လူချမ်းသာ၊ လူဆင်းရဲ၊ သူတော်ကောင်း၊ သူယုတ်မာတို့ ရှိကြကုန်၏။ ယောကျ်ားမှာ ဣတ္ထိလိင် ပေါ်လာခြင်း၊ မိန်းမမှာ ပုရိသလိင် ပေါ်လာခြင်း၊ ကုသိုလ်ကံ၊ အကုသိုလ်ကံ၊ ထိုကံ၏အကျိုးကို ခံစားရသူများ၊ ဥထဲ၌ဖြစ်သော အဏ္ဍဇ သတ္တဝါ၊ သားအိမ်ထဲ၌ဖြစ်သော ဇလာဗုဇသတ္တဝါ၊ ရေညှိ စသည်ကို့ ဖြစ်သော သံသေဒဇသတ္တဝါ၊ ကိုယ်ကောင်ထင်ရှား ဘွားခနဲဖြစ်လာသော ဥပပတ္တိသတ္တဝါတို့ ရှိကြကုန်၏။ အခြေမရှိသောသတ္တဝါ၊ အခြေနှစ်ချောင်းရှိသော သတ္တဝါ၊ အခြေလေးချောင်းရှိသောသတ္တဝါ၊ အခြေများစွာ ရှိသော သတ္တဝါ တို့ရှိကြကုန်၏။ ဘီလူး၊ ရက္ခိုက်၊ ကုမ္ဘဏ်၊ အသုရာ၊ ဒါနော၊ ဂန္ဓဗ္ဗနတ်၊ ပြိတ္တာ၊ မြေဖုတ်ဘီလူးတို့ ရှိကြကုန်၏။ ကိန္နရာ၊ မြွေ၊ နဂါး၊ သမင်၊ ဝက်၊ ခြင်္သေ့၊ ကျားသစ်၊ ဝံ၊ တောခွေး၊ မြေခွေး၊ အောင်း၊ ငှက်အမျိုးမျိုးတို့ရှိကြကုန်၏။ ရွှေ၊ ငွေ၊ ပတ္တမြား၊ ခရုသင်း၊ ကျောက်သလင်း၊ သန္တာ၊ ပတ္တမြားနီ၊ ပတ္တမြားပျောက်၊ ကြောင်မျက်ရွဲ၊ စိန်၊ ဖန်၊ ကြေးမည်း၊ ကြေးနီ၊ ကြေးပုပ်၊ ကြေးဖြူ၊ ခေါမတိုင်းဖြစ် အထည်၊ ပိုးချည်၊ ဝါချည်၊ လျှော်ချည် တို့ဖြင့်ရက်ထားသော အထည်၊ သားမွေးကမ္ဗလာ၊ သလေးစပါး၊ ကောက်ကြီးစပါး၊ မုယောစပါး၊ ဆတ်၊ လူး၊ ပြောင်း၊ နတ်ကောက်၊ ပဲနောက်၊ ပဲကြီး၊ နှမ်း၊ ကုလားပဲ၊ နံ့သာမျိုးစုံ၊ မြက်၊ ချုံ၊ နွယ်၊ သစ်ပင်၊ ဆေးပင်၊ တောစိုးသစ်ပင်၊ မြစ်၊ တောင်၊ သမုဒ္ဒရာ၊ ငါး၊ လိပ် တို့သည် ဤလောကဌ်ရှိကြကုန်၏။ အရှင်ဘုရား၊ ဤလောကဌ် မရှိသောအရာကို မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ လောကဌ် နာမ်ခန္ဓာမရှိသော အသညသတ် သတ္တဝါဖြစ်စေ၊ နာမ်ခန္ဓာပါရှိသော အခြားသတ္တဝါများ ဖြစ်စေ၊ မအိုရ၊ မသေရ ဟူ၍ မရှိပေ။ သင်္ခါရတရားဟူသမျှ မြဲသည်ဟူ၍မရှိပေ။

မဖောက်မပြန် မှန်ကန်သော ပရမတ် သဘောအားဖြင့် သတ္တဝါဟူ၍ မရှိပေ။ ဤအရာ သုံးမျိုးတို့ကား လောက၌မရှိသော အရာတို့ပေတည်း'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၅။ နိဗ္ဗာန်မှာ အကြောင်းရှိသလော

'အရှင်နာဂသေနဘုရား၊ လောက၌ ကံကြောင့် ဖြစ်သောအရာ၊ စိတ်ကြောင့် ဖြစ်သောအရာ၊ ဥတုကြောင့် ဖြစ်သောအရာတို့ ထင်ရှား ရှိကြပါကုန်၏။ ထိုအကြောင်းအရာ တို့ကြောင့် မဖြစ်ပေါ်သောအရာကို မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ကောင်းကင်နှင့် နိဗ္ဗာန်တို့ပေတည်း'

'အရှင်ဘုရား၊ ဘုရားရှင်၏စကားတော်ကို မချေဖျက်ပါလင့်။ မသိဘဲ မဖြေကြားပါလင့်'

'မင်းမြတ်၊ ငါသည် မည်သို့ ပြောဆိုရပါအံ့နည်း'

'အရှင်ဘုရား၊ ကောင်းကင်သည် ထိုအကြောင်းတို့ကြောင့်မဖြစ်ဟူသည်သာရှိပါစေတော့၊ ဘုရားရှင်သည် အရာမက များလှစွာကုန်သောအကြောင်းတို့ဖြင့် တပည့်သာဝကတို့အား နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်းငှာ အကြောင်းဖြစ်သော မဂ်ကို ဟောကြားတော်မူ၏။ သို့ပါလျက် အရှင်ဘုရားသည်ကား နိဗ္ဗာန်မှာ အကြောင်းမရှိဟု မိန့်ကြားတော်မူဘိ၏'

'မင်းမြတ်၊ ဘုရားရှင်သည် အရာမက များလှစွာကုန်သော အကြောင်းတို့ဖြင့် တပည့်သာဝကတို့အား နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းငှာ အကြောင်းဖြစ်သော မဂ်ကို ဟောကြားတော်မူသည်ကား မှန်ပေ၏။ သို့သော်လည်း နိဗ္ဗာန်ဖြစ်ကြောင်းကိုကား ဟောကြားတော်မမူပေ'

'အရှင်ဘုရား၊ နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းငှာ အကြောင်းရှိ၏။ နိဗ္ဗာန်ဖြစ်ကြောင်းကား မရှိဟူသော စကား၌ တပည့်တော်သည် အမှောင်မိုက်ဆုံးသော အမိုက်တိုက်ကြီးထဲသို့ ကျရောက်ရပါ၏။ အရှုပ်ထွေးဆုံးသော တောကြီးထဲသို့ဝင်ရောက်ရပါ၏၊ အရှင်ဘုရား ဥပမာအားဖြင့် သား၏ဖခင်ဟူ၍ ထင်ရှားရှိသောကြောင့် ဖခင်၏ဖခင်ဟုလည်း ရှိရပေ၏။ တစ်နည်းအားဖြင့် တပည့်၏ဆရာ ဟူ၍ ထင်ရှားရှိသောကြောင့် ဆရာ၏ဆရာ ဟူ၍လည်း ရှိရပေ၏။ တစ်နည်းအားဖြင့် အညွန့်၏ မျိုးစေ့ ဟူ၍လည်း ထင်ရှားရှိသောကြောင့် မျိုးစေ့၏မျိုးစေ့ ဟူ၍လည်း ရှိရပေ၏။ တစ်နည်းအားဖြင့် သစ်ပင် ချုံနွယ်၏အဖျားဟူ၍ ထင်ရှားရှိ သောကြောင့် အလယ်နှင့်အရင်းလည်း ရှိရပေ၏။ ဤအတူသာပင် အကယ်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းငှာ အကြောင်းရှိနေငြားအံ့။ နိဗ္ဗာန်အကြောင်းလည်း ရှိသင့်သည်သာ မဟုတ်ပါလော'

'မင်းမြတ်၊ နိဗ္ဗာန်ကို တစ်စုံတစ်ခုသောအကြောင်းကြောင့် မဖြစ်စေအပ်။ ထို့ကြောင့် နိဗ္ဗာန်၏ ဖြစ်ကြောင်းကို ဘုရားရှင် ဟောကြားတော်မမူပေ'

'အရှင်ဘုရား၊ နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းဌာသာ အကြောင်းရှိ၍ နိဗ္ဗာန်၏ ဖြစ်ကြောင်း မရှိပုံကို သိနိုင်စေရန် အကြောင်းပြ၍ မိန့်ကြားတော်မူပါလော'

'မင်းမြတ်၊ ထိုသို့သိလိုပါလျှင်ကား ရိုသေစွာနာကြားလော့။ အကြောင်းပြ၍ မိန့်ကြားပေအံ့။ မင်းမြတ်၊ ယောကျ်ားတစ်ယောက်သည် ပကတိခွန်အားဖြင့် ဤအရပ်မှနေ၍ ဟိမဝန္တာတောင်မင်းသို့ ချဉ်းကပ်နိုင်မည်လော'

'အရှင်ဘုရား၊ ချဉ်းကပ်နိုင်ပေ၏'

'မင်းမြတ်၊ ထိုယောကျ်ားသည် ပကတိခွန်အားဖြင့် ဟိမဝန္တာတောင်မင်းကို ဤအရပ်သို့ ဆောင်ယူနိုင်မည်လော'

'အရှင်ဘုရား၊ မဆောင်ယူနိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း၏ အကြောင်းဖြစ်သော မဂ်ကို ဟောပြောနိုင်ပေ၏။ နိဗ္ဗာန်၏ ဖြစ်ကြောင်းကိုကား မဟောပြနိုင်ပေ။ နိဗ္ဗာန်သည် အသင်္ခတ တရားဖြစ်သောကြောင့် ပေတည်း'

'အရှင်ဘုရား၊ နိဗ္ဗာန်ကို ကံ၊ စိတ်၊ ဥတု၊ အာဟာရဟူသေ ၁အကြောင်းလေးပါးတို့က မပြုပြင်အပ်ပါသလော'

'မင်းမြတ်၊ နိဗ္ဗာန်ကို ကံ၊ စိတ်၊ ဥတု၊ အာဟာရ ဟူသော အကြောင်းတရားလေးပါးတို့က မပြုပြင်အပ်ပေ၊ တစ်စုံတစ်ခုသော အကြောင်းတရားကမျှ မပြုပြင်အပ်ပေ။ နိဗ္ဗာန်ကို ဖြစ်၊ တည်၊ ပျက် ဟူသော ခဏသုံးပါးသို့ ရောက်နေဆဲ ဥပ္ပန္နတရားဟူ၍ လည်းကောင်း၊ ခဏသုံးပါးသို့ ရောက်ဆဲမဟုတ်သော တရားဟူ၍ လည်းကောင်း၊ မချွတ်မလွဲ ဖြစ်လတ္တံ့သော တရားဟူ၍ လည်းကောင်း၊ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ဟူ၍ လည်းကောင်း၊ စက္ခုဝိညာဏ်၊ သောတဝိညာဏ်၊ ဃာနဝိညာဏ်၊ ဇိဝှာဝိညာဏ်၊ ကာယဝိညာဏ်တို့ဖြင့် သိအပ်သောတရားဟူ၍ လည်းကောင်း မဆိုအပ်ပေ'

'အရှင်ဘုရား၊ ထိုသို့ ဖြစ်ပါလျက် အရှင်ဘုရားတို့က နိဗ္ဗာန်သည် မရှိတရားပင်တည်းဟု ညွှန်ပြတော်မူကြပါကုန်လော့'

'မင်းမြတ်၊ နိဗ္ဗာန်ကား မရှိတရားမဟုတ်။ ငြိမ်းချမ်းသော လက္ခဏာ အားဖြင့်ထင်ရှားရှိ၏။ ပဉ္စဝိညာဏ်ဖြင့် မသိဘဲ မနောဝိညာဏ်ဖြင့် သိနိုင်ပေ၏။ အထူးသဖြင့် စင်ကြယ်သော၊ မွန်မြတ်သော၊ ဖြောင့်မတ်သော ကံတရားတို့၏ ပိတ်ဆို့ခြင်း ကင်းစင်သော၊ တပ်မက်မောမှု ကင်းသောစိတ်ဖြင့် ကောင်းစွာကျင့်သော အရိယာသာဝကသည် မျက်မှောက်ပြုနိုင်ပေ၏'

'အရှင်ဘုရား၊ အရှင်ဘုရာ သည် နိဗ္ဗာန်ကို ဥပမာပြ၍ မိန့်ကြားခဲ့ပါပြီ။ နိဗ္ဗာန်၏သဘောကို အကြောင်းယုတ္တိပြ၍ မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ လေရှိသည် မဟုတ်လော'

'အရှင်ဘုရား၊ ရှိပေ၏'

'မင်းမြတ်၊ တိုက်တွန်းပါ၏။ လေကိုအဆင်းအားဖြင့် လည်းကောင်း၊ သဏ္ဌာန်အားဖြင့် လည်းကောင်း ပြပါလော့။ ငယ်သလော။ ကြီးသလော။ တိုသလော။ ရှည်သလော'

'အရှင်ဘုရား၊ လေကို အဆင်းသဏ္ဌာန် စသည်အားဖြင့် မပြနိုင်ပါ'

'မင်းမြတ်၊ ထိုသို့မပြနိုင်လျှင် လေသည် မရှိပြီလော'

'အရှင်ဘုရား၊ လေသည် ရှိနေပါ၏'

'မင်းမြတ်၊ ဤအတူသာပင် နိဗ္ဗာန်သည် ငြိမ်းချမ်းသော လက္ခဏာအားဖြင့် ထင်ရှားရှိပေ၏။ သို့ရာတွင် အဆင်းသဏ္ဌာန် စသည်အားဖြင့်ကား ညွှန်ပြ၍ မရနိုင်ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[နိဗ္ဗာန်ရခြင်း၊ နိဗ္ဗာန်ရောက်ခြင်းဟူသည်မှာ မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့ဖြင့် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းပင်ဖြစ်၏။ ကိုယ်တိုင်ကိုယ်ကျ သိမြင်လိုက်ခြင်းပင်ဖြစ်၏။ ဘုရားရဟန္တာ၊ အရိယာသူတော်စင်အပေါင်းတို့ကောင်းမှုပြုကာ ပါရမီဖြည့်ကြရခြင်းသည် လည်းကောင်း၊ ဝိပဿနာ ဘာဝနာပွားများကြရခြင်းသည် လည်းကောင်း ထိုမဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့ ဖြစ်ပေါ်လာရေးအတွက်သာ ဖြစ်၏။ ဖြစ်ပေါ်လာသော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့ဖြင့် နိဗ္ဗာန်ကို မျက်မှောက် ပြုရေးအတွက်သာ ဖြစ်၏။ နိဗ္ဗာန်တရားဖြစ်ပေါ်ရေးကိုကား မည်သည့်အကြောင်းနှင့်မျှ ပြုစရာမလိုပေ။ အဘယ့်ကြောင့် ဆိုသော် နိဗ္ဗာန်သည် အသင်္ခတတရား ဖြစ်သောကြောင့်တည်း။

စိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန်ဟူ၍ ပရမတ္ထတရားလေးပါး ရှိရာတွင် စိတ်၊ စေတသိက်၊ ရုပ်တို့ကား အကြောင်းတရားတို့သည် စုပေါင်း၍ ပြုပြင်အပ်သောကြောင့် သင်္ခတတရား မည်၏။ သင်္ခတဟူသမျှသည် ဖြစ်ခြင်းလက္ခဏာ၊ ဖောက်ပြန်ခြင်းလက္ခဏာ၊ ပျက်စီးခြင်းလက္ခဏာ ရှိကုန်၏။ နိဗ္ဗာန်တရားသည်ကား အကြောင်းတရားတို့သည် စုပေါင်း ပြုပြင်ပေးအပ်သည် မဟုတ်သောကြောင့် အသင်္ခတ ဖြစ်၏။ အသင်္ခတ တရားသည် ဖြစ်ခြင်း၊ ဖောက်ပြန်ခြင်း၊ ပျက်စီးခြင်းလက္ခဏာမရှိ၊ သူ့ သဘော၊ သူ့လက္ခဏာအတိုင်း တည်ရှိ၏။ ထို့ကြောင့် နိဗ္ဗာန်၏ဖြစ်ကြောင်းကား မရှိဟူ၍ အရှင်နာဂသေန မိန့်ကြားပေ၏။]

## ၆။ အကြောင်းရှိသော တရားနှင့် အကြောင်းမရှိသော တရားတား အဘယ်နည်း

''အရှင်နာဂသေနဘုရား၊ ကံကြောင့်ဖြစ်သော တရား၊ အကြောင်းကြောင့်ဖြစ်သော တရား၊ ဥတုကြောင့်ဖြစ်သော တရားကား အဘယ်နည်း။ ကံကြောင့်မဖြစ်သောတရား၊ အကြောင်းကြောင့်

မဖြစ်သောတရား၊ ဥတုကြောင့်မဖြစ်သောတရားကား အဘယ်နည်း'

'မင်းမြတ်၊ သတ္တဝါအားလုံးတို့သည် ကံကြောင့် ဖြစ်ကုန်၏။ မီးသည် လည်းကောင်း၊ မျိုးစေ့သည်လည်းကောင်း အကြောင်းကြောင့် ဖြစ်ကုန်၏။ မြေကြီး၊ တောင်၊ ရေ၊ လေတို့သည် ဥတုကြောင့် ဖြစ်ကုန်၏။ ကောင်းကင်သည် လည်းကောင်း၊ နိဗ္ဗာန်သည် လည်းကောင်း၊ ကံကြောင့်လည်းမဖြစ်ပေ၊ အကြောင်းကြောင့်လည်း မဖြစ်ပေ၊ ဥတုကြောင့်လည်းမဖြစ်ပေ။

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၇။ ဘီလူးဟူ၍ ရှိပါသေးသလော

'အရှင်နာဂသေနဘုရား၊ လောက၌ ဘီလူးများဟူ၍ ရှိကြကုန်သလော'

'မင်းမြတ်၊ ရှိကြကုန်၏'

'အရှင်ဘုရား၊ ဘီလူးတို့သည် သေဆုံးကုန်ကြသလော'

'မင်းမြတ်၊ သေဆုံးကြကုန်၏'

'အရှင်ဘုရား၊ ထိုသို့သာလျှင် အဘယ့်ကြောင့် ထိုဘီလူးတို့၏ အလောင်းကောင်ကို မမြင်ကြရပါသနည်း'

'မင်းမြတ်၊ သေဆုံးသောဘီလူးတို့၏ အလောင်းကောင် ကိုလည်း မြင်ကြရကုန်၏။ အပုပ်နံ့လည်း လှိုင်ပေ၏။ သေဆုံးသောဘီလူးတို့၏ အလောင်းကို ပိုးကောင်အသွင်ဖြင့် လည်းကောင်း၊ ပေါက်ဖတ်အသွင်ဖြင့်လည်းကောင်း၊ ခြပုန်းအသွင်ဖြင့်လည်းကောင်း၊ မြွေအသွင်ဖြင့် လည်းကောင်း၊ ကင်းမြီးကောက်အသွင်ဖြင့်လည်းကောင်း၊ ကင်းခြေများ အသွင်ဖြင့်လည်းကောင်း၊ ငှက်အသွင်ဖြင့် လည်းကောင်း၊ သမင်အသွင်ဖြင့် လည်းကောင်း တွေ့မြင်ကြရပေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

## ၈။ ဘုရားရှင်သည် သိက္ခာပုဒ် အားလုံးကို အဘယ့်ကြောင့် တကြိမ်တည်း၌ မပညတ်ခဲ့သနည်း

'အရှင်နာဂသေနဘုရား၊ နာရဒ၊ ဓာန္တန္တရီ၊ အင်္ဂီရသ ကပိလ၊ ကဏ္ဍရဂ္ဂိသာမ၊ အတုလ၊ ပုဗ္ဗကစ္စာယနဟူသော ဆေးဆရာကြီးတို့သည် ဆေးဆရာအပေါင်းတို့၏ ရှေ့သွားခေါင်းဆောင်ကြီးတို့ပေတည်း။ ထိုဆေးဆရာကြီးတို့သည် ရောဂါဖြစ်ပေါ်ပုံကို လည်းကောင်း၊ ရောဂါဖြစ်ပေါ်ကြောင်းကို လည်းကောင်း၊ ရောဂါ၏သဘာဝကို လည်းကောင်း၊ ရောဂါ ရစေတတ်သော အရာဝတ္ထုကို လည်းကောင်း၊ ဆေးကုသခြင်းကို လည်းကောင်း၊ ရောဂါ အတိုးအဆုတ်ကို လည်းကောင်း၊ ဆေးဖြင့်ကုသ၍ ရနိုင် မရနိုင်ကို လည်းကောင်း၊ အချက်အလက် အားလုံးကို

တစ်ကြိမ်တည်း ကြည့်ရုံနှင့်ပင် သိနိုင်ကုန်၏။ သို့ဖြစ်၍ ဤကိုယ်၌ ဤမျှလောက်သော ရောဂါတို့ ဖြစ်ကုန်လတ္တံ့ဟူ၍ တစ်ချိန်တည်းမှာပင် ဉာဏ်ဖြင့်သိမ်းကျုံးဆင်ခြင်ကာ ဆေးကျမ်းများကို ပြုစုကြကုန်၏။ သို့ရာတွင် ထိုဆေးဆရာကြီး အားလုံးတို့သည် အလုံးစုံကို အကုန်အမြင်သိမြင်နိုင်သော သဗ္ဗညုပုဂ္ဂိုလ်တို့ မဟုတ်ကြပေကုန်။

'အရှင်ဘုရား၊ ဘုရားရှင်သည် သဗ္ဗညုပုဂ္ဂိုလ် ဖြစ်ပါလျက် မဖြစ်ပေါ်လာသေးသော အမှုကိစ္စတို့ကို သဗ္ဗညုတဉာဏ်တော်ဖြင့် ကြိုတင်သိမြင်တော်မူကာ ဤရွေ့ဤမျှသော အကြောင်းတို့ကြောင့် ဤရွေ့ဤမျှသော သိက္ခာပုဒ်များကို ပညတ်ရပေလတ္တံ့ဟု ပိုင်းခြားသတ်မှတ်၍ သိက္ခာပုဒ်အားလုံးကို အဘယ့်ကြောင့် ပြည့်ပြည့်စုံစုံ ပညတ်၍ မထားပါသနည်း။ အကြောင်းဖြစ်ပေါ်၍ အရှိန်အစော်မဲ့ခါမှ၊ အကျော်တစောဖြစ်ခါမှ၊ လူတို့ ကဲ့ရဲ့ခါမှ အဘယ့်ကြောင့် ပညတ်တော်မူရပါသနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် တစ်ရာ့ငါးဆယ်ကျော်မျှသော သိက္ခာပုဒ်များ ပညတ်ရမည့် အရေးကို သိမြင်တော်မူသည်သာ ဖြစ်၏။ သို့ရာတွင် ငါဘုရားသည် အကယ်၍ တစ်ရာ့ငါးဆယ်ကျော်မျှသော ဤသိက္ခာပုဒ်များကို တစ်ပြိုင်နက် ပညတ်လိုက်ငြားအံ့။ လူအပေါင်းသည် ဤသာသနာတော်တို့ ဝင်ရောက်ရန် ထိတ်လန့်ကြကုန်လတ္တံ့။ အချင်းတို့၊ ရဟန်းဂေါတမ၏ သာသနာတော်၌ စောင့်စည်းဖွယ်များလှချေ၏။ ဤသာသနာသို့ ဝင်ရောက်ရန် ခဲယဉ်းလှချေတကားဟု ဆိုကာ ရဟန်းမပြုဘဲ နေကြကုန်လတ္တံ့။ ငါဘုရား၏ စကားကိုလည်း မယုံကြည်ကြကုန်လတ္တံ့။ မယုံကြည်၍ မလိုက်နာကြလျှင် အပါယ်လေးပါးသို့ လားကြကုန်လတ္တံ့။ ပညတ်ရန်အကြောင်း ပေါ်လာခါမှ၊ ပြစ်မှုထင်ရှားလာခါမှ ပညတ်ပေအံ့ဟု ဘုရားရှင်မှာ အကြံဖြစ်ပါလာ၏။ ထို့ကြောင့် အကြောင်းပေါ်လာခါမှ၊ ပြစ်မှုထင်ရှားလာခါမှ ပညတ်တော်မူရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ ရဟန်းများအတွက် ၂၂၇သွယ်သော သိက္ခာပုဒ်များ ရှိကြကုန်၏။ ဤကား သေခိယ ၇၅ပါးတို့ကို အရှိအတိုင်း ရေတွက်သောကြောင့် ဖြစ်၏။ ပါတိမောက်တွင်မူ ဤသိက္ခာပုဒ်များမှာ ခန္ဓကာဝင်တို့တွင်လည်း ထပ်မံ ပါနေသည်ဖြစ်၍ အရေအတွက် ဖော်မပြဘဲထား၏။ ထို့ကြောင့် ဤကျမ်းမှာလည်း ထိုသေခိယသိက္ခာပုဒ် အားလုံးကိုပေါင်းကာ တစ်ခုတည်း သဘောထား၍ သိက္ခာပုဒ် ၁၅၀ ကျော်ဟု ဆိုဟန်ရှိပေ၏။]

## ၉။ နေပူရှိန်သည် အဘယ့်ကြောင့် အပြောင်းအလဲ ရှိရသနည်း

'အရှင်နာဂသေနဘုရား၊ နေသည် အမြဲတစေ အရှိန်ပြင်းပြင်း တောက်ပပါသလော။ သို့မဟုတ် တစ်ခါတစ်ရံ နန့်နန့်ညင်းညင်း တောက်ပပါသေးသလော'

'မင်းမြတ်၊ နေသည် အမြဲတစေ အရှိန်ပြင်းပြင်းတောက်ပ၏။ တစ်ခါတစ်ရံမျှ နန့်နန့် ညင်းညင်း မတောက်ပပေ'

'အရှင်ဘုရား နေသည် အမြဲတစေ အရှိန်ပြင်းပြင်း တောက်ပနေပါလျက် အဘယ့်ကြောင့် တစ်ခါတစ်ရံ နန့်နန့်ညင်းညင်း တောက်ပရသနည်း'

'မင်းမြတ်၊ အနှောင့်အယှက်များ ရှိနေသောကြောင့် ဖြစ်ပေ၏။ တိမ်၊ တိုက်၊ ဆီးနှင်း၊ မိုးသား၊ ရာဟု အသူရိန် နတ်ကြီးတို့သည် နေ၏ အနှောင့်အယှက်တို့ပေတည်း။ ထိုအနှောင့် အယှက်တို့၏ နှောင့်ယှက်ခြင်းကို ခံရသည်ဖြစ်၍ နေသည် တစ်ခါတစ်ရံ နန့်နန့်ညင်းညင်း တောက်ပရပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၁၀။ ဆောင်းနေပူနှင့် နွေနေပူ အဘယ့်ကြောင့် မတူသနည်း

'အရှင်နာဂသေနဘုရား၊ ဆောင်းအခါ၌ နေသည် အဘယ့်ကြောင့် အရှိန်ပြင်းစွာ တောက်ပ ပါသနည်း။ နွေအခါ၌ အဘယ့်ကြောင့် အရှိန်ပြင်းစွာ မတောက်ပပါသနည်း'

'မင်းမြတ်၊ နွေအခါ၌ မြူတို့သည် အစဉ်ကပ်ငြိ စုဝေးကုန်၏။ လေပြင်းများ ဝေ့ယမ်း တိုက်ခတ်ခြင်းကြောင့် မြူမှုန်တို့သည် ကောင်းကင်သို့ တက်ရောက်ကုန်၏။ ကောင်းကင်၌ တိမ်တိုက်တို့ အလွန် ထူထပ်ကုန်၏။ လေပြင်းများလည်း တိုက်ခတ်ကုန်၏။ ထိုအရာဝတ္ထု တို့သည် အထူးထူး ပူးပေါင်းရောယှက်ကာ နေရောင်ခြည်ကို ပိတ်ဆို့ကြကုန်၏။ ထို့ကြောင့် နွေအခါ၌ နေသည် နန့်နန့်ညင်းညင်း တောက်ပပေ၏။

'မင်းမြတ်၊ ဆောင်းအခါတွင်ကား အောက်၌ မြေကြီးသည် အေးမြနေ၏။ မြူမှုန်များ ငြိမ်သက်နေ၏။ ကောင်းကင်သည်လည်း တိမ်တိုက်ကင်း၏။ လေသည်လည်း ညင်ညင်သာသာ တိုက်ခတ်၏။ ထိုကဲ့သို့ ဘေးရန် ကင်းရှင်းနေသဖြင့် ဆောင်းအခါ၌ နေသည် အရှိန်ပြင်းစွာ တောက်ပနိုင်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

❋ ❋ ❋




## ၁။ ဝေဿန္တရာမင်းသည် အဘယ့်ကြောင့် သားမယားတို့ကို လှူသနည်း

'အရှင်နာဂသေနဘုရား၊ အလုံးစုံသော ဘုရားအလောင်းတို့သည်ပင် သားမယားတို့ကို ပေးလှူကြပါသလော။ သို့မဟုတ် ဝေဿန္တရာ မင်းတစ်ပါးတည်းသာ သားမယားတို့ကို ပေးလှူပါသလော'

'မင်းမြတ်၊ အလုံးစုံသော ဘုရားလောင်းတို့သည်ပင် သားမယားကို ပေးလှူကြကုန်၏။ ဝေဿန္တရာမင်း တစ်ပါးတည်းသာ ပေးလှူသည် မဟုတ်ပေ'

'အရှင်ဘုရား၊ ဝေဿန္တရာမင်းသည် ထိုသားမယားတို့က အလိုတူစွာ ခွင့်ပြုကြသဖြင့် ပေးလှူပါသလော'

'မင်းမြတ်၊ မဒ္ဒီမိဖုရားသည်ကား အလိုတူပေ၏။ သူငယ်တို့ကား မသိနားမလည်သေးသဖြင့် ငိုကြွေးကြကုန်၏။ အကယ်၍ ထိုသူငယ်တို့သည် အလှူဒါန၏ အကျိုးတရားကို သိကုန်ငြားအံ့။ ဝမ်းမြောက် ကြမည်သာတည်း'

'အရှင်ဘုရား၊ ဘုရားလောင်း ဝေဿန္တရာမင်းသည် မိမိ၏ ချစ်လှစွာသော သားသမီးတို့ကို ဇူဇကာပုဏ္ဏားကြီးအား ကျွန်အလို့ငှာ ပေးလှူခဲ့၏။ ထိုပေးလှူခြင်းသည် ပြုနိုင်ခဲသော အမှုပါပေတည်း။

'ဝေဿန္တရာမင်းသည် မိမိ၏နုနယ်လှစွာသော သားသမီးတို့ကို ဇူဇကာပုဏ္ဏားကြီးက နွယ်ဖြင့် တုပ်နှောင်၍ ဆွဲငင်ထားသည်ကို မြင်နေရပါလျက် လျစ်လျူရှု၍ နေခဲ့၏။ ထိုသို့နေခြင်းသည် ပိုမို၍ ပြုနိုင်ခဲသော အမှုပါပေတည်း။

ဝေဿန္တရာမင်းသည် မိမိစွမ်းအားဖြင့် နွယ်အနှောင်အဖွဲ့မှ ရုန်းကန် ထွက်ပြေးလာကြသော၊ ပုဏ္ဏားကြီးကို ကြောက်လွန်းသဖြင့် မိမိထံ ချဉ်းကပ်လာကြကုန်သော သားသမီး တို့ကို နွယ်နှင့်တစ်ဖန် တုပ်နှောင်၍ ပေးပြန်၏။ ဤသို့ပေးခြင်းသည် ပြုနိုင်ခဲသော အမှုပါပေတည်

'ဝေဿန္တရာမင်းသည် သားသမီးတို့က ခမည်းတော်ဘုရား၊ ဤသူကား ဘီလူးကြီးပါတည်း။ ကျွန်တော်၊ ကျွန်မတို့ကို ကိုက်သတ်စားသောက်ရန် ဆောင်ယူနေပါ၏ဟု ငိုယိုမြည်တမ်းကြရာတွင် မကြောက်ကြနှင့် ဟူ၍မျှ နှစ်သိမ့်မှုမပြုပေ။ ဤသို့ မပြုခြင်းသည်လည်း အထူးသဖြင့် ပြုနိုင်ခဲသော အမှုပါပေတည်း။

'ဝေဿန္တရာမင်းသည် သားတော် ဇာလီမင်းသားကလေး ခမည်းတော်၏ ခြေအစုံ၌ ဝပ်တွားကာ ငိုယိုလျက် ခမည်းတော်ဘုရား၊ နှမငယ် ဂဏှာဇိန် ပြန်လာပါစေတော့။ ကျွန်တော်သည်သာ ဘီလူးနှင့် လိုက်ပါသွားပါအံ့။ ဘီလူးသည် ကျွန်တော့်ကိုသာ စားပါစေတော့ဟု တောင်းပန်သော်လည်း လက်မခံပေ။ ဤသို့ လက်မခံခြင်းသည် အထူးသဖြင့် ပြုနိုင်ခဲသော အမှုပါပေတည်း။

'ဝေဿန္တရာမင်းသည် သားတော် ဇာလီမင်းသားကလေးက ခမည်းတော်ဘုရား၊ ကျွန်တော့်အား ဘီလူးကြီးက ဆောင်ယူသည်ကို ခမည်းတော် တားမြစ်တော်မမူ။ ခမည်းတော်၏ အသည်းနှလုံးသည် ကျောက်အတိ ဖြစ်လေဘိသလောဟု ပြောဆိုပါသော်လည်း သနားငဲ့ညှာခြင်း မပြုပေ။ ဤသို့ မပြုခြင်းသည်လည်း အထူးသဖြင့် ပြုနိုင်ခဲသော အမှုပေတည်း။

ဝေဿန္တရာမင်းသည် ဇူဇကာပုဏ္ဏားကြီးက ရိုက်နှက်ကာ ခေါ်သွားသဖြင့် သားတော်နှင့် သမီးတော်တို့ ကြောက်လန့်တကြား ငိုယိုကာ လိုက်ပါသွားကြသော်လည်း သူ၏ နှလုံးသည် မကွဲခဲ့ပေ၏။ ဤသို့ နှလုံးမကွဲဘဲ နေနိုင်ခြင်းသည်လည်း အထူးသဖြင့် ပြုနိုင်ခဲသော အမှုပေတည်း။ အရှင်ဘုရား။ ကောင်းမှုကို အလိုရှိသောသူသည် သူတစ်ပါးဆင်းရဲအောင် မပြုသင့်ပါချေ။ အမှန်အားဖြင့် မိမိကိုယ်သာ ပေးလှူသင့်သည် မဟုတ်ပါလော'

'မင်းမြတ်၊ ဤသို့ပြုနိုင်ခဲသော အမှုများကို ပြုခဲ့သောကြောင့် သာလျှင် အလောင်းတော် ဝေဿန္တရာမင်း၏ ဂုဏ်သတင်းသည် တစ်သောင်းသော လောကဓာတ်၌ ပျံ့နှံ့ကျော်စောပေ၏။ နတ်၊ အသုရာ၊ ဂဠုန်၊ နဂါး၊ ဘီလူး တို့သည် ဂိမိတို့ စိုးစံရာအရပ်၌ ဝေဿန္တရာမင်း၏ ဂုဏ်ကျေးဇူးကို ချီးကျူး ပြောဆိုကြကုန်၏။ ထိုကျော်စောသံသည် ယခု ငါတို့လက်ထက် တိုင်အောင် ရိုက်ခတ်နေဆဲဖြစ်၏။ ထိုကျော်စောသံသည် ဘုရားလောင်းတို့၏ ဆယ်ပါးသော ဂုဏ်ကျေးဇူးတို့ကို ပြဆိုကြကုန်၏။ ဂုဏ်ကျေးဇူး ဆယ်ပါးတို့ကား မတပ်မက်ခြင်း၊ မကပ်ငြိခြင်း၊ ပေးကမ်းနိုင်ခြင်း၊ စွန့်လွှတ်နိုင်ခြင်း၊ နောက်မဆုတ်ခြင်း၊ နူးညံ့သိမ်မွေ့ခြင်း၊ ကြီးကျယ်မြင့်မြတ်ခြင်း၊ သိနိုင်ခဲခြင်း၊ ရနိုင်ခဲခြင်း၊ ဘုရားဖြစ်ကြောင်း တရား၏ အတုမရှိခြင်းတို့ ပေတည်း'

''အရှင်ဘုရား၊ သူတစ်ပါးကို ဆင်းရဲစေ၍ ပေးလှူသော အလှူသည် ကောင်းကျိုးကို ပေးနိုင်ပါသလော။ နတ်ပြည်သို့ ရောက်စေနိုင်ပါသလော'

''မင်းမြတ်၊ ကောင်းကျိုးပေးပေ၏။ နတ်ပြည်သို့ ရောက်စေနိုင်ပေ၏'

'အရှင်ဘုရား၊ အကြောင်းပြ၍ မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ဤလောက၌ အကျင့်သီလဖြင့်ပြည့်စုံသော ရဟန်းပုဏ္ဏား တစ်ဦးဦးသည် ရောဂါဒဏ်ကြောင့် မသွားနိုင်၊ မလာနိုင် ဖြစ်လေရာ၏။ ထိုရဟန်း၊ ထိုပုဏ္ဏားကို ကုသိုလ်ပြုလိုသော သူတစ်ယောက်က ယာဉ်ပေါ်တင်ကာ သွားလိုရာသို့ ပို့ဆောင်ပေးရာ၏။ ထိုသူသည် ထိုကောင်းမှုကြောင့် ကောင်းကျိုးချမ်းသာ ခံစားရမည်လော။ နတ်ပြည်သို့ ရောက်မည်လော'

'အရှင်ဘုရား၊ ကောင်းကျိုးချမ်းသာ ခံစားရပါလိမ့်မည်။ နတ်ပြည်သို့ ရောက်နိုင်ပါလိမ့်မည်။ ထိုသူသည် လူ့ပြည်မှာ ဖြစ်စေ၊ နတ်ပြည်မှာဖြစ်စေ ယာဉ်အမျိုးမျိုးတို့ကို ရရှိပါလိမ့်မည်။ တန်ခိုးဣဒ္ဓိပါဒ် တည်းဟူသော ယာဉ်ဖြင့် နိဗ္ဗာန်ထိအောင် သွားရောက်နိုင်ပါလိမ့်မည်'

'မင်းမြတ်၊ သူတစ်ပါးကို ဆင်းရဲစေ၍ ပေးလှူသော အလှူ၏ကောင်းကျိုးပေးပုံ တစ်မျိုးကိုလည်း ဆက်လက်နာဦးလော့။ ဤလောက၌ ပြည့်ရှင်မင်းတစ်ပါးသည် မိမိတိုင်းပြည် နယ်ပယ်များမှ အခွန်အတုတ်များကို အာဏာဖြင့် ကောက်ယူပြီးလျှင် အလှူကြီး ပေးလှူ၏။ ထိုမင်းသည် ထိုကောင်းမှုကြောင့် ကောင်းကျိုးချမ်းသာ ခံစားရပါမည်လော။ နတ်ပြည်သို့ ရောက်မည်လော'

'အရှင်ဘုရား၊ ခံစားရပါလိမ့်မည်။ နတ်ပြည်သို့ ရောက်နိုင်ပါလိမ့်မည်။ ဖြစ်လေရာဘဝတွင် သူတစ်ပါးထက် ထူးကဲသာလွန်သူ ဖြစ်ပေရာ၏'

'မင်းမြတ်၊ ထိုသို့ဖြစ်လျှင်ကား သူတစ်ပါးကို ဆင်းရဲစေ၍ ပေးလှူသောအလှူသည် ကောင်းကျိုးပေးနိုင်ပေ၏။ နတ်ပြည်သို့ ရောက်စေနိုင်ပေ၏'

'အရှင်ဘုရား၊ ဝေဿန္တရာမင်းသည် မိမိ၏သားရောမယားပါ ပေးလှူခြင်းဖြင့် လွန်လွန်ကဲကဲ ပေးလှူခဲ့၏။ လောက၌ လွန်လွန်ကဲကဲ ပေးလှူခြင်းကို ပညာရှိတို့ ရှုတ်ချကြပါကုန်၏။ ဥပမာအားဖြင့် လွန်လွန်ကဲကဲ ဝန်လေးသဖြင့် လှည်းဝင်ရိုး ကျိုး၏။ လှေနစ်မြုပ်ရ၏။ အစားကြီးလွန်းသဖြင့် အစာမကြေဖြစ်ရ၏။ မိုးများလွန်းသဖြင့် စပါးပျက်ရ၏။ အလှူပေးလွန်းသဖြင့် ဆင်းရဲမွဲတေရ၏။ ပူလွန်းသဖြင့် မြေကြီး လောင်ကျွမ်းရ၏။ တပ်မက်လွန်းသဖြင့် ရူးသွပ်ရ၏။ ဒေါသကြီးလွန်းသဖြင့် သေဒဏ်သင့်ရ၏။ မိန်းမော တွေဝေလွန်းသဖြင့် ပျက်စီးရ၏။ လောဘကြီးလွန်းသဖြင့် သူခိုးဖြစ်ရ၏။ ကြောက်လွန်းသဖြင့် အသက်သေရ၏။ ရေပြည့်လွန်းသဖြင့် မြစ်ကမ်းများ လျှံကျပေါက်ထွက်ကုန်၏။ လေတိုက်လွန်းသဖြင့် မိုးကြိုးကြ၏။ မီးပြင်းလွန်းသဖြင့် ထမင်းအိုးဂေကျရ၏။ အသွားအလာ များလွန်း သဖြင့် အသက်တိုရ၏။ ဤအတူသာပင် ဝေဿန္တရာမင်းသည် လွန်လွန်ကဲကဲပေးလှူပါ၏။ ထို အလှူကြောင့် ကောင်းကျိုးတစ်စုံတစ်ရာမျှ မရနိုင်ပါ'

'မင်းမြတ်၊ ထူးကဲမွန်မြတ်သော အလှူကိုပေးလှူသောသူသည် ဤလောက၌ ဂုဏ်သတင်းကျော်စောလှ၏။ ဥပမာအားဖြင့်နတ်ဆေးမြစ်သည် ထူးကဲမွန်မြတ်ခြင်းကြောင့် ထိုဆေးမြစ်ကို ကိုင်ထားသူသည် ကိုယ်ရောင်ပျောက်၏။ ထိုဆေးမြစ်သည် အိုင်းအမာကို ပယ်ဖျောက် နိုင်၏။ ရောဂါပေါင်းစုံကို ကုသနိုင်၏။ မီးသည် ပူလွန်းသောကြောင့် လောင်မြိုက်စေနိုင်၏။ ရေသည် အလွန်အေးသောကြောင့် အပူကိုငြိမ်းစေနိုင်၏။ ပဒုမ္မာကြာသည် အလွန် စင်ကြယ်သောကြောင့် ရေများ ညွန်များ မလိမ်းကျံနိုင်ပေ။ ပတ္တမြားသည် ဂုဏ်သတ္တိ လွန်ကဲသောကြောင့် အလိုရှိရာကို ပေးနိုင်၏။ စိန်သည် အလွန်မာကျော ထက်မြက်သောကြောင့် ပတ္တမြား၊ ပုလဲ၊ ဖန်၊ မှန် တို့ကို ထွင်းဖောက်နိုင်၏။ မြေကြီးသည် အလွန်ကြီးသောကြောင့် သတ္တဝါမျိုးစုံနှင့်ရေ၊ မြေ၊ တောတောင် တို့ကို သယ်ဆောင်နိုင်၏။ သမုဒ္ဒရာသည် ကျယ်လွန်းသောကြောင့် မပြည့်နိုင်။ မြင်းမိုရ်တောင်သည် လေးလွန်းသောကြောင့် မတုန်လှုပ်ပေ။ ကောင်းကင်သည် ကျယ်လွန်းသောကြောင့် အဆုံးမရှိပေ။ နေသည် အလွန်ထွန်းလင်းသောကြောင့် အမိုက်တိုက်ကို ပယ်ဖျောက်နိုင်၏။ ခြင်္သေ့သည် အမျိုးမြတ်လှ သောကြောင့် ကြောက်စိတ်ကင်း၏။ လက်ဝှေ့သမားသည် အလွန်အားသန်လှသောကြောင့် ပြိုင်ဘက်လက်ဝှေ့သမားကို လျင်မြန်စွာ ပစ်ချနိုင်၏။ ဘုရင်သည် အလွန်ဘုန်းတန်ခိုးကြီးသောကြောင့် သူတစ်ပါးတို့ကို အစိုးရ၏။ ရဟန်းသည် အလွန်သီလစင်ကြယ် သောကြောင့် လူရောနတ်ပါ ရှိခိုးကြရ၏။ ဘုရားရှင်သည် အလွန်တရာ မြင့်မြတ်လှသောကြောင့် နှိုင်းယှဉ်စရာ ရှိတော်မမူပေ။ ဤအတူသာပင် ဝေဿန္တရာမင်းသည် ထူးကဲမွန်မြတ်စွာ ပေးလှူခဲ့သောကြောင့် သာလျှင် လူရောနတ်ပါ ချီးကျူးကြရ၏။ ထိုအလှူကြောင့်သာလျှင် ဝေဿန္တရာမင်းသည် ဘုရားစင်စစ် ဧကန်ဖြစ်တော်မူပေ၏။

မင်းမြတ်၊ အလှူခံပုဂ္ဂိုလ် ရောက်လာ လတ်သော် မလှူကောင်းသော အလှူဟူ၍ ရှိပါသလော'

'အရှင်ဘုရား၊ မလှူအပ်သော အလှူဆယ်မျိုးတို့ ရှိကြပါကုန်၏။ ထိုဆယ်မျိုးတို့ကား– သေအရက်အလှူ၊ သဘင်အလှူ၊ မိန်းမအလှူ၊ နွားမအုပ်ထဲသို့ နွားလားဥသဘ လွှတ်ပေးသောအလှူ၊ ကာမဂုဏ်နှင့်စပ်သော ပန်းချီဆေးရေးအလှူ၊ လက်နက်အလှူ၊ အဆိပ်အလှူ၊ သံခြေချင်းအလှူ၊ ကြက်ဝက်အလှူ၊ ချိန်စဉ်းလဲ တောင်းစဉ်းလဲ အလှူတို့ပေတည်း။ ထိုအလှူမျိုး ပေးလှူသောသူသည် အပယ်သို့ လားရောက်ရပေ၏'

'မင်းမြတ်၊ ဤသို့သော အလှူမျိုးကို ငါမမေးပေ။ အခြားသော အပ်စပ်သော အလှူမျိုးကိုသာ ငါမေး၏'

'အရှင်ဘုရား၊ အလှူခံပုဂ္ဂိုလ်ရောက်လာလတ်သော် မလှူသင့်သော အလှူဟူ၍ မရှိပါ။ ကြည်ညိုသဒ္ဓါ ထက်သန်လာကြသောအခါ အလှူရှင်တို့သည် မိမိစိတ်ညွတ်ရာကို လှူကြပါကုန်၏။

အချို့သည် ဘောဇဉ်ကို၊ အချို့သည် အဝတ်အထည်ကို၊ အချို့သည် အိပ်ရာနေရာကို၊ အချို့သည် ဇရပ်၊ တန်ဆောင်း၊ ကျောင်းကြီးများကို ပေးလှူကြပါကုန်၏။ အချို့သည် ကြီးကျယ်လှစွာသော မင်းအဖြစ်ကို ပေးလှူကြပါကုန်၏။ အချို့သော်ကား မိမိအသက်ကိုပင် ပေးလှူကြပါကုန်၏'

'မင်းမြတ်၊ မိမိအသက်ကိုပင်ပေးလှူနေကြပါလျက် မိမိ၏သားမယားတို့ကိုပေးလှူသော ဝေဿန္တရာမင်းအား သင်မင်းမြတ်က အဘယ့်ကြောင့် အလွန်တရာပြင်းထန်စွာ နှိမ့်ချနေရပါသနည်း။

'မင်းမြတ်၊ လောကလူ့ဘောင်၌ ဤသို့ဓလေ့ထုံးစံ ရှိပါသလော။ ဖခင်ဖြစ်သူသည် ကြွေးမည်နိုပ်စက်၍သော် လည်းကောင်း၊ အသက်မွေးမှု ကျပ်တည်းလှ၍သော်လည်းကောင်း၊ မိမိ သားသမီးများကို ပေါင်နှံခွင့်၊ ရောင်းစားခွင့် ရပါသလော'

'အရှင်ဘုရား၊ ပေါင်နှံခွင့် ရောင်းစားခွင့် ရပေ၏'

'မင်းမြတ်၊ ဝေဿန္တရာမင်းသည် သဗ္ဗညုတဉာဏ်တော်ကို မရမချင်း ဆင်းရဲလှသောကြောင့် သားမယားတို့ကို ပေါင်နှံရပေ၏။ ရောင်းချရပေ၏၊ သူတစ်ပါးတို့လည်း ပေးလှူကြသော သာမယားအလှူကို ပေးလှူသော ဝေဿန္တရာမင်းအား သင်မင်းမြတ်က အဘယ့်ကြောင့် အလွန်တရာ ပြင်းထန်စွာ နှိမ့်ချနေရပါသနည်း'

'အရှင်ဘုရား၊ တပည့်တော်သည် ဝေဿန္တရာမင်း၏ အလှူကို မနှိမ့်ချပါ။ စင်စစ် အားဖြင့် သားမယားကို အလှူခံလာသောအခါ ဉာဏ်ပညာဖြင့်ချင့်ချိန်စဉ်းစားပြီးလျှင် မိမိကိုယ်ကိုသာ အလှူပေးသင့်ပါ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် ရေကိုတောင်းနေ၏။ ထိုယောကျ်ား အား အခြားတစ်ယောက်က စားသောက်ဖွယ်ကို ပေးငြားအံ့။ ထိုရေတောင်းသော ယောကျ်ားအတွက် အကျိုးဆောင်ရာ ရောက်ပါမည်လော'

'အရှင်ဘုရား၊ မရောက်နိုင်ပါ၊ တောင်းသောပစ္စည်းကို ပေးပါမှ အကျိုးဆောင်ရာ ရောက်ပါလိမ့်မည်'

'မင်းမြတ်၊ ဤအတူသာပင် ဝေဿန္တရာမင်းသည် ဇူဇကာပုဏ္ဏားက သားမယားကို တောင်းလာသဖြင့် သားမယားကို ပေးလှူခဲ့၏။ အကယ်၍ ဇူဇကာပုဏ္ဏားသည် ဝေဿန္တရာမင်း ကိုယ်တိုင်ကို တောင်းငြားအံ့။ ဝေဿန္တရာမင်းသည် မိမိကိုယ်ကိုလည်း မတုန်မလှုပ် ပေးလှူရာ၏။ ပေးလှူပြီးနောက်တွင်လည်း မတုန်လှုပ်ရာ။ အကယ်၍ တစ်စုံတစ်ယောက်သည် ဝေဿန္တရာ မင်းထံချဉ်းကပ်၍ ငါ၏ကျွန်ခံနေပါလော့ဟု တောင်းဆိုလာငြားအံ့။ ဝေဿန္တရာမင်းသည် မိမိကိုယ်ကို ကျွန်အဖြစ် ပေးလှူမည်သာတည်း။

'မင်းမြတ်၊ ချက်ထားပြီးသော အသားတုံးသည် အများနှင့် ဆက်ဆံဘိသကဲ့သို့၊ အသီး သီးနေသော သစ်ပင်သည် ငှက်မျိုးစုံတို့နှင့် ဆက်ဆံနေသကဲ့သို့ ဝေဿန္တရာမင်း၏ ကိုယ်သည် လည်း အလှူခံများနှင့် ဆက်ဆံနေသည်သာတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် ဥစ္စာကိုအလိုရှိသောသူတို့သည် ကြမ်းတမ်းခက်ခဲလှသော လမ်းခရီးတို့ကို ကုတ်ကုတ်ကတ်ကတ် သွားရောက်ကာ ရှာဖွေကြရကုန်၏။ ဘွဲ့တံဆိပ်ကို အလိုရှိသောသူသည် အိမ်၌ရှိသော ရွှေငွေကို အကုန်ခံကာ ဘွဲ့တံဆိပ်ကိုရအောင် အားထုတ်ရ၏။ ဤအတူသာပင် ဝေဿန္တရာမင်းသည် သဗ္ဗညုတဉာဏ်တော်ကို ရလိုသဖြင့် သားမယားတို့ကို ပေးလှူပေ၏။

'မင်းမြတ်၊ ဝေဿန္တရာမင်းသည် သားမယားကို ပေးလှူခြင်းမှာ မုန်း၍လည်းမဟုတ်ပေ။ မတွေ့မမြင်လို၍လည်း မဟုတ်ပေ။ မကျွေးမမွေးနိုင်၍လည်း မဟုတ်ပေ။ သူတို့နှင့်အတူနေရန် ငြီးငွေ့သောကြောင့်လည်း မဟုတ်ပေ။ သဗ္ဗညုတဉာဏ်တော်ကို သူတို့ထက်ပို၍ ချစ်ခင်မြတ်နိုးလှသောကြောင့်သာ ဖြစ်ပေ၏။

'မင်းမြတ်၊ ထို့ကြောင့်သာလျှင် ဝေဿန္တရာမင်းသည် သားမယားတို့ကို ပေးလှူပြီး သခ်မ်းကျောင်းထဲသို့ ဝင်ရောက်ပြီးလျှင် ချစ်သောသူတို့နှင့်ကွေကွင်းရသဖြင့် စိုးရိမ်ပူဆွေးငိုကြွေးရ၏။ မျက်ရည်ကျရဖန် များလာသဖြင့် မျက်လုံးမှသွေးများ ယိုစီးကြရကုန်၏။

'မင်းမြတ်၊ ဝေဿန္တရာမင်းသည် ဤမျှလောက် ဒုက္ခခံ၍ သားတော်၊ သမီးတော်တို့အား ပေးလှူခြင်းသည် နှစ်မျိုးသောအကျိုးတရားတို့ကို ရည်ရွယ်သောကြောင့်ဖြစ်၏။ နှစ်မျိုးသော အကျိုးတရားတို့ကား၊ မိမိ၏အလှူဝတ် မယုတ်လျော့စေရန်၊ တောထဲ၌ သစ်သီးသစ်ဖုစား၍ ဆင်းရဲစွာနေကြရသော သားတော် သမီးတော်တို့အား ဘိုးတော်သိဋ္ဌည်းမင်းကြီးက ရွေးယူစေရန် တို့ဖြစ်ကြ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ လူတစ်ယောက်သည် ဤမျှလောက် တန်ခိုးအာနုဘော်ကြီးကုန်သော လနှင့် နေတို့ကို မိမိ၏ပကတိ စွမ်းအားဖြင့် ပခြုပ်မှာထည့်၍ လည်းကောင်း၊ ကလပ်ပေါ်မှာတင်၍ လည်းကောင်း အရောင်အဝါမရှိအောင်ပြုပြီးလျှင် ခွက်ငယ် ပမာထား၍ အသုံးပြုနိုင်မည်လော'

'အရှင်ဘုရား၊ မပြုနိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ယ၊နေတို့နှင့်တူစွာသော ဝေဿန္တရာမင်း၏ သားတော်၊ သမီးတော်တို့ကို ကျွန်အဖြစ်ဖြင့် ခိုင်းစေနိုင်သောသူ ဟူ၍ လောက၌မရှိပေ။

'မင်းမြတ်၊ ဝေဿန္တရာမင်းသည် ထိုသို့စဉ်းစားဆင်ခြင်ကာ သားတော်ဇာလီမင်းသားအား ဤသို့မှာထား၏။ ချစ်သား၊ သင် ချစ်သားကို ဘိုးတော်ဘုရားက ရွေးနုတ်လိုလျှင် ရွှေစင်နိက္ခ တစ်ထောင်ပေး၍ ရွေးယူပါစေ၊ သမီးတော်ကိုကား ကျွန်ယောကျ်ားတစ်ရာ၊ ကျွန်မိန်းမတစ်ရာ၊ ဆင်တစ်ရာ၊ မြင်းတစ်ရာ၊ နို့စားနွားမ တစ်ရာ၊ နွားလားဥသဘ တစ်ရာ၊ ရွှေစင်နိက္ခတစ်ရာ ဤတစ်ရာစုနစ်လီပေး၍ ရွေးယူပါစေ၊ အကယ်၍ သင်တို့၏ဘိုးတော်ဘုရားသည်

ပုဏ္ဏားအား တစ်စုံတစ်ရာမျှ မပေးကမ်းဘဲ မင်းအာဏာဖြင့်သာ သိမ်းယူငြားအံ့။ သင်တို့သည် ဘိုးတော်ဘုရား၏ စကားကို မလိုက်နာဘဲ ပုဏ္ဏားနောက်သို့သာ လိုက်ကြကုန်လော့ဟု မှာကြားခဲ့၏။ ထို့နောက်ဇာလီမင်းသားနှင့် ဂဏှာဇိန်မင်းသမီးတို့သည် ဘိုးတော်သိဥ္စည်းမင်းကြီး ရှေ့မှောက်သို့ ရောက်ကြလေရာ ဇာလီမင်းသားက ခမည်းတော် မှာကြားသည့်အတိုင်း လျှောက်ထား၏။ ဘိုးတော် သိဥ္စည်းမင်းကြီးကလည်း သားတော်၏ အမှာစကား အတိုင်းပင် မြေးတော်များကို ဇူဇကာ ပုဏ္ဏားကြီးလက်မှ ရွေးယူလိုက်လေ၏'

'အရှင်ဘုရား ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ သားတော်နှင့်သမီးတော်တို့အား မည်သူမျှ ကျွန်အဖြစ်ဖြင့် မခိုင်းစေနိုင်ခြင်းကို စကြာမင်း၏ ပတ္တမြားရတနာကို ဓားသွေးကျောက်မပြုနိုင်ပုံနှင့် လည်းကောင်း၊ မုန်ယိုနေသော ဆင်ပြောင်ကြီးကို နွားမယဉ်ပမာ ခြံမှာလှောင်ထားရန် မဖြစ်နိုင်ပုံဖြင့်လည်းကောင်း၊ မဟာသမုဒ္ဒရာ၏ ရေဆိပ်အားလုံးကို ပိတ်ထားကာ ရေဆိပ်တစ်ခုတည်းဖြင့်သာ သုံးဆောင်ရန် မတတ်နိုင်ပုံဖြင့်လည်းကောင်း ဥပမာပြုသေး၏။ ထို့ပြင် ဝေဿန္တရာမင်းကြီး၏အရှိန်အဝါကြီးပုံ၊ ဂုဏ်သတင်း ပျံ့နှံ့ကျော်စောပုံကို ဟိမဝန္တာတောင်နှင့် လည်းကောင်း၊ အလျှံ ပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီးနှင့်လည်းကောင်း၊ ဆယ့်နှစ်ယူဇနာတိုင်တိုင် ရနံ့မွှေးသော ဟိမဝန္တာ ကံ့ကော်ပန်းဖြင့်လည်းကောင်း ဥပမာပြုသေး၏။]

## ၂။ ဘုရားလောင်းသည် အဘယ်ကြောင့် ဒုက္ကရစရိယာ ကျင့်ရသနည်း

'အရှင်နာဂသေနဘုရား၊ ဘုရားလောင်းအားလုံးပင် ကျင့်နိုင်ခဲလှစွာသော ဒုက္ကရစရိယာကို ကျင့်ကြံကြရပါသလော။ သို့မဟုတ် ဂေါတမဘုရားလောင်း တစ်ပါးတည်းသာ ကျင့်ရပါသလော'

'မင်းမြတ်၊ ဂေါတမ ဘုရားလောင်းတစ်ပါးတည်းသာ ဒုက္ကရစရိယာအကျင့်ကို ကျင့်ရလေ၏'

'အရှင်ဘုရား၊ ဤသို့ဖြစ်လျှင် ဘုရားလောင်းတစ်ပါးနှင့်တစ်ပါး ထူးခြားနေပေ၏။ ဤသို့ ထူးခြားခြင်းကား မသင့်လျော်ချေတကား'

'မင်းမြတ်၊ ဘုရားလောင်းတို့၏ ထူးခြားချက် လေးမျိုး ရှိကြကုန်၏။ ထိုထူးခြားချက် လေးမျိုးကား–အမျိုးဇာတ်ထူးခြားခြင်း၊ ဒုက္ကရစရိယာ ကျင့် မကျင့် ထူးခြားခြင်း၊ အသက်တော် ထူးခြားခြင်းနှင့် အရပ်တော် ထူးခြားခြင်းတို့ ဖြစ်ကုန်၏။ ဘုရားအဖြစ်သို့ ရောက်တော်မူပြီးသည့်နောက်တွင်ကား အသွင်သဏ္ဌာန်၊ သီလ၊ သမာဓိ၊ ပညာ၊ ဝိမုတ္တိ၊ အရဟတ္တဖိုလ်၊ အရဟတ္တဖိုလ်ကို ဆင်ခြင်သောဉာဏ်၊ ဝေသာရဇ္ဇဉာဏ်တော် လေးပါး၊ ဘုရားရှင်တို့၏ အားတော်ဆယ်ပါး၊ အသာဓာရဏ ဉာဏ်တော်ခြောက်ပါး၊ ဘုရားဉာဏ်တော် တစ်ဆယ့်လေးပါး၊ ဘုရားဂုဏ်ကျေးဇူး တစ်ဆယ့်ရှစ်ပါး၊ အလုံးစုံသော ဘုရားဂုဏ်တော်တို့အားဖြင့် တစ်ပါးနှင့်တစ်ပါး ထူးခြားချက် မရှိကြတော့ပေ'

'အရှင်ဘုရား၊ အလုံးစုံသော ဘုရားရှင်တို့၏ ဂုဏ်ကျေးဇူးများ တူမျှကြကုန်လျက် ဂေါတမ ဘုရားလောင်း တစ်ပါးတည်း အဘယ့်ကြောင့် ဒုက္ကရစရိယာ ကျင့်ရပါသနည်း'

'မင်းမြတ်၊ ဂေါတမ ဘုရားလောင်းတော်သည် ဉာဏ်မရင့်ကျက်သေးမီ တောထွက်ခဲ့ရသဖြင့် ဉာဏ်ရင့်ကျက်စေရန် ဒုက္ကရစရိယာ အကျင့်ကို ကျင့်ရပေ၏'

'အရှင်ဘုရား၊ ဘုရားလောင်းသည် အဘယ့်ကြောင့် ဉာဏ်မရင့်ကျက်သေးမီ တောထွက်ရပါသနည်း။ ဉာဏ်ရင့်ကျက်အောင် စောင့်နေပြီးမှ တောထွက်သင့်သည် မဟုတ်ပါလော'

'မင်းမြတ်၊ ဘုရားလောင်းသည် ညဥ့်သန်းခေါင်ယံ၌ အိပ်ရာမှနိုးထ၍ နန်းတော်ဆောင်ကို ကြည့်ရှုသောအခါ တူရိယာများ တီးမှုတ်ဖျော်ဖြေရာမှ ပိုးစိုးပက်စက် အိပ်ပျော်နေကြသော နန်းတွင်းသူအပေါင်းကို ရှုမြင်ရသဖြင့် နှလုံးမသာမယာ ဖြစ်ရ၏။ နှလုံးမသာမယာဖြင့် နန်းတွင်း၌ နေထိုင်ရန် ငြီးငွေ့လာ၏။ ဤတွင်မာရ်နတ်၏အသင်းအပင်းဖြစ်သော နတ်သား တစ်ယောက်က ဘုရားလောင်း ငြီးငွေ့ခြင်းကို ပယ်ဖျောက်ရန် နန်းဆောင်အတွင်းသို့လာရောက်၍ ကောင်းကင်၌ရပ်လျက် အို အလောင်းတော်မင်းသား မငြီးငွေ့ပါလင့်၊ ဤနေ့မှ နောက်ခုနစ်ရက်မြောက်လျှင် စကြာရတနာဆိုက်ရောက်လာပါလိမ့်မည်။ မြေပေါ် မြေအောက်ရှိ ရတနာမျိုးစုံတို့သည် အသင်မင်းသားထံ ဆိုက်ရောက် လာကြပါလိမ့်မည်။ ကျွန်းငယ်နှစ်ထောင် အခြံအရံရှိသော ကျွန်းကြီးလေးကျွန်းလုံး၌ မင်းစကြာဇအဖြစ်ဖြင့် အုပ်စိုးရပါလိမ့်မည်။ ရဲစွမ်းသတ္တိ ရှိကုန်သော တစ်ထောင်မျှသော သားတော်တို့ ရရှိပါလိမ့်မည်ဟု ပြောကြား၏။

'မင်းမြတ်၊ တစ်နေ့လုံး နေကျက်ကျက် ပူထားသော သံတံကျင်ဖြင့် နားထဲမှာ အထိုးခံလိုက်ရသကဲ့သို့ စောစောကပင် ငြီးငွေ့နေသော ဘုရားလောင်းသည် ထိုနတ်သား၏ စကားကို ကြားလိုက်ရသဖြင့် အတိုင်းထက်အလွန် ငြီးငွေ့လာ၏။ ထို့ကြောင့် ဉာဏ်ပညာ ရင့်ကျက်ချိန်ကို မစောင့်တော့ဘဲ ထိုညမှာပင် တောထွက်ခဲ့ခြင်း ဖြစ်ပေ၏'

'အရှင်ဘုရား၊ ထိုနေ့မှ နောက်ခုနစ်ရက်မြောက်တွင် အကယ်၍ စကြာရတနာ သိုက်သည် အမှန်တကယ် ဆိုက်ရောက်လာငြားအံ့။ ဘုရားလောင်းသည် တောထွက်ရာမှ ပြန်လာ ဦးမည်လော'

'မင်းမြတ်၊ မာရ်နတ်မင်း၏ အသင်းအပင်းဖြစ်သော နတ်သားသည် ဘုရားလောင်းအား ဖြားယောင်းသွေးဆောင်ရန် မုသားစကား ပြောဆိုလာခြင်းသာဖြစ်၏။ အကယ်၍ စကြာရတနာသိုက်သည် အမှန်တကယ် ဆိုက်ရောက်လာလျှင်လည်း ဘုရားလောင်းကား ပြန်လာမည် မဟုတ်ပေ။ ဥပမာအားဖြင့် ဟိမဝန္တာရှိ အနောတတ်အိုင်ကြီးမှ ရေသည် ဂင်္ဂါမြစ်သို့စီး၏။ ဂင်္ဂါမြစ်မှ မဟာသမုဒ္ဒရာသို့၊ မဟာသမုဒ္ဒရာမှ ပါတာလမုခမည်သော နဂါးပြည်သို့ စီးဝင်၏။ ထိုရေသည် နဂါးပြည်မှ တစ်ဖန်ပြန်ဆုတ်ကာ အနောတတ်အိုင်သို့ နောက်ကြောင်းပြန် စီးဝင်ပါမည်လော'

'အရှင်ဘုရား၊ မစီးဝင်နိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ဘုရားလောင်းသည် သဗ္ဗညုတဉာဏ်တော် ရရှိရေးအတွက် လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်းတိုင်တိုင် ပါရမီ ဖြည့်တော်မူခဲ့၏။ ယခု ပါရမီပြည့်စုံ၍ နောက်ဆုံး ဘဝသို့ရောက်ခဲ့ပြီ၊ သဗ္ဗညုတဉာဏ်တော်ကို ရခါနီးပြီ။ ခြောက်နှစ်မျှကြာလျှင် လောက၏ အထွတ်အမြတ်ဆုံး ဘုရားအဖြစ်သို့ ရောက်ရှိတော့မည်။ ထိုကဲ့သို့သော ဘုရားလောင်းသည် စကြာ ရတနာရလိုသဖြင့် တစ်ဖန်ပြန်လာပါဦးမည်လော'

'အရှင်ဘုရား၊ ပြန်မလာတော့ပါ'

'မင်းမြတ်၊ မှန်ပေ၏။ ဤမဟာပထဝီမြေကြီးသည် တောများ၊ တောင်များနှင့်တကွ မဟာသမုဒ္ဒရာ၌ နစ်မြုပ်ကောင်း နစ်မြုပ်ပေရာ၏။ ဂင်္ဂါမြစ်ရေသည် မြစ်ညာသို့ဆန်တက်ကောင်း ဆန်တက်ပေရာ၏။ မဟာသမုဒ္ဒရာရေသည် နွားခြေရာကွက်တမျှ ခန်းခြောက်ကောင်း ခန်းခြောက်ပေရာ၏။ မြင်းမိုရ်တောင်မင်းသည် အစိတ်ရာထောင် ပြိုကွဲကောင်း ပြိုကွဲပေရာ၏။ လမင်း နေမင်းနှင့်ကြယ်တာရာတို့သည် မြေပေါ်သို့ကြွေကျကောင်းကြွေကျကုန်ရာ၏။ ကောင်းကင် ကြီးသည် ဖျာကဲ့သို့ လိပ်ကောင်းလိပ်ပေရာ၏။ ဘုရားလောင်းသည်ကား သဗ္ဗညုတ ဉာဏ်တော်ကို မရရှိဘဲ ပြန်လည်ဆုတ်နစ်မလာတော့။ သံယောဇဉ်အနှောင်အဖွဲ့အားလုံးကို ပယ်ဖြတ် ပြီးဖြစ်သော ကြောင့်တည်း'

'အရှင်ဘုရား၊ သံယောဇဉ်အနှောင်အဖွဲ့သည် မည်မျှလောက်ရှိကြပါသနည်း'

'မင်းမြတ်၊ သံယောဇဉ်အနှောင်အဖွဲ့တို့ကား– အမိ၊ အဖ၊ မယား၊ သားသမီး၊ ဆွေမျိုး၊ မိတ်ဆွေ၊ ဥစ္စာ၊ လာဘ်ပူဇော်သကာ၊ အစိုးရခြင်း၊ ကာမဂုဏ်ငါးပါး ဟူ၍ ဆယ်ပါးရှိကုန်၏။ ထိုသံယောဇဉ်အနှောင်အဖွဲ့တို့ဖြင့် နှောင်ဖွဲ့ခြင်း ခံကြရကုန်သည်ဖြစ်၍ သတ္တဝါတို့သည် လွတ်ရာကျွတ်ရာသို့ မထွက်ခွာနိုင်ကုန်။ ထွက်ခွာသော်လည်း ပြန်လာကြရကုန်၏။ ဘုရားအလောင်း သည်ကား ထိုသံယောဇဉ်အနှောင်အဖွဲ့တို့ကို ပယ်ဖြတ်ခဲ့ပေပြီ'

'အရှင်ဘုရားနတ်သား၏စကားကြောင့် ဘုရားလောင်းသည် အကယ်၍ ဉာဏ်မရင့်ကျက် သေးမီ တောထွက်လာခဲ့ငြားအံ့။ ဘုရားလောင်း၏ ဒုက္ကရစရိယာကျင့်ခြင်းသည် အဘယ်အကျိုး ရှိပါမည်နည်း'

'မင်းမြတ်၊ လောက၌ ကဲ့ရဲ့ရှုတ်ချဖွယ်ရာ ယုတ်ညံ့သော ပုဂ္ဂိုလ်ဆယ်ယောက်တို့ရှိကြကုန်၏။ ထိုဆယ်ယောက်တို့ကား– လင်နှင့်ကင်းကွာသောမိန်းမ၊ အင်အားနည်းပါးသူ၊ အဆွေအမျိုးမဲ့သူ၊ အစားကြီးသောသူ၊ ဆရာ့ထံ မဆည်းကပ်ဖူးသူ၊ ယုတ်မာသော အဆွေခင်ပွန်းရှိသူ၊ ပစ္စည်းဥစ္စာ ချို့တဲ့သူ၊ အကျင့်ယုတ်သူ၊ ယုတ်ညံ့သောအလုပ်လုပ်သူ၊ လုံ့လမရှိသောသူတို့ ပေတည်း။ ဘုရားလောင်းသည် ထိုဆယ်ယောက်တို့တွင် ပါဝင်သော လုံ့လမရှိသူဖြစ်ကာ နတ်တို့၏ကဲ့ရဲ့ဖွယ်၊

ရှုတ်ချဖွယ် မဖြစ်လိုသောကြောင့် လည်းကောင်း၊ အကျင့်တည်းဟူသော အလုပ်ဖြင့် မမေ့မလျော့ နေထိုင်လိုသောကြောင့် လည်းကောင်း ဒုက္ကရစရိယာကျင့်နေ၏။ ထိုအကျင့်ဖြင့်ပင် မရင့်ကျက် သေးသော ဉာဏ်ကို ရင့်ကျက်စေ၏။ ဤသို့ ရင့်ကျက်စေခြင်းကား ဒုက္ကရစရိယာ အကျင့်၏ အကျိုးပေတည်း'

'အရှင်ဘုရား၊ ဘုရားလောင်းသည် ဒုက္ကရစရိယာအကျင့်ကို ခြောက်နှစ်ပတ်လုံး ကျင့်သုံး ပြီးလျှင် ငါသည် ဆင်းရဲပင်ပန်းလှသော ဤအကျင့်ဖြင့် အရိယာတို့၏ ဉာဏ်အမြင်တည်း ဟူသော တရားထူး ကိုမရနိုင်ခဲ့။ သစ္စာလေးပါးသိခြင်းငှာ အခြားလမ်းစဉ်များ ရှိသေးသလောဟု စဉ်းစားမိကြောင်း အရှင်ဘုရားတို့ မိန့်ဆိုကြပါ၏။ ဘုရားလောင်းကား မဂ်ဉာဏ်ရရှိရေးအတွက် တွေဝေပါသေးသလော'

'မင်းမြတ်၊ စိတ်ကိုအားနည်းအောင်ပြုတတ်သောတရား နှစ်ဆယ့်ငါးပါးတို့ ရှိကြကုန်၏။ ထိုနှစ်ဆယ့်ငါးပါးတို့ကား–ဒေါသ၊ ရန်ငြိုးဖွဲ့ခြင်း၊ သူ့ကျေးဇူးကိုချေဖျက်ခြင်း၊ ဂုဏ်ပြိုင်ခြင်း၊ ငြူစူစောင်းမြောင်းခြင်း၊ ဝန်တိုခြင်း၊ လှည့်ပတ်ခြင်း၊ ကောက်ကျစ်စဉ်းလဲခြင်း၊ ခက်ထန်ခြင်း၊ ချုပ်ချယ်ခြင်း၊ မာန်မူခြင်း၊ အလွန်မာန်မူခြင်း၊ မာန်ဖြင့်ယစ်မူးခြင်း၊ မေ့လျော့ခြင်း၊ လေးလံထိုင်းမှိုင်းခြင်း၊ ငိုက်မျဉ်းခြင်း၊ ပျင်းရိခြင်း၊ ယုတ်ညံ့သော အဆွေခင်ပွန်းရှိခြင်း၊ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဆာလောင်မွတ်သိပ်ခြင်း၊ မမွေ့လျော်ခြင်းတို့ ပေတည်း။ ထိုတရားတို့ကြောင့် အားနည်းနေသောစိတ်သည် အာသဝတို့ ကင်းကွာရေးအတွက် မစွမ်းဆောင် နိုင်ပေ။

'မင်းမြတ်၊ ဘုရားလောင်းသည် အစားအစာကို ဖြတ်တောက်လိုက်သဖြင့် ဆာလောင် မွတ်သိပ်လာ၏။ ကိုယ်ခန္ဓာသည်ပိန်းချုံးချည့်နဲ့လာ၏။ ထို့ကြောင့် ဘုရားလောင်း စိတ်သည် မတည်ကြည်နိုင်ပေ။ အာသဝသို့ ကင်းကွာရေးအတွက် မစွမ်းဆောင်နိုင်ပေ။ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းတို့ပတ်လုံး သစ္စာလေးပါးသိကြောင်းဖြစ်သော မဂ်လမ်းစဉ်ကို ရှာဖွေခဲ့ပြီးသော ဘုရားလောင်းသည် ဤပစ္ဆိမဘဝ၌ ထိုလမ်းစဉ်ရရှိရေးအတွက် တွေဝေရန် အကြောင်းမရှိပေ။ သစ္စာလေးပါးသိခြင်းငှာ အခြားလမ်းစဉ်များ ရှိသေးသလားဟု စဉ်းစားခြင်းမှာ သာမန်အားဖြင့် စဉ်းစားခြင်းမျှသာ ဖြစ်၏။ မဂ်လမ်းစဉ်၌ တွေဝေသောကြောင့် မဟုတ်ပေ။ သို့ဖြစ်၍ပင် ဘုရားလောင်းသည် တစ်လသား အရွယ်မှာပင် ခမည်းတော် သုဒ္ဓေါဒနမင်းကြီး လယ်ထွန် မင်္ဂလာသဘင် ဆင်ယင်ကျင်းပနေစဉ်တွင် သပြေပင်ရိပ်၌ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်တို့ကို ဝင်စား၍ နေနိုင်ခဲ့ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ဗုဒ္ဓဝင်ဆိုင်ရာ အခြားကျမ်းဂန်များ၌ ဘုရားလောင်းတောထွက်၍ မြို့တံခါးပွင့်ပြီးခါမှ မာရ်နတ်မင်းက စကြာရတနာဆိုက်ရောက်မည့်အကြောင်း ပြောဆိုတားမြစ်ပုံကို ပြဆိုကြ၏။]

## ၃။ ကုသိုလ်အားနှင့် အကုသိုလ်အား မည်သည့်အရာက သာလွန်ပါသနည်း

'အရှင်နာဂသေနဘုရား၊ ကုသိုလ်တရားနှင့် အကုသိုလ်တရား တို့တွင် ဘယ်တရားက အားကြီးပါသနည်း'

'မင်းမြတ်၊ ကုသိုလ်တရားက အားကြီးပေ၏။ အကုသိုလ်တရားကား အားမကြီးပေ'

'အရှင်ဘုရား၊ ထိုစကားကို တပည့်တော် လက်မခံနိုင်ပါ။ လောက၌ သူ့အသက်သတ်သူများ၊ သူ့ဥစ္စာခိုးသူများ၊ သူများမယား ပြစ်မှားသူများ၊ မုသားပြောသူများ၊ ရွာကို ဖျက်ဆီးသူများ ရှိကြကုန်၏။ ထိုသူတို့သည် ထိုမကောင်းမှုကြောင့် အမျိုးမျိုးသော ညှဉ်းပန်းနှိပ်စက်ခြင်း၊ သတ်ဖြတ်ခြင်းကို ခံကြရကုန်၏။ ထိုမကောင်းမှု၏ အကျိုးကို မျက်မှောက်ဘဝ မှာပင် ခံစားကြရကုန်၏။ အရှင်ဘုရား၊ အခြား သူတို့သည်ကား တစ်ယောက် နှစ်ယောက်မှ စ၍ တစ်သိန်းတိုင်အောင် မိမိစွမ်းအားတို့ ရှိသလောက် ပေးလှူကြကုန်၏။ ဥပုသ် စောင့်ကြကုန်၏။ ထိုသူတို့တွင် ထိုကောင်းမှုကြောင့် မျက်မှောက်ဘဝမှာပင် စည်းစိမ်ဥစ္စာရှိသူ၊ အခြံအရံပေါများလာသူ၊ ချမ်းသာသုခ တိုးပွားလာသူ တစ်စုံတစ်ယောက် ရှိပါ၏လော'

'မင်းမြတ်၊ ရှိပေ၏။ ကောင်းမှု ကုသိုလ်ကံကြောင့် မျက်မှောက်ဘဝ၌ ဤကိုယ်ခန္ဓာဖြင့် ပင်လျှင် တာဝတိံသာ နတ်ပြည်သို့ ရောက်ရသော ပုဂ္ဂိုလ်တို့ ရှိကြပေကုန်၏'

'အရှင်ဘုရား၊ အဘယ်ပုဂ္ဂိုလ်များပေတည်း'

'မင်းမြတ်၊ မန္ဓာတုစကြာမင်း၊ နေမိမင်း၊ သာဓိနမင်းနှင့် ဂုတ္တိလ ဓောင်းဆရာတို့ ပေတည်း'

'အရှင်ဘုရား၊ ထိုကဲ့သို့ ဒိဋ္ဌဓမ္မအကျိုးပေးပုံကား ဘဝပေါင်းထောင်ပေါင်းများစွာ ကွာခြားနေပေ၏။ တပည့်တော်တို့နှစ်ဦး၏ မျက်ကွယ်မှာလည်းဖြစ်နေပေ၏။ ဘုရားရှင် သက်ရှိထင်ရှား ရှိတော်မူစဉ်တုန်းက ဖြစ်ပေါ်ဖူးသော အတ္တုပ္ပတ္တိကိုသာ မိန့်ကြားမူပါလော့'

'မင်းမြတ်၊ ပုဏ္ဏမည်သောကျွန်သည် အရှင်သာရိပုတ္တရာအား ဆွမ်းလှူရသော ကောင်းမှုကြောင့် ထိုနေ့မှာပင် သေဋ္ဌေးအရာကို ရပေ၏။ ဂေါပါလမာတာ အမျိုးသမီးသည် မိမိဆံပင်ကို ရောင်း၍ ရသော အသပြာ ရှစ်ကျပ်ဖြင့် အရှင်မဟာကစ္စည်းအမှူးရှိသော သံဃာတော်ရှစ်ပါးအား ဆွမ်းဆက်ကပ်ရသဖြင့် ထိုနေ့မှာပင် စဏ္ဍပဇ္ဇောတမင်း၏ မိဖုရားအရာကို ရပေ၏။ သုပ္ပိယာမည်သော ဥပါသိကာမသည် မကျန်းမာသော ရဟန်းတစ်ပါးအား မိမိ၏ပေါင်သားကို လှီးဖြတ်၍ အသားဟင်းချက်ကာ ဆက်ကပ်လှူဒါန်းသောကြောင့် နောက်တစ်နေ့မှာပင် အသားနုတက်ကာ အသားအရေကောင်းဖြစ်လာ၏။ မလ္လိကာ သတို့သမီးသည် ဘုရားရှင်အား တစ်ညဉ့်လွန်ခဲ့သော မုယောမုန့်ကို ဆပ်ကပ်လှူဒါန်းရသောကြောင့် ထိုနေ့မှာပင် ကောသလ မင်းကြီး၏ မိဖုရားခေါင်ကြီး ဖြစ်ရပေ၏။ သုမနပန်းသည်သည် ရှစ်ဆုပ်သောပန်း တို့ဖြင့် ဘုရားရှင်ကို ပူဇော်ရသောကြောင့် ထိုနေ့မှာပင် စည်းစိမ်ဥစ္စာ ပြည့်စုံစွာခံစားရ၏။ ကေသာဋကပုဏ္ဏားသည်

တစ်ထပ်တည်းသာရှိသော အပေါ်ရုံပုဆိုးကို ဘုရားရှင်အား လှူဒါန်းရသောကြောင့် ထိုနေ့မှာပင် ဆင်အစရှိသော ရှစ်မျိုးသောဆုလာဘ်များ ရရှိပေ၏။ ထိုသူအားလုံးတို့သည် မျက်မှောက် ဘဝမှာပင် ကောင်းမှုအကျိုးကို ခံစားကြရပေကုန်၏'

'အရှင်ဘုရား၊ ထိုခြောက်ယောက်သော သူတို့သာလျှင် အရှင်ဘုရားသည် ရှာဖွေရွေးချယ်၍ မိန့်ကြားရပေ၏။ တပည့်တော်ကား တစ်နေ့တည်းမှာပင် မကောင်းမှုကြောင့် တံကျင်အလျှိုခံရသော ယောကျ်ားဆယ်ယောက်ကို လည်းကောင်း၊ နှစ်ဆယ်ကို လည်းကောင်း၊ သုံးဆယ်ကို လည်းကောင်း၊ လေးဆယ်ကို လည်းကောင်း၊ ငါးဆယ်ကို လည်းကောင်း၊ တစ်ရာကိုလည်းကောင်း၊ တစ်ထောင်ကို လည်းကောင်း မြင်ရပေ၏။ နန္ဒကုလမင်း၏ ဘဒ္ဒသာလစစ်သူကြီးနှင့်စန္ဒဂုတ်မင်းတို့ စစ်ခင်း ကြရာတွင် နှစ်ဖက်သော စစ်သည်ဗိုလ်ပါတို့မှ ဦးခေါင်းပြတ်သူ ရှစ်ဆယ်မျှရှိကြကုန်၏။ ထိုသူ အားလုံးတို့သည် အကုသိုလ်ကံကြောင့် အကျိုးမဲ့ပျက်စီးကြရကုန်၏။ ထို့ကြောင့် အကုသိုလ် တရားကသာလျှင် အင်အားကြီး၍ ကုသိုလ်တရားကား အားမကြီးပေ။

'အရှင်ဘုရား၊ ကောသလမင်းကြီးသည် အသဒိသ အလှူတော်ကြီးကို ပေးလှူသောကြောင့် မျက်မှောက်ဘဝမှာပင် ကောင်းကျိုးချမ်းသာခံစားရပါသလော'

'မင်းမြတ်၊ မခံစားရပါပေ'

'အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် အကုသိုလ်တရားသာလျှင် အားကြီး၍ ကုသိုလ်တရားကား အားမကြီးပေ'

'မင်းမြတ်၊ ဥပမာအားဖြင့် အပရန္တဇနပုဒ်၌ ကုမုဒဘဏ္ဍိကမည်သောစပါးသည် စိုက်၍ တစ်လပြည့်လျှင် ရိတ်သိမ်းရ၏။ သလေးစပါးတို့ကား ငါးလခြောက်လကြာမှ ရင့်မှည့်ကုန်၏။ ထိုစပါးနှစ်မျိုးတို့၏ ထူးခြားချက်ကားအဘယ်နည်း'

'အရှင်ဘုရား၊ ကုမုဒဘဏ္ဍိကစပါးသည် အမျိုးအစား ညံ့ဖျင်းသောကြောင့် တစ်လနှင့် ရိတ်သိမ်းရ၏။ သလေးစပါးသည်ကား အမျိုးအစား ကောင်းလှသောကြောင့် ငါးလ ခြောက်လကြာမှ ရင့်မှည့်၏။ သလေးစပါးကား မင်းတို့ စားသုံးကြပါ၏။ ကုမုဒဘဏ္ဍိက စပါးကား ကျေးကျွန် အလုပ်သမားတို့၏ အစားအစာ ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် အကုသိုလ်တရားသည် အားနည်းသောကြောင့် လျင်မြန်စွာ အကျိုးပေး၏။ ကုသိုလ်တရားကား အားကြီးလှသောကြောင့် အချိန်ကြာမြင့်မှ အကျိုးပေးပေ၏'

'အရှင်ဘုရား၊ ထိုစကားကို တပည့်တော် လက်မခံနိုင်သေးပါ။ ဥပမာအားဖြင့် စစ်သားသည် စစ်ပွဲသို့ဝင်ရောက်၍ ရန်သူကို ခါးတောင်းကျိုက်မှဆွဲခေါ်ကာ အရှင်သခင်ထံသို့ လျင်မြန်စွာ အပ်နှံနိုင်၏။ ထိုစစ်သားသည် ရဲစွမ်းသတ္တိရှိလှသော သူရဲကောင်းမည်ပေ၏။ ထို့ပြင် ဆူးငြောင့်ကို လျင်မြန်စွာ ထုတ်ပယ်၍ ဆေးကုသနိုင်သော ဆေးဆရာသည်လည်း ကျွမ်းကျင်သော ဆေး

ဆရာမည်ပေ၏။ ကိန်းဂဏန်းများစွာကို လျင်မြန်စွာ တွက်ချက်နိုင်သော သင်္ချာပညာရှင်သည်လည်း ကျွမ်းကျင်သော သင်္ချာပညာရှင်မည်ပေ၏။ ဤအတူသာပင် လျင်မြန်စွာအကျိုးပေးသော တရားသည်သာလျှင် လွန်ကဲစွာ အင်အားကြီးမားပေ၏'

'မင်းမြတ်၊ ကုသိုလ်အကုသိုလ်နှစ်မျိုးတို့သည် တမလွန်ဘဝ၌အကျိုးပေးကြသည်သာတည်း။ သို့ရာတွင် အကုသိုလ်တရားသည်ကား အပြစ်နှင့်တကွဖြစ်ခြင်းကြောင့် မျက်မှောက်ဘဝမှာပင် ခံစားရပေ၏။ ရှေးမင်းတို့သည် ဤသို့သောမကောင်းမှုပြုလုပ်သူအား ဤသို့သော အပြစ်ဒဏ်ထိုက်စေဟု စည်းမျဉ်းဥပဒေကို စွဲမြဲစွာ ချမှတ်ထားကြကုန်၏။ ထိုစည်းမျဉ်းဥပဒေအရ အပြစ်ဒဏ် ပေးကြကုန်၏။ ထိုမင်းတို့တွင် တစ်ပါးပါးသောမင်းက အကြင်သူသည် အလှူပေး၏။ ဥပုသ်စောင့်၏။ ထိုသူအား ဥစ္စာကိုလည်းကောင်း၊ အခြံအရံကိုလည်းကောင်း ပေးအပ်၏ ဟူ၍ စည်းမျဉ်းဥပဒေ ချမှတ်ခဲ့ပါ၏လော'

'အရှင်ဘုရား၊ မချမှတ်ခဲ့ပါ'

'မင်းမြတ်၊ အကယ်၍ ရှေးမင်းတို့သည် စည်းမျဉ်းဥပဒေချမှတ်ခဲ့သော် ကုသိုလ်ကံ၏အကျိုးကို မျက်မှောက်ဘဝမှာပင် ခံစားကြရာ၏။ ထိုကဲ့သို့သော စည်းမျဉ်းဥပဒေ မရှိသောကြောင့်သာလျှင် ကုသိုလ်ကံ၏ အကျိုးကို မျက်မှောက်ဘဝမှာ မခံစားရပေ။ အကုသိုလ်ကံ၏ အကျိုးကိုကား စည်းမျဉ်းဥပဒေ ရှိနေသောကြောင့် မျက်မှောက်ဘဝမှာပင် ခံစားရပေ၏။ နောင်တမလွန်ဘဝ၌လည်း အကုသိုလ်၏ အကျိုးတရားကို လွန်လွန်ကဲကဲ ဆင်းရဲခြင်းကြီးစွာ မခံစားရပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၄။ ကွယ်လွန်သူတိုင်းအား ဆွမ်းသွတ်အမျှဝေ၍ရသလော

'အရှင်နာဂသေနဘုရား၊ အလှူရှင်တို့သည် အလှူပေးပြီးသောအခါ ဤအလှူသည် ကွယ်လွန်သူတို့ထံ ရောက်ပါစေသတည်းဟု အမျှဝေကြကုန်၏။ ကွယ်လွန်ပြီးသူတို့သည် ထိုအလှူ၏ အကျိုးကို ခံစားရပါကုန်သလော'

'မင်းမြတ်၊ အချို့သူတို့သည် ခံစားရကုန်၏။ အချို့သူတို့ကား မခံစားရကုန်'

'အရှင်ဘုရား၊ အဘယ်သူတို့သည် ခံစားရ၍ အဘယ်သူတို့သည် မခံစားရပါကုန်သနည်း'

'မင်းမြတ်၊ ငရဲသို့ ကျနေသောသူ၊ နတ်ပြည်သို့ရောက်နေသောသူ၊ တိရစ္ဆာန်ဖြစ်နေသော သူတို့မခံစားရကုန်။ ပြိတ္တာလေးမျိုးတို့တွင် စားသမျှအစာကို အန်ပစ်ရသော ဝန္တာသိက ပြိတ္တာမျိုး၊ စား၍မဝင်သဖြင့်အစဉ် အမြဲငတ်မွတ်နေရသော ခုပ္ပိပါသ ပြိတ္တာမျိုး၊ ဝမ်းခေါင်းပြောင်ပြောင် တောက်လောင်နေရသော နိဇ္ဈာမတဏှိက ပြိတ္တာမျိုးဟူ၍ ဤသုံးမျိုးသော ပြိတ္တာ

တို့သည် မခံစားရကုန်။ သူတစ်ပါးပေးကမ်းသည်ကိုမှီ၍ အသက်မွေးနေကြကုန်သော ပရဒတ္တူပဇီဝပြိတ္တာတို့ သာလျှင် ခံစားရကုန်၏။ ထိုပြိတ္တာတို့သည်လည်း မိမိတို့အား ရည်မှန်း၍ လှူဒါန်းသည်ကို သိမှသာလျှင် ခံစားရကုန်၏'

'အရှင်ဘုရား၊ ရည်မှန်းအပ်သော သူတို့က အကယ်၍ မသိကြလျှင် ထိုအလှူသည် အကျိုးမရှိပေရာ'

'မင်းမြတ်၊ အကျိုးမရှိသည် မဟုတ်ပေ။ အလှူပေးသောသူတို့သည် ထိုအလှူ၏ အကျိုးကို ခံစားရပေကုန်၏'

'အရှင်ဘုရား၊ ထိုစကားကို အကြောင်းပြ၍ မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ဥပမာအားဖြင့် ဤလောက၌ လူအချို့သည် ငါး၊ အမဲ၊အရက်၊ ထမင်း၊ ခဲဖွယ်တို့ကို ချက်ပြုတ်ကြော်လှော်၍ ဆွေမျိုးများထံယူဆောင်သွားကြ၏။ အကယ်၍ဆွေမျိုးများက ထိုလက်ဆောင်များကို မခံယူကြငြားအံ့။ ထိုလက်ဆောင်သည် ခန်းခြောက်ပျက်စီးသွားမည်လော'

'အရှင်ဘုရား၊ မခန်းခြောက်ပါ၊ မပျက်စီးပါ၊ ထိုလက်ဆောင်ကို ဥစ္စာရှင်တို့သာလျှင် စားသောက်ကြရပါကုန်၏'

'မင်းမြတ်၊ ဥပမာတစ်မျိုးအားဖြင့် တိုက်ခန်းတွင်းသို့ ဝင်ရောက်သော ယောကျ်ားသည် အခြားထွက်ပေါက် မရှိခဲ့သော် အဘယ်တံခါးဖြင့် ပြန်ထွက်မည်နည်း'

'အရှင်ဘုရား၊ ဝင်လာခဲ့သော တံခါးပေါက်ဖြင့်ပင် ပြန်ထွက်ရပါလိမ့်မည်'

'မင်းမြတ်၊ ရည်မှန်းသူတို့က မသိ၍ မခံစားရသော် အလှူရှင်တို့သာလျှင် ခံစားရပေကုန်'

'အရှင်ဘုရား၊ ထိုစကား ရှိပါစေတော့။ အလှူရှင်တို့၏ ကောင်းမှုကုသိုလ်ကို ကွယ်လွန်သူတို့အား အကယ်၍ ပေးဝေကြကုန်ငြားအံ့။ ထိုသို့ဖြစ်ပါမူ ဤလောက၌ ရက်စက်ကြမ်း ကြုတ်သောသူတို့သည် သူတစ်ပါးအသက်ကို သွေးခြင်းခြင်းနီအောင် သတ်ဖြတ်ပြီးလျှင် ငါ၏ ဤကုသိုလ်ကံသည် ကွယ်လွန်သူသို့ ရောက်ပါစေသတည်းဟု အကယ်၍ အမျှဝေလျှင် ကွယ်လွန်သူတို့သည် ထိုအကုသိုလ်၏ အကျိုးကို ခံစားရပါမည်လော'

'မင်းမြတ်၊ မခံစားရပေ'

'အရှင်ဘုရား၊ ကုသိုလ်ကံ၏ အကျိုးကိုသာ ခံစားရ၍ အကုသိုလ်၏အကျိုးကို မခံစားရခြင်း၏ အကြောင်းကား အဘယ်နည်း'

'မင်းမြတ်၊ ဖြေကြားသူ ရှိနေသည်ဟူ၍ သင်မင်းမြတ်သည် မမေးသင့်သော ပြဿနာများကို မမေးပါလင့်။ ဤပြဿနာကိုသာ ငါဖြေကြားရလျှင် သင်မင်းမြတ်သည် ကောင်းကင်သည် အဘယ့်ကြောင့် မှီရာ မရှိပါသနည်း။ ဂင်္ဂါမြစ်သည် အဘယ့်ကြောင့် အထက်အညာသို့ ပြန်

မစီးပါသနည်း။ လူနှင့်ငှက်တို့သည် အဘယ့်ကြောင့် ခြေနှစ်ချောင်း ရှိကုန်သနည်း။ သားသမင်တို့သည် အဘယ့်ကြောင့် ခြေလေးချောင်း ရှိကြကုန်သနည်းဟု ရောက်တတ်ရာရာ ပြဿနာများကို မေးပေတော့မည်တည်း'

'အရှင်ဘုရား၊ တပည့်တော်သည် အရှင်ဘုရားကိုညှဉ်းဆဲရန် ဤပြဿနာကို မေးသည် မဟုတ်ပါ။ အမှန်အားဖြင့် ယုံမှားခြင်း ကင်းငြိမ်းသွားစေရန်သာ မေးမြန်းပါ၏။ ဉာဏ်ပညာ နည်းပါး၍ အမှားလမ်းသို့ လိုက်လိုသူတို့အတွက် လိုက်ခွင့်မသာစေရန် မေးမြန်းခြင်းသာဖြစ်ပါ၏'

'မင်းမြတ်၊ မကောင်းမှုကိုမပြုလုပ်သူ၊ မကောင်းမှုပြုလုပ်ရန် သဘောမတူသူတို့အား မကောင်းမှုကိုခွဲဝေ၍ မပေးနိုင်ပေ။ ဥပမာအားဖြင့် လူတို့သည် ရေတံလျှောက်ဖြင့် ရေကို အလွန်ဝေးလံသောအရပ်သို့ ဆောင်ယူကြ ဘိသကဲ့သို့ ကျောက်တောင်ကြီးကို ရေတံလျှောက်ဖြင့် ဆောင်ယူနိုင်မည်လော'

'အရှင်မင်းမြတ်၊ မဆောင်ယူနိုင်ပါ'

'မင်းမြတ်၊ ဆီကိုမီးထွန်း၍ ရသကဲ့သို့ ရေကိုမီးထွန်း၍ ရနိုင်ပါသလော'

'အရှင်ဘုရား၊ မရနိုင်ပါ'

'မင်းမြတ်၊ လယ်သမားတို့သည် တစ်ဖက်ဆည်ကန်မှ ရေကိုထုတ်ယူကုန်၍ စပါးကို အောင်စေကုန်သကဲ့သို့ သမုဒ္ဒရာရေကိုထုတ်ယူ၍ စပါးကိုအောင်စေနိုင်သလော'

'အရှင်ဘုရား၊ မအောင်စေနိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ကုသိုလ်ကိုသာ အမျှဝေရ၏။ အကုသိုလ်ကိုကား အမျှဝေ၍ မရနိုင်ပေ'

'အရှင်ဘုရား၊ အဘယ့်ကြောင့်ကုသိုလ်ကိုသာ အမျှဝေ၍ ရပြီးလျှင် အကုသိုလ်ကိုကား အမျှဝေ၍ မရပါသနည်း'

'မင်းမြတ်၊ အကုသိုလ်သည် အားနည်း၏။ ကုသိုလ်သည် အားကြီး၏။ အကုသိုလ်သည် အားနည်းသောကြောင့် ပြုလုပ်သူ တစ်ဦးတည်းကိုသာ သိမ်းယူနိုင်၏။ ကုသိုလ်သည်ကား အားကြီးလှသောကြောင့် နတ်နှင့်တကွသော လောကကို လွှမ်းမိုးနိုင်ပေ၏'

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ ဥပမာအားဖြင့် မြေကြီးပေါ်သို့ကျရောက်သွားသော ရေပေါက်ကလေးသည် ဆယ်ယူဇနာ၊ ဆယ့်နှစ်ယူဇနာတိုင်အောင် ပျံ့နှံ့နိုင်မည်လော'

'အရှင်ဘုရား၊ မပျံ့နှံ့နိုင်ပါ။ ကျသောနေရာမှာပင် ခန်းခြောက်သွားပါလိမ့်မည်'

'မင်းမြတ်၊ အဘယ့်ကြောင့်နည်း'

'အရှင်ဘုရား၊ အားနည်းလှသောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် အကုသိုလ်သည် အားနည်းလှသောကြောင့် ပြုလုပ်သူ တစ်ယောက်တည်းကိုသာ သိမ်းယူနိုင်၏။ အခြားသူတို့အား အမျှဝေ၍ မရနိုင်ပေ။

'မင်းမြတ်၊ ဥပမာတစ်မျိုးအားဖြင့် မြေပြင်ကိုလွှမ်းမိုး၍ သည်းထန်စွာ ရွာသွန်းသော မိုးကြီးသည် ဆယ်ယူဇနာ၊ ဆယ့်နှစ်ယူဇနာတိုင်အောင် ပျံ့နှံ့နိုင်မည်လော'

'အရှင်ဘုရား၊ ပျံ့နှံ့နိုင်ပေ၏'

'မင်းမြတ်၊ အဘယ့်ကြောင့်နည်း'

'အရှင်ဘုရား၊ အားကြီးလှသောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ကုသိုလ်သည် အားကြီးလှသောကြောင့် လူတွေအတွက်ရော၊ နတ်တွေအတွက်ပါ အမျှဝေ၍ ရပေ၏'

အရှင်ဘုရား၊ အဘယ့်ကြောင့် အကုသိုလ်က အားနည်း၍ ကုသိုလ်က အားကြီးပါသနည်း'

'မင်းမြတ်၊ ဤလောက၌ တစ်စုံတစ်ယောက်သော သူသည် အလှူပေး၏။ သီလ ဆောက်တည်၏။ ဥပုသ်စောင့်၏။ ထိုသူသည် စိတ်နှလုံး ရွှင်လန်း၏။ ပြုံးရယ်၏။ ဝမ်းမြောက်၏။ စိတ်ကြည်လင်၏။ နှစ်သက်၏။ နှစ်သိမ့်ခြင်း ပီတိ အဆင့်ဆင့် ဖြစ်၏။ ပီတိ ဖြစ်သောသူအား ကုသိုလ်တရားတို့ အလွန်တရာ တိုးပွားကုန်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ရေများစွာ ပြည့်လျှံနေသော ရေတွင်း၌ ရေသည် တစ်ခုသော အရပ်မှဝင်၍ တစ်ခုသောအရပ်သို့ ထွက်၏။ ထွက်သော်လည်း အဆင့်ဆင့်ဖြစ်၍ ကုန်ခန်းခြင်းသို့ မရောက်နိုင်ပေ။ ဤအတူပင် ကုသိုလ်တရားသည် အလွန်တရာတိုးပွား၏။ လွန်လေပြီးသော နှစ်ပေါင်းတစ်ရာတုန်းက ပြုခဲ့ဖူးသော ကုသိုလ်ကောင်းမှုကိုပင် ကုသိုလ်ရှင်ယောကျ်ားသည် အကယ်၍ အောက်မေ့ငြားအံ့။ ထိုယောကျ်ားအား အောက်မေ့တိုင်း အောက်မေ့တိုင်း ကုသိုလ်တရားတို့ အလွန်တရာ တိုးပွားကုန်၏။ ထိုကုသိုလ်ကို အလိုရှိသော သူတို့အား အမျှပေးဝေ၍ရ၏။ ဤသို့ အားဖြင့် ကုသိုလ်တရားသည် အားကြီးပေ၏။

'မင်းမြတ်၊ အကုသိုလ်အမှုကို ပြုမိသော သူသည်ကား ပြုပြီးနောက်၌ နှလုံးမသာယာ သဖြင့် စိတ်သည်တွန့်၏။ စိုးရိမ်ပူပန်၏။ စိတ်ဓာတ်အင်အား ကုန်ခန်း၏။ ဥပမာအားဖြင့် ရေခန်းခြောက်၍ သဲအားကြီးကာ ကွေ့ကောက်နေသော ချောင်းငယ်ထဲ၌ အထက်မှ စီးဝင်လာသော ရေသည် စီးဝင်ရာအရပ်၌သာလျှင် ကုန်ခန်း ပျောက်ကွယ်သွား၏။ ဤအတူသာပင် အကုသိုလ် အမှု ပြုသောသူ၏ စိတ်ဓာတ်အင်အားသည် ပြုရာအရပ်မှာပင် ကုန်ခန်းသွား၏။ ထို့ကြောင့် အကုသိုလ်သည် အားနည်းပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၅။ အိပ်မက်ဟူသည် အဘယ်နည်း

'အရှင်နာဂသေနဘုရား၊ ဤလောက၌ ယောကျ်ား မိန်းမတို့သည် အိပ်မက်မျိုးစုံကို မက်ကြပါကုန်၏။ ကောင်းသော အိပ်မက်ကို လည်းကောင်း၊ မကောင်းသော အိပ်မက်ကို လည်းကောင်း၊ မြင်ဖူးသော အိပ်မက်ကို လည်းကောင်း၊ မမြင်ဖူးသော အိပ်မက်ကို လည်းကောင်း၊ ပြုလုပ်ဖူးသော အိပ်မက်ကို လည်းကောင်း၊ မပြုလုပ်ဖူးသော အိပ်မက်ကို လည်းကောင်း၊ ဘေးကင်းသော အိပ်မက်ကို လည်းကောင်း၊ ဘေးမကင်းသော အိပ်မက်ကို လည်းကောင်း၊ ဝေးသောအရပ်မှ အကြောင်းအရာတို့ကို လည်းကောင်း၊ နီးသောအရပ်မှ အကြောင်းအရာ တို့ကို လည်းကောင်း၊ တစ်ထောင်မက များပြားလှသော အကြောင်းအရာတို့ကို လည်းကောင်း မြင်မက်ကြပါကုန်၏။ ဤတွင် အိပ်မက်ဟူသည် အဘယ်ပါနည်း။ မည်သူသည် အိပ်မက် မက်ပါသနည်း'

'မင်းမြတ်၊ အိပ်တစ်ဝက် နိုးတစ်ဝက် ဖြစ်နေသောအချိန်၌ စိတ်ထဲမှာ ပေါ်လာသော အာရုံသည် အိပ်မက်ပေတည်း။ အိပ်မက် မက်သောသူ ခြောက်ယောက်တို့ကား–လေနာရှိသူ၊ သည်းခြေနာရှိသူ၊ သလိပ်နာရှိသူ တို့သည် အိပ်မက်မက်ကုန်၏။ နတ်တို့ ဆောင်ပြ၍၊ ရှေး၌ အလေ့အကျက် ပြုခဲ့ဖူး၍ ပုဗ္ဗနိမိတ်ပြလို၍ အိပ်မက်မက်သူတို့လည်း ရှိကြကုန်၏။ ထိုခြောက်ယောက် တို့တွင် ပုဗ္ဗနိမိတ်ပြလို၍ မြင်မက်သော အိပ်မက်တစ်ခုသာ မှန်၏။ အခြားအိပ်မက်တို့ကား မမှန်ချေ'

'အရှင်ဘုရား၊ ပုဗ္ဗနိမိတ်ပြလို၍ အိပ်မက်မက်ရာတွင် စိတ်က အာရုံရှိရာသို့ အလိုလို သွား၍ စူးစမ်းပါသလော။ အာရုံကမူလည်း စိတ်ရှိရာ လာရောက်၍ ထင်ဟပ်ပါသလော။ အခြားသူတစ်ယောက်ယောက်ကမူလည်း လာရောက်၍ ပြောကြားပါသလော'

'မင်းမြတ်၊ ဥပမာအားဖြင့် ကြေးမုံသည် အရိပ်ရှိရာသို့ အလိုလိုသွား၍ မစူးစမ်းပေ။ အခြားသူ တစ်ယောက်ယောက်ကလည်း အရိပ်ကိုယူလာ၍ ကြေးမုံပေါ် တင်မပေးပေ။ အမှန်အားဖြင့် အရိပ်သည် တစ်စုံတစ်ခုသော အရပ်မှ အမှတ်မထင် ရောက်လာကာ ကြေးမုံပေါ်၌ ထင်ဟပ်နေပေ၏။ ဤအတူသာပင် အိမ်မက်မက်သော စိတ်ကလည်း အာရုံရှိရာသို့ သွား၍ မစူးစမ်းပေ။ အခြားသူ တစ်စုံတစ်ယောက်ကလည်း လာရောက်၍ မပြောကြားပေ။ အမှန်အားဖြင့် အာရုံသည် တစ်စုံ တစ်ခုသောအရပ်မှ အမှတ်မထင် ရောက်လာကာ ထင်ဟပ်လာခြင်းသာဖြစ်ပေ၏'

အရှင်ဘုရား အိမ်မက်မက်နေသော စိတ်သည် အိမ်မက်၏ အကျိုးအပြစ်ကို သိနိုင်ပါသလော'

'မင်းမြတ်၊ ဥပမာအားဖြင့် ကိုယ်ပေါ်မှာ ပေါက်လာကြသောမှဲ့များ၊ အဖုအပိန့်များ၊ ပွေးများသည် လာဘ်ရခြင်း၊ မရခြင်း၊ အခြံအရံများခြင်း၊ မများခြင်း၊ ချီးမွမ်းခံရခြင်း၊ ကဲ့ရဲ့ခံရခြင်း၊ ချမ်းသာခြင်း၊ ဆင်းရဲခြင်းတို့အလို့ငှာ ဖြစ်ကုန်၏ ဟူ၍ သိကြပါသလော'

'အရှင်ဘုရား၊ မသိနိုင်ကြပါ။ ထိုမှဲ့များ၊ အဖုအပိန့်များ၊ ပွေးများကို နိမိတ်ဖတ်တတ်သူတို့က ကြည့်ရှုကာ ကောင်းကျိုး၊ ဆိုးပြစ်ကို ဟောဆိုကြရပါကုန်၏'

'မင်းမြတ်၊ ဤအတူသာပင် အိမ်မက် မက်နေသော စိတ်သည်လည်း အိမ်မက်၏ ကောင်းကျိုး ဆိုးပြစ်ကို မသိနိုင်ပေ။ အိမ်မက် မက်သောသူက အခြားသူတစ်ယောက်အား ပြောကြားသောအခါမှ ထိုသူတို့က နိမိတ်ဖတ်ကာ ကောင်းကျိုး ဆိုးပြစ်ကို ဟောဆိုကြရကုန်၏'

'အရှင်ဘုရား၊ အိမ်မက် မက်သောသူသည် အိပ်ပျော်နေစဉ် မြင်မက်ပါသလော။ သို့မဟုတ် နိုးကြားနေစဉ် မြင်မက်ပါသလော'

'မင်းမြတ်၊ အိပ်ပျော်နေစဉ်မှာလည်း မမြင်မက်၊ နိုးကြားနေစဉ်မှာလည်း မမြင်မက်ပေ။ စင်စစ်အားဖြင့် ငိုက်မျဉ်းနေသော အခိုက်အတန့်၊ ဘဝအလျဉ်သို့ မရောက်သေးမီ အတောအတွင်း၌ အိမ်မက်ကို မြင်မက်၏။ ဥပမာအားဖြင့် အလွန်စင်ကြယ်လှသော ကြေးမုံပြင်ကိုသော်လည်း အလင်းရောင် မရှိသော အမိုက်တိုက်၌ ထောင်ထားလျှင် အရိပ်မထင်ပေ။ ဤအတူသာပင် ငိုက်မျဉ်းနေသော စိတ်သည် ဘဝအလျဉ်သို့ဆိုက်ရောက်သွားသောအခါ စိတ်သည် ဇောဝီထိအားဖြင့် မဖြစ်ပေါ်နိုင်ပေ။ ဇောဝီထိအားဖြင့် မဖြစ်သောစိတ်သည် ချမ်းသာဆင်းရဲကို မသိနိုင်ပေ။ ချမ်းသာဆင်းရဲကို မသိသော စိတ်သည် အိမ်မက်ကို မမြင်မက်နိုင်ပေ။

'မင်းမြတ်၊ ဘဝအလျဉ်သို့ ကျရောက်နေသော ပုဂ္ဂိုလ်၊ နိရောဓ သမာပတ် ဝင်စားနေသော ပုဂ္ဂိုလ် ဤပုဂ္ဂိုလ်နှစ်ဦးတို့၏ ကိုယ်ခန္ဓာသည် ထင်ရှားရှိနေသော်လည်း စိတ်ကား မဖြစ်ပေါ်ပေ။ မင်းမြတ်၊ နိုးကြားနေသောသူ၏ စိတ်သည် လှုပ်ရှား၏။ ပွင့်လင်း၏။ ပေါ်လွင်၏။ အမြဲမရှိပေ။ ထို့ကြောင့် သူ၏စိတ်အစဉ်၌ အိမ်မက်အာရုံ မထင်လာနိုင်ပေ။ ဥပမာအားဖြင့် ပွင့်ပွင့် လင်းလင်း ပြောဆိုတတ်သော၊ ပေါ်ပေါ်လွင်လွင် နေထိုင်တတ်သော၊ သိပ်သည်းကျစ်လျစ်မှုမရှိသော ယောကျ်ားကို လျှို့ဝှက်စွာ တိုင်ပင်လိုသူက ရှောင်ရှားကြရ၏။ ဤအတူသာပင် နိုးကြားနေသောသူ၏ စိတ်အစဉ်၌ နတ်တို့ဆောင်ပြသော အိမ်မက်အာရုံပင် မထင်လာနိုင်ပေ'

'အရှင်ဘုရား၊ အိပ်ခြင်း၏အစ၊ အလယ်၊ အဆုံးဟူ၍ ရှိပါသလော'

'မင်းမြတ်၊အိပ်ခြင်း၏အစ၊ အလယ်၊ အဆုံးတို့ ရှိပေ၏'

'အရှင်ဘုရား၊ အိပ်ခြင်း၏အစ၊ အလယ်၊ အဆုံးတို့ကား အဘယ်တို့ပေနည်း'

'မင်းမြတ်၊ လေးလံထိုင်းမှိုင်းခြင်း၊ စိတ်ဓာတ်အင်အား နည်းပါးခြင်း၊ ထိုထိုအာရုံကို တွေးတောကြံစည်ခြင်း၌ မလွယ်ကူခြင်းတို့သည် အိပ်ခြင်း၏အစတည်း။ မျောက်အိပ်ခြင်းကဲ့သို့ ငိုက်မျဉ်းလျက် စိတ်အစဉ်သည် ဘဝနှင့်ရောပြွန်းစပြုလာခြင်းကား အိပ်ခြင်း၏အလယ်တည်း။ စိတ်အစဉ်၏ ဘဝအလျဉ်သို့ ဆိုက်ရောက်သွားခြင်းကား အိပ်ခြင်း၏ အဆုံးပေတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် လုံ့လဝီရိယ၊ သမာဓိ၊ ပညာတို့နှင့် ပြည့်စုံသောယောကျ်ားသည် အုတ်အုတ်ကျက်ကျက် ဆူပွက်သံများ မရှိသော တောအုတ်သို့ ဝင်ပြီးလျှင် သိမ်မွေ့သော အနက်

အခိပ္ပာယ်ကို တွေးတော ကြံစည်၏။ ထိုယောကျ်ားသည် အိပ်ပျော်ခြင်းသို့ မသက်ရောက်ဘဲ သိမ်မွေ့သော အနက်အဓိပ္ပာယ်ကို ထိုးထွင်း၍သိ၏။ ဤအတူသာပင် မျောက်၏ အိပ်ခြင်းကဲ့သို့ ငိုက်မျဉ်းနေသောသူသည် နိုးကြားခြင်းသို့ မရောက်မူ၍ အိမ်မက်ကိုမြင်မက်၏။ နိုးကြားခြင်းကို အုတ်အုတ်ကျက်ကျက် အသံကဲ့သို့ မှတ်ယူသင့်၏။ မျောက်၏အိပ်ခြင်းကဲ့သို့ ငိုက်မျဉ်းနေသောသူကို ဆိတ်ငြိမ်သော တောကဲ့သို့ မှတ်ယူသင့်၏။ အိပ်မပျော်ဘဲ သိမ်မွေ့သော အနက်အဓိပ္ပာယ်ကို ထိုးထွင်း၍ သိနေသကဲ့သို့ ငိုက်မျဉ်းနေသောသူ၏ အိမ်မက် မက်နေခြင်းကို မှတ်ယူသင့်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကိုယ်သာထင်ရှား၍ စိတ်မရှိသောပုဂ္ဂိုလ် နှစ်ယောက်တို့တွင် နိရောဓ သမာပတ်ဝင်စားသော ပုဂ္ဂိုလ်မှာ စိတ်ခန္ဓာအားလုံးကို ချုပ်ငြိမ်းကွယ်ပျောက်နေ၏။ ဘဝအလျဉ်သို့ ဆိုက်ရောက်၍ အိပ်ပျော် နေသော သူများကား ဝီထိစိတ်များ မဖြစ်ပေါ်ရုံမျှသာ ဖြစ်၏။ ဘဝစိတ် အလျဉ်ကား မပြတ်မစဲ ဖြစ်မြဲတိုင်း ဖြစ်ပေ၏။]

## ၆။ သေချိန်မရောက်မီ သေသောသူဟူ၍ ရှိသလော

'အရှင်နာဂသေနဘုရား၊ သတ္တဝါအားလုံးတို့သည် သေချိန်ရောက်မှ သေကြရပါသလော။ သေချိန်မရောက်မီ သေကြရပါသလော'

'မင်းမြတ်၊ သေချိန်ရောက်မှ သေသည်လည်း ရှိကုန်၏။ သေချိန် မရောက်မီ သေသည်လည်း ရှိကုန်၏'

'အရှင်ဘုရား၊ အဘယ်သူတို့သည် သေချိန်ရောက်မှ သေကြရပါကုန်သနည်း။ အဘယ် သူတို့သည် သေချိန်မရောက်မီ သေကြရပါကုန်သနည်း'

'မင်းမြတ်၊ သစ်ပင်မှကြွေကျသော သစ်သီးတို့သည် ကြွေချိန်ရောက်မှ ကြွေကျရပါသလော။ ကြွေချိန်မရောက်မီ ကြွေကျရပါသလော'

'အရှင်ဘုရား၊ မှည့်ရင့်ပျော့အိ၍ ကြွေကျသော သစ်သီးတို့သည် ကြွေချိန်ရောက်မှ ကြွေကျရပါကုန်၏။ ပိုးထိုးသော်လည်းကောင်း၊ တုတ် ဆောက်ပုတ်တို့ဖြင့် ရိုက်ခတ်မိ၍သော် လည်းကောင်း၊ လေတိုက်ခတ်၍ သော်လည်းကောင်း၊ အတွင်းပုပ်၍သော်လည်းကောင်း ကြွေကျရသော သစ်သီးတို့ကား ကြွေချိန်မရောက်မီ ကြွေကျရပါကုန်၏'

'မင်းမြတ်၊ ဤအတူသာပင် အိုမင်းရင့်ရော်၍ သေရသူတို့သည် သေချိန်ရောက်မှ သေကြရပေကုန်၏။ ကြွင်းသောသတ္တဝါတို့တွင် အချို့သည် ကံနှိပ်စက်၍ သေကုန်၏။ အချို့သည် ဂတိနှိပ်စက်၍ သေကုန်၏။ အချို့သည် အပြုအမူ နှိပ်စက်၍ သေကုန်၏။ ထိုသူတို့ကား သေချိန်မရောက်မီ သေကြရပေကုန်၏'

'အရှင်ဘုရား၊ သေဆုံးသူအားလုံးတို့သည် သေချိန်ရောက်၍သာ သေကြရကုန်၏။ အမိဝမ်းမှာပင် သေဆုံးသူ၊ မွေးဖွားရာအိမ်၌ သေဆုံးသူ၊ အသက်တစ်လနှင့်သေဆုံးရသူ၊ အသက်တစ်နှစ်ဖြင့် သေဆုံးသူ၊ အနှစ်တစ်ရာရှိမှ သေဆုံးသူတို့သည် မိမိ၊ မိမိတို့၏ သေချိန်ရောက်၍သာ သေကြရကုန်၏။ ထိုသို့ဖြစ်ပါမူ သေချိန်မရောက်မီ သေသောသူဟူ၍ မရှိနိုင်ပေ'

'မင်းမြတ်၊ ဤခုနစ်ယောက်သော သူတို့သည် ပိုမို၍အသက်ရှင်နေနိုင်ရန် အခွင့်ရှိသေးသော်လည်း သေချိန်မရောက်မီ သေကြရကုန်၏။ ထိုခုနစ်ယောက်တို့ကား ငတ်မွတ်ဆာလောင်နေသူသည် အစာကို မစားရလျှင်၊ ရေငတ်သူသည် ရေကိုမသောက်ရလျှင်၊ မြွေကိုက်ခံရသူသည် ဆေးကုသ မခံရလျှင်၊ အဆိပ်စားမိသူသည် ဆေးကုသ မခံရလျှင်၊ မီးလောင်ခံရသူသည် မီးငြိမ်းကြောင်းကို မရလျှင်၊ ရေနစ်သူသည် ထောက်တည်ရာမရလျှင်၊ လက်နက်ထိခိုက်မိ၍ ဒဏ်ရာရနေသူသည် ဆေးကုသမခံရလျှင် သေဆုံးရ၏။ ခုနစ်ယောက်သော ဤသူတို့သည် ပိုမို၍ အသက်ရှင်နေနိုင်ရန် အခွင့်ရှိသေးသော်လည်း သေချိန်မရောက်မီ သေကြရပေကုန်၏။

'မင်းမြတ်၊ သတ္တဝါတို့ သေဆုံးခြင်း၏ အကြောင်းရှစ်ပါးတို့ ရှိကြကုန်၏။ လေကြောင့်လည်းကောင်း၊ သည်းခြေကြောင့်လည်းကောင်း၊ သလိပ်ကြောင့်လည်းကောင်း၊ လေ သည်းခြေ သလိပ်တို့ သုံးပါးစုံစုပေါင်း၍ ပျက်စီးသော သန္နိပါတ်ကြောင့်လည်းကောင်း၊ ဥတုဖောက်ပြန်သောကြောင့်လည်းကောင်း၊ မကြေညက်သော အစားအစာကြောင့် လည်းကောင်း၊ သူတစ်ပါးတို့ သတ်ဖြတ်သောကြောင့် လည်းကောင်း၊ ကံအကျိုးပေးကြောင့် လည်းကောင်း သတ္တဝါတို့ သေကြရကုန်၏။ ထိုရှစ်မျိုးတို့တွင် ကံအကျိုးပေးကြောင့် သေဆုံးရခြင်းသာလျှင် သေချိန်ရောက်မှ သေဆုံးရခြင်းဖြစ်၏။ အခြားသေခြင်းတို့ကား သေချိန်မရောက်မီ သေကြရခြင်းတို့ ဖြစ်ကုန်၏။

'မင်းမြတ်၊ ရှေးဘဝတုန်းက သူတစ်ပါးကို ဆာလောင်ငတ်မွတ်အောင်ထား၍ သတ်ခဲ့ကြသောသူတို့သည် ဆာလောင်မွတ်သိပ်ခြင်းဖြင့် အနှိပ်စက်ခံရကာ တစ်ကိုယ်လုံး ခြောက်ကပ်လောင်ကျွမ်း၍ နုပျိုစဉ်မှာ ဖြစ်စေ၊ အရွယ်လတ်မှာ ဖြစ်စေ၊ အရွယ်အိုမှာ ဖြစ်စေ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကို ရေငတ်အောင်ထား၍ သတ်ခဲ့ကြသောသူတို့သည် နှစ်ပေါင်းသိန်းပေါင်းများစွာ အစာမစားနိုင်၊ ရေမသောက်နိုင်သော နိဇ္ဈာမတဏှိက ပြိတ္တာဖြစ်ကာ နှစ်လုံးခြောက်ကပ် ရေငတ်ခြင်းဖြင့် အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကိုမြွေကိုက်စေ၍ သတ်ခဲ့ကြသော သူတို့သည် မြွေတစ်ကောင်ပြီးတစ်ကောင် အကိုက်ခံရ၍ အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကိုအဆိပ်ကျွေး၍ သတ်ခဲ့သောသူတို့သည် နှစ်ပေါင်းသိန်းပေါင်းများစွာ အဆိပ်မိ၍ ကိုယ်ခန္ဓာကွဲပျက် ပုပ်လောင်၍ အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကိုအဆိပ်ကျွေး၍ သတ်ခဲ့ကြသောသူတို့သည် နှစ်ပေါင်း သိန်းပေါင်းများစွာ အဆိပ်မိ၍ ကိုယ်ခန္ဓာကွဲပျက် ပုပ်လောင်၍ အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကို မီးတိုက်၍သတ်ခဲ့ကြသော သူတို့သည် နှစ်ပေါင်း သိန်းပေါင်းများစွာ မီးတောင်တစ်ခုမှ မီးတောင်တစ်ခုသို့ ပြောင်းရွှေ့၍ ယမမင်း၏ နိုင်ငံတစ်ခုမှ အခြားယမမင်း၏နိုင်ငံတစ်ခုသို့ ပြောင်းရွှေ့၍ အလောင်မြိုက်ခံရကာ အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးကို ရေနှစ်၍သတ်ခဲ့သောသူတို့သည် နှစ်ပေါင်းသိန်းပေါင်းများစွာ ကိုယ်ခန္ဓာများ ကျိုးပဲ့ပျက်စီး၍ စိတ်ချောက်ချားကာ အရွယ်တစ်ပါးပါး၌ ရေနစ်၍ သေဆုံးရကုန်၏။

ရှေးဘဝတုန်းက သူတစ်ပါးတို့ကို လှံဖြင့်ထိုး၍ သတ်ခဲ့သောသူတို့သည် နှစ်ပေါင်း သိန်းပေါင်းများစွာ ကိုယ်ခန္ဓာကို မှုန့်မှုန့်ညက်ညက်ကြေအောင် လှံဖြင့်ထိုးမွှေခြင်းခံရကာ အရွယ်တစ်ပါးပါး၌ သေဆုံးရကုန်၏။ ဤသူတို့သေဆုံးခြင်းသည် အချိန်ရောက်မှ သေဆုံး ခြင်းပေတည်း'

'အရှင်ဘုရား၊ သေချိန်မရောက်မီ သေကြရပုံ တပည့်တော်အား အကြောင်းပြ၍ မိန့်ကြား ပါလော့'

'မင်းမြတ်၊ ဥပမာအားဖြင့် ကြီးလှစွာသော မီးပုံကြီးသည် ထင်းမီးစာတို့ကို အကုန်အစင် လောင်ကျွမ်းပြီးလျှင် နောက်ထပ်လောင်ကျွမ်းစရာမီးစာ မရှိတော့သဖြင့် ငြိမ်းသွား၏။ ထိုမီးပုံကြီးကို ငြိမ်းချိန်ရောက်မှ ငြိမ်းရသည်ဟု ဆိုအပ်၏။ ဤအတူသာပင် လူတစ်ယောက်သည် နှစ်ပေါင်းများစွာ အသက်ရှင်နေခဲ့ပြီးလျှင် အိုမင်းရင့်ရော်၍ သေဆုံးခဲ့၏။ ထိုသူကို သေချိန်ရောက်၍ သေဆုံးသည်ဟု ဆိုအပ်၏။

'မင်းမြတ်၊ ဥပမာတစ်မျိုးအားဖြင့် ကြီးလှစွာသော မီးပုံကြီးသည် ထင်းမီးစာတို့ကို အရှိန်ပြင်းစွာ တောက်လောင်နေစဉ် လောင်စရာမီးစာများရှိနေသေးပါလျက် မိုးကြီးသည်းထန်စွာ ရွာသွန်းသဖြင့် ငြိမ်းသွားရ၏။ ထိုမီးပုံကြီးကို ငြိမ်းချိန်ရောက်၍ ငြိမ်းရသည်ဟု ဆိုနိုင်မည်လော'

'အရှင်ဘုရား၊ မဆိုနိုင်ပါ'

'မင်းမြတ်၊ နောက်မီးပုံကြီးသည် ယခင် မီးပုံကြီးနှင့် အဘယ့်ကြောင့် မတူပါသနည်း'

'အရှင်ဘုရား၊ ရုတ်တရက် မိုးကြီးသည်းထန်စွာရွာသွန်းကာ ငြိမ်းချိန်မရောက်ဘဲ ငြိမ်းသွား ရသောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် လေ၊ သည်းခြေ စသော အကြောင်းခုနစ်မျိုး တို့ကြောင့် သတ္တဝါသည် သေချိန်မရောက်မီ သေဆုံးရ၏။ လေ၊ သည်းခြေ စသော ဤအကြောင်း ခုနစ်မျိုးတို့ကား အချိန်မရောက်မီ သေဆုံးရခြင်း၏ အကြောင်းတို့ပေတည်း'

'အရှင်ဘုရား၊ ကောင်းလှပါရပေ၏'

[ကျမ်းရင်း၌ သေချိန်ရောက်မှ သေခြင်းနှင့် သေချိန်မရောက်မီ သေရခြင်းတို့ကို အားစွမ်းကုန်သော ရွာသွန်းခွင့်ရသော မိုးကြီးနှင့် ရွာတုန်းဆဲဆဲတွင် လေပြင်းတိုက်၍ ကင်းပြတ် သွားရသော မိုးကြီးနှင့်လည်းကောင်း၊ ကုသမည့်သူ မရှိ၍ အသက်ဆုံးသည့်တိုင်အောင် စွမ်းနိုင်သော မြွေဆိပ်နှင့် ကုသမည့်သူ တွေ့ရ၍ အသက်ဆုံးသည်အထိ မစွမ်းနိုင်သော မြွေဆိပ်ဖြင့် လည်းကောင်း၊ အနှောင့်အယှက် မတွေ့ရဘဲ အသံကုန်အောင် မြည်ရသောသံခွက်ကို တီးခေါက်သော အသံနှင့် အနှောင့်အယှက် တွေ့သဖြင့် လမ်းခုလတ်မှ ရပ်တန့်သွားရသော သံခွက်မှအသံဖြင့် လည်းကောင်း၊ မိုးကောင်းသဖြင့် အစွမ်းကုန်အောင်မြင်သော စပါးနှင့် မိုးခေါင်ခြင်း၊ ပိုးကိုက်ခြင်း၊ မှိုသီးကျခြင်းတို့ကြောင့် မအောင်မီ ပျက်စီးရသော စပါးတို့ဖြင့် လည်းကောင်း ဥပမာပြုသေး၏။]

## ၇။ စေတီတိုင်းက တန်ခိုးပြသလော

'အရှင်နာဂသေနဘုရား၊ ပရိနိဗ္ဗာန်စံလွန်တော် မူကြကုန်သော ဘုရားရှင် အားလုံး၏ စေတီတို့သည် တန်ခိုးပြာဋိဟာ ပြကြပါသလော၊ သို့မဟုတ် အချို့ စေတီတော်တို့ကသာ တန်ခိုးပြာဋိဟာ ပြကြပါသလော'

'မင်းမြတ်၊ အချို့သော စေတီတော်တို့သည်သာ တန်ခိုးပြ၍ အချို့စေတီတော်တို့ကား တန်ခိုးမပြကြကုန်'

'အရှင်ဘုရား၊ အဘယ်စေတီတော်သည် တန်ခိုးပြာဋိဟာပြ၍ အဘယ်စေတီသည် တန်ခိုးပြဋိဟာ မပြသနည်း'

'မင်းမြတ်၊ သုံးဦးသော ပုဂ္ဂိုလ်က အဓိဋ္ဌာန်ပြုသောစေတီတော်သည် တန်ခိုးပြာဋိဟာပြ၍ အဓိဋ္ဌာန်မပြုသော စေတီတော်သည် တန်ခိုးပြာဋိဟာ မပြပေ။ အဓိဋ္ဌာန်ပြုသောပုဂ္ဂိုလ်သုံးဦးကား- ဤသာသနာတော်၌ ရဟန္တာပုဂ္ဂိုလ်သည် နတ်လူတို့အား သနားသောအားဖြင့်စေတီတော်အနီးအပါး၌ရပ်လျက် ဤစေတီတော်၌ ဤသို့ ဤသို့သော တန်ခိုးပြာဋိဟာ ပြလာစေသတည်းဟု အဓိဋ္ဌာန်ပြု၏။ ထိုရဟန္တာပုဂ္ဂိုလ်၏ အဓိဋ္ဌာန် အတိုင်း စေတီတော်သည် တန်ခိုးပြာဋိဟာပြ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား နတ်တို့သည်လူတို့အား သနားသောအားဖြင့် သူတော်ကောင်းတရားကို လူအများတို့ ချီးမြှောက်လာကြစေရန် လည်းကောင်း၊ စေတီတော်ကို ကြည်ညိုသောအားဖြင့် ကုသိုလ်တရားတို့ တိုးပွားလာစေရန် လည်းကောင်း ဘုရားရှင်၏စေတီတော်၌ တန်ခိုးပြာဋိဟာ ပြကြကုန်၏။

မင်းမြတ်၊ နောက်တစ်မျိုးကား သာသနာတော်ကို ကြည်ညို၍ အသိအလိမ္မာဉာဏ်ပညာရှိသော ယောကျာ်း၊ မိန်းမ တစ်ယောက်ယောက်သည် ဤသို့ ဤသို့သော တန်ခိုးပြာဋိဟာကို ပြပါစေသတည်း ဟု အဓိဋ္ဌာန်ပြု၍ ပန်း၊ နံ့သာ၊ အဝတ်ပုဆိုး စသော လှူဖွယ်ဝတ္ထု

တစ်ခုခုကို စေတီတော်ပေါ်သို့ တင်မြှောက်လိုက်၏။ ထိုသူ၏ အဓိဋ္ဌာန် အတိုင်း စေတီတော်သည် တန်ခိုးပြာဋိဟာပြလျက် လှူဖွယ်ဝတ္ထု တို့ကို ခံယူပေ၏။ ဤသို့အားဖြင့် သုံးဦးသောပုဂ္ဂိုလ်တို့၏ အဓိဋ္ဌာန်ဖြင့် ဘုရားရှင်၏ စေတီတော်သည် တန်ခိုးပြာဋိဟာ ပြပေ၏။

မင်းမြတ်၊ ထိုပုဂ္ဂိုလ် သုံးဦးတို့ကား အဓိဋ္ဌာန်မပြုကြပါလျှင် အဘိညာဉ်ခြောက်ပါး ရရှိ၍ အာသဝကင်းကွာပြီးသော ရဟန္တာပုဂ္ဂိုလ်၏ စေတီတော်ပင် ဖြစ်သော်ငြားလည်း တန်ခိုးပြာဋိဟာ မပြပေ။ ဤသို့ တန်ခိုးပြာဋိဟာ မပြသော်လည်း ဤသည်ကား ကောင်းမွန်စွာ ပရိနိဗ္ဗာန်စံဝင်တော်မူပေသော ဘုရားသားတော်၏ စေတီတော်ပင်တည်း ဟူ၍ အရှင်မြတ်၏ ကောင်းမြတ်စင်ကြယ်သော အကျင့်ကို ရှုမြင်သုံးသပ် ကြည်ညိုဆည်းကပ်သင့်ပေ၏'

'အရှင်ဘုရား၊ ကောင်းမြတ်လှပါပေ၏'

## ၈။ ခုနစ်နှစ်အောက် ငယ်သောကလေးသည် အဘယ့်ကြောင့် တရားထူးမရနိုင်သနည်း

'အရှင်နာဂသေနဘုရား၊ ကောင်းမွန်စွာ ကျင့်သုံးနေထိုင်သူ အားလုံးပင် မဂ်ဖိုလ်တရားကို ရနိုင်ပါသလော။ သို့မဟုတ် အချို့သူတို့သာလျှင် ရနိုင်ပါသလော'

'မင်းမြတ်၊ အချို့သူတို့သာ ရနိုင်ကုန်၏။ အချို့သူတို့ကား မရနိုင်ကုန်'

'အရှင်ဘုရား၊ အဘယ်သူတို့သည် ရနိုင်၍ အဘယ်သူတို့သည် မရနိုင်ပါသနည်း'

'မင်းမြတ်၊ တိရစ္ဆာန်၊ ပြိတ္တာ၊ မိစ္ဆာအယူရှိသူ၊ ကောက်ကျစ်စဉ်းလဲသူ၊ အမိသတ်သူ၊ အဖသတ်သူ၊ ရဟန္တာသတ်သူ၊ သံဃာကို သင်းခွဲသူ၊ ဘုရားရှင်အား သွေးစိမ်းတည်အောင်ပြုသူ၊ ရဟန်းအသွင်ကို ခိုးယူသူ၊ တိတ္ထိဘောင်သို့ ပြောင်းရွှေ့သွားသူ၊ ဘိက္ခုနီမကိုဖျက်ဆီးသူ၊ သံဃာဒိသိသ် အာပတ် တစ်ပါးပါးသင့်ပြီးလျှင် အာပတ်မှ မထမြောက်သေးသူ၊ ပဏ္ဍုက်ငါးမျိုး၊ ဥပတောဗျည်းအားဖြင့် တစ်ဆယ့်ငါးယောက်သော ဤသူတို့သည် ကောင်းမွန်စွာ ကျင့်သုံး နေထိုင်သော်လည်း မဂ်တရား ဖိုလ်တရားကို မရနိုင်ပေ။ ခုနစ်နှစ်မရှိသေးသော သူငယ်သည်လည်း မဂ်တရား ဖိုလ်တရားကို မရနိုင်ပေ'

'အရှင်ဘုရား၊ တစ်ဆယ့်ငါးယောက်သော ပုဂ္ဂိုလ်တို့သည် သာသနာတော်နှင့်ဆန့်ကျင်နေသောကြောင့် မဂ်တရား ဖိုလ်တရား မရနိုင်သော်ရှိပါစေ။ ခုနစ်နှစ်မရှိသေးသော သူငယ်သည်ကား အဘယ့်ကြောင့် မဂ်တရား ဖိုလ်တရား မရနိုင်ပါသနည်း။ ထိုသူငယ်မှာ ရာဂမရှိသေး၊ ဒေါသ မရှိသေး၊ မောဟ မရှိသေး၊ မာနမရှိသေး၊ အယူမှား မဖြစ်လာသေး၊ မမွေ့လျော်မှု မဖြစ်လာသေး၊ ကာမဂုဏ်ကို မကြံစည်တတ်သေး၊ ကိလေသာနှင့်မရောနှောသေး။ သို့ဖြစ်၍ ထိုသူငယ်သည် သစ္စာ လေးပါးကို တစ်ကြိမ်တည်းနှင့်ပင် ထိုးထွင်း၍ သိသင့်သည် မဟုတ်ပါလော'

'မင်းမြတ်၊ ထိုကဲ့သို့ ကိလေသာတရားများ မဖြစ်လာသေးသောကြောင့်ပင် ခုနစ်နှစ်မရှိသေးသောသူငယ်သည် မဂ်တရား ဖိုလ်တရားကို မရနိုင်ပေ။ ထိုသူငယ်သည် အကယ်၍ တပ်မက်ဖွယ်အာရုံ၌ ရာဂဖြင့် တပ်မက်ငြားအံ့။ ပြစ်မှားဖွယ်အာရုံ၌ ဒေါသဖြင့် ပြစ်မှားငြားအံ့။ တွေဝေဖွယ်အာရုံ၌ မောဟဖြင့် တွေဝေငြားအံ့။ မာန်ယစ်ဖွယ် အာရုံ၌ မာနဖြင့် ယစ်မူးငြားအံ့။ အယူမှားအယူမှန်ကို ခွဲခြား၍ သိနိုင်ငြားအံ့။ မွေ့လျော်ဖွယ်အာရုံမှ မမွေ့လျော်ဖွယ်အာရုံကို ခွဲခြား၍ သိနိုင်ငြားအံ့။ ကုသိုလ် အကုသိုလ်ဖြစ်အောင် ကြံစည်နိုင်ငြားအံ့။ ထိုသူငယ်သည် သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိနိုင်ရာ၏။ စင်စစ်အားဖြင့် ခုနစ်နှစ် မရှိသေးသော သူငယ်၏စိတ်သည် အားအင်နည်းလှသေး၏။ အသင်္ခတနိဗ္ဗာန်တရားတော်သည် ကြီးကျယ်မြင့်မြတ်လှ၏။

မင်းမြတ်၊ ဥပမာအားဖြင့် မြင်းမိုရ်တောင်သည် လေးလံ၏။ ကြီးကျယ်ပြန့်ပြော၏။ ထိုမြင်းမိုရ်တောင်မင်းကို ယောကျ်ားတစ်ယောက်က မိမိ၏ ပကတိခွန်အားဖြင့် ဆွဲနုတ်ယူနိုင်ပါမည်လော'

'အရှင်ဘုရား၊ မယူနိုင်ပါ'

'မင်းမြတ်၊ အဘယ့်ကြောင့်နည်း'

'အရှင်ဘုရား၊ ထိုယောကျ်ား၏ ခွန်အားသည် သေးငယ်နည်းပါးလှ၍ မြင်းမိုရ်တောင်မင်းက လေးလံ၍ ကြီးကျယ်ပြန့်ပြောလှသောကြောင့် ဖြစ်ပေ၏'

'မင်းမြတ်၊ ဤအတူသာပင် ခုနစ်နှစ်မရှိသေးသော သူငယ်သည် အားအင်နည်းပါးလှစွာသော မိမိစိတ်ဖြင့် ကြီးကျယ်မြင့်မြတ်လှစွာသော အသင်္ခတနိဗ္ဗာန်တရားတော်ကြီးကို မသိနိုင်ပေ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ ခုနစ်နှစ် မရှိသေးသော သူငယ်များ တရားထူး မရနိုင်ခြင်းကို ရေပေါက်ကလေးတစ်ပေါက်က မဟာပထဝီ မြေပြင်တစ်ခုလုံးကို ရွှံ့ညွှန်ဖြစ်သွားအောင် မစွမ်းနိုင်ပုံဖြင့် လည်းကောင်း၊ အနည်းငယ်မျှသော မီးတောက်ကလေးက နတ်နှင့်တကွသော လောကကို ထွန်းလင်းစေရန် မစွမ်းနိုင်ပုံဖြင့် လည်းကောင်း ဥပမာပြုသေး၏။

ခုနစ်နှစ်မပြည့်သေးခင် တရားထူး မရနိုင်သေးသော်လည်း ခုနစ်နှစ်ပြည့်ရုံနှင့်ပင် တရားထူးရကြသော ရဟန္တာသာမဏေကလေးများ အကြောင်းကို ဓမ္မပဒ ဒေသနာတော်များနှင့် ဝတ္ထုတော်များ၌ ဖတ်ရှုနိုင်ပေ၏။]

## ၉။ နိဗ္ဗာန်သည် ဆင်းရဲခြင်းနှင့်ရောပြွမ်းသလော

'အရှင်နာဂသေနဘုရား၊ နိဗ္ဗာန်သည် ချမ်းသာအတိ ဖြစ်ပါ၏လော၊ သို့မဟုတ် ဆင်းရဲခြင်းနှင့် ရောပြွမ်းပါသေးသလော'

'မင်းမြတ်၊ နိဗ္ဗာန်သည် ချမ်းသာအတိ ဖြစ်ပေ၏။ ဆင်းရဲခြင်းနှင့် မရောပြွမ်းပေ'

'အရှင်ဘုရား၊ ထိုစကားကို တပည့်တော် မယုံကြည်နိုင်ပါ။ နိဗ္ဗာန်သည် ဆင်းရဲခြင်းနှင့် ရောပြွမ်း၏ ဟူ၍သာလျှင် တပည့်တော် ယုံကြည်ပါ၏။နိဗ္ဗာန်ကို ရှာမှီးရသော သူတို့သည် ကိုယ်ရောစိတ်ပါ အားထုတ်ကြရပါကုန်၏။ ရပ်ခြင်း၊ သွားခြင်း၊ ထိုင်ခြင်း၊ လျောင်းခြင်း၊ စားသောက်ခြင်းတို့၌ ပျံ့လွင့်သောစိတ်တို့ကို သိမ်းဆည်းကြရကုန်၏။ ဥစ္စာစပါး၊ ချစ်သူခင်သူ၊ ဆွေမျိုးမိတ်ဆွေများကို ပယ်စွန့်ကြရကုန်၏။ လောက၌လူချမ်းသာဟူသမျှတို့သည် သာယာဖွယ်၊ နှစ်သက်ဖွယ် ဖြစ်ကုန်သော၊ မြောက်မြားစွာကုန်သော အဆင်းအရောင်အာရုံဖြင့် လည်းကောင်း၊ တီးမှုတ်ခြင်း၊ သီချင်းသံတို့ဖြင့် လည်းကောင်း၊ အပွင့် နံ့သာ၊ အသီး နံ့သာ၊ အရွက် နံ့သာ၊ အခေါက်နံ့သာ၊ အမြစ်နံ့သာ၊ အနှစ်နံ့သာတို့ဖြင့် လည်းကောင်း၊ မျိုးမည်စုံစွာသော စားဖွယ်၊ လျက်ဖွယ်၊ သောက်ဖွယ်တို့ဖြင့် လည်းကောင်း၊ နူးညံ့လှစွာ ကုန်သော၊ ပျော့ပျောင်း လှစွာကုန်သော၊ ချောမွတ်လှစွာကုန်သော အတွေ့အထိတို့ဖြင့် လည်းကောင်း၊ အမျိုးမျိုးသော ကာမဂုဏ်ခံစားမှုတို့ကို တွေးတောကြံစည်ခြင်းဖြင့် လည်းကောင်း မွေ့လျော်ပျော်စံကြပါကုန်၏။ နိဗ္ဗာန်ကိုရှာမှီးကြကုန်သော အရှင်ဘုရားတို့သည်ကား ထိုကဲ့သို့သော မွေ့လျော်ပျော်စံခြင်းကို ပယ်ဖြတ်ကြကုန်။ ပိတ်ပင်တားဆီးကြကုန်၏။ မိမိကိုယ်ကို နှိပ်စက်ကြကုန်၏။ သို့ဖြစ်၍ ကိုယ်ခန္ဓာပူလောင်လာ၏။ ကိုယ်ခန္ဓာပူလောင်သဖြင့် စိတ်မှာ ပူလောင်လာ၏။ စိတ်ပူလောင်သည်ရှိသော် စိတ်၌ဖြစ်သော ဒုက္ခဝေဒနာကို ခံစားရ၏။ ထို့ကြောင့်ပင် မာဂဏ္ဍိယ မည်သော ပရိဗိုဇ်က ရဟန်းဂေါတမသည် ကြီးပွားချမ်းသာခြင်းကို ဖျက်ဆီး၏ဟု ကဲ့ရဲ့မည် မဟုတ်ပါလော။ ထို့ကြောင့်ပင် နိဗ္ဗာန်သည် ဆင်းရဲခြင်းနှင့် ရောပြွမ်း၏ဟု တပည့်တော် လျှောက်ထားခဲ့ပါ၏'

'မင်းမြတ်၊ နိဗ္ဗာန်သည် ဆင်းရဲခြင်းနှင့် မရောပြွမ်းပေ။ နိဗ္ဗာန်သည် ချမ်းသာအတိသာ ဖြစ်ပေ၏။ သင်မင်းမြတ်ပြောဆိုသော ဆင်းရဲခြင်းတို့သည် နိဗ္ဗာန်မမည်ပေ။ စင်စစ်သော်ကား ထိုကဲ့သို့ ဆင်းရဲခြင်းတို့သည် နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း၏ ရှေ့အဖို့ပေတည်း။ နိဗ္ဗာန်ကို ရှာမှီးခြင်း၊ နိဗ္ဗာန်ရအောင် အားထုတ်ခြင်း၏ ဆင်းရဲခြင်းပေတည်း။ နိဗ္ဗာန်ကား ချမ်းသာ အတိသာတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် သင်မင်းမြတ်၏ မင်းစည်းစိမ်သည် ဆင်းရဲခြင်းနှင့်ရောပြွမ်း ပါသလော'

'အရှင်ဘုရား၊ မရောပြွမ်းပါ။ ချမ်းသာအတိသာ ဖြစ်ပေ၏'

'မင်းမြတ်၊ တိုင်းစွန်းပြည်ဖျားတို့၌ သူပုန်ထသောအခါ ထိုမင်းသည် ထိုသူပုန်ကို နှိမ်နင်းရန် စစ်တပ်ကြီးစွာ ခင်းကျင်း၍ ထွက်ရ၏။ တောတောင်ထဲ၌ မှက်၊ ခြင်၊ လေ၊ နေပူဒဏ်တို့ကို ခံစားရ၏။ ညီညွတ်သောအရပ်နှင့် မညီညွတ်သော အရပ်သို့ ပြေးသွားရ၏။ စစ်ပွဲကြီးစွာ ဆင်နွှဲရ၏။ ဤစစ်ပွဲ၌ အသက်သေမည်လော၊ ချမ်းသာမည်လောဟု နှလုံးနှစ်ခွ စိတ်ဒွိဟ ဖြစ်ရ၏။ ဤသို့သော ဆင်းရဲခြင်းတို့သည် အဘယ့်ကြောင့် ဖြစ်ရပါသနည်း'

'အရှင်ဘုရား၊ ဤသို့ဆင်းရဲခံရခြင်းမှာ မင်းစည်းစိမ်မဟုတ်ပါ။ မင်းစည်းစိမ်ကို ရှာမှီးခြင်း၏ ဆင်းရဲခြင်းတို့သာ ဖြစ်ပေ၏။ မင်းစည်းစိမ်သည်ကား ဆင်းရဲခြင်းနှင့်မရောပြွမ်းပါ၊ မင်းစည်းစိမ်နှင့်ဆင်းရဲခြင်းတို့သည် တခြားစီ တစ်ပါးစီသာ ဖြစ်ကြပါကုန်၏'

'မင်းမြတ်၊ ဤအတူသာပင် နိဗ္ဗာန်ကိုရှာမှီးခြင်း၊ နိဗ္ဗာန်ရအောင် အားထုတ်ခြင်းမှာသာ ဆင်းရဲခြင်းရှိ၍ နိဗ္ဗာန်ချမ်းသာကား ဆင်းရဲခြင်းနှင့်မရောပြွမ်းပေ။ နိဗ္ဗာန်ချမ်းသာနှင့် ဆင်းရဲခြင်းတို့သည် တခြားစီ၊ တပါးစီသာ ဖြစ်ကုန်၏'

အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၁၀။ နိဗ္ဗာန်၏ သရုပ်သဏ္ဌာန်ကို ပြနိုင်သလော

'အရှင်နာဂသေနဘုရား၊ နိဗ္ဗာန်၏ အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကို ဥပမာအားဖြင့် လည်းကောင်း၊ အကြောင်းအားဖြင့် လည်းကောင်း၊ အသင့်ယုတ္တိအားဖြင့် လည်းကောင်း၊ နည်းအားဖြင့် လည်းကောင်း၊ ဆောင်ပြခြင်းငှာ စွမ်းနိုင်ပါမည်လော'

'မင်းမြတ်၊ နိဗ္ဗာန်သည် အတူမရှိပေ။ ထို့ကြောင့် နိဗ္ဗာန်၏အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကို မည်သို့သောနည်းနှင့်မျှ မဆောင်ပြနိုင်ပေ'

'အရှင်ဘုရား၊ နိဗ္ဗာန်သည် ထင်ရှားရှိနေပါလျက် အဆင်းသဏ္ဌာန် အရွယ်အစား၊ အတိုင်းအတာတို့ကို မဆောင်ပြနိုင်ဟူသောစကားကို တပည့်တော် လက်မခံနိုင်သေးပါ။ တပည့်တော် လက်ခံနိုင်လောက်အောင် အကြောင်းပြ၍ မိန့်ကြားတော်မူပါလော့'

'မင်းမြတ်၊ ဥပမာအားဖြင့် မဟာသမုဒ္ဒရာသည် ထင်ရှားရှိနေပါသလော'

'အရှင်ဘုရား၊ ထင်ရှားရှိပါပေ၏'

'မင်းမြတ်၊ မဟာသမုဒ္ဒရာ၌ ရေသည် မည်မျှလောက်ရှိပါသနည်း။ မဟာသမုဒ္ဒရာမှာ နေထိုင်ကြသော သတ္တဝါတို့သည် မည်မျှလောက် ရှိပါသနည်းဟု ဟစ်စုံတစ်ယောက်က သင်မင်းမြတ်အား မေးမြန်းပါလျှင် သင်မင်းမြတ်သည် မည်သို့တုံ့ပြန် ဖြေကြားမည်နည်း'

'အရှင်ဘုရား၊ တစ်စုံတစ်ယောက်သောသူက ဤသို့ မေးလာလျှင် အိုယောက်ျား သင်သည် မမေးထိုက်သည်ကို မေးဘိ၏။ မဟာသမုဒ္ဒရာရေကို ခြင်တွယ်ရန် မတတ်နိုင်၊ မဟာသမုဒ္ဒရာမှာ နေထိုင်ကြသော သတ္တဝါတို့ကို မရေတွက်နိုင်ဟူ၍သာ တုံ့ပြန်ဖြေကြားရာ၏'

'မင်းမြတ်၊ မဟာသမုဒ္ဒရာရေသည် ထင်ရှားရှိနေပါလျက် အဘယ့်ကြောင့် ဤသို့ တုံ့ပြန် ဖြေကြားရပါသနည်း။ မဟာသမုဒ္ဒရာရေသည် ဤမျှရှိ၏။ မဟာသမုဒ္ဒရာမှာ နေကြသော သတ္တဝါတို့သည် ဤမျှရှိကုန်၏ဟု ဖြေကြားအပ်သည် မဟုတ်ပါလော'

'အရှင်ဘုရား၊ တပည့်တော် မရေတွက်နိုင်ပါ။ ဤမေးခွန်းမှာ မေးထိုက်သော မေးခွန်း မဟုတ်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ထင်ရှားရှိနေသည်သာဖြစ်သော နိဗ္ဗာန်၏အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကို မည်သည့်နည်းနှင့်မျှ ဆောင်ပြ၍ မရနိုင်ပေ။ စိတ်ကိုအလေ့အလာ ပြုပြီး၍ အဘိညာဉ်တန်ခိုးနှင့် ပြည့်စုံသော ပုဂ္ဂိုလ်သည် မဟာသမုဒ္ဒရာရေကို ခြင်တွယ်မည်ဆိုသော် ခြင်တွယ်နိုင်ရာ၏။ မဟာသမုဒ္ဒရာမှာ နေထိုင်ကြသော သတ္တဝါတို့ကို ရေတွက်မည်ဆိုသော် ရေတွက်နိုင်ရာ၏၊ ထိုပုဂ္ဂိုလ်သည် နိဗ္ဗာန်၏အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကိုကား မည်သည့်နည်းနှင့်မျှ မဆောင်ပြနိုင်ပေရာ။

'မင်းမြတ်၊ အကြောင်းတစ်ပါးကိုလည်း နာကြားဦးလော့။ ဗြဟ္မာတို့တွင် နာမ်သာရှိ၍ ရုပ်မရှိသော အရူပဗြဟ္မာတို့ ရှိကြပါသလော'

'အရှင်ဘုရား၊ ရှိကြပေ၏'

မင်းမြတ်၊ ထိုအရူပ ဗြဟ္မာတို့၏ အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကို တစ်နည်းနည်းနှင့် ဆောင်ပြနိုင်မည်လော'

'အရှင်ဘုရား၊ မဆောင်ပြနိုင်ပါ'

'မင်းမြတ်၊ ဤအတူသာပင် ထင်ရှားရှိသည် သာလျှင် ဖြစ်သော နိဗ္ဗာန်၏ အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာကို မည်သည့်နည်းနှင့်မျှ မဆောင်ပြနိုင်ပေ'

'အရှင်ဘုရား၊ နိဗ္ဗာန်၏ အဆင်းသဏ္ဌာန်၊ အရွယ်အစား၊ အတိုင်းအတာတို့ကို ဆောင်မပြနိုင်လျှင် ရှိပါစေတော့။ နိဗ္ဗာန်၏ ဂုဏ်ကျေးဇူးကိုကား ဥပမာ ညွှန်ပြခြင်းငှာ စွမ်းနိုင်ပါမည်လော'

'မင်းမြတ်၊ နိဗ္ဗာန်၏ ဂုဏ်ကျေးဇူးကို အတိအကျ ဥပမာပြ၍ မရနိုင်သော်လည်း စိုးစဉ်းမျှ တူညီသောသဘောဖြင့် ဥပမာပြ၍ကား ရနိုင်ပါ၏'

'အရှင်ဘုရား၊ တစ်စိတ်တစ်ဒေသ ညွှန်ပြနိုင်သော ဥပမာဖြင့်ပင် တပည့်တော်၏နှလုံးစိတ်ဝမ်း ပူပန်ခြင်းကို အေးမြလှစွာသော လေပြည်လေညင်း တည်းဟူသော စကားစဉ်ဖြင့် ပယ်ဖျောက်တော်မူပါလော့'

'မင်းမြတ်၊ ပဒုမ္မာကြာ၏ ဂုဏ်တစ်ပါး၊ ရေ၏ ဂုဏ်နှစ်ပါး၊ ဆေး၏ ဂုဏ်သုံးပါး၊ မဟာသမုဒ္ဒရာ၏ ဂုဏ်လေးပါး၊ ဘောဇဉ်၏ ဂုဏ်ငါးပါး၊ ကောင်းကင်၏ ဂုဏ်ဆယ်ပါး၊ ပတ္တမြားရတနာ၏ ဂုဏ်သုံးပါး၊ စန္ဒကူးနီ၏ ဂုဏ်သုံးပါး၊ ထောပတ်ကြည်၏ ဂုဏ်သုံးပါး၊ တောင်ထွတ်၏ ဂုဏ်ငါးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏။

'အရှင်ဘုရား၊ ပဒုမ္မာကြာ၏ အဘယ်ဂုဏ်တစ်ပါးသည် နိဗ္ဗာန်နှင့်ဆီလျော်ပါသနည်း'

'မင်းမြတ်၊ ပဒုမ္မာကြာသည် ရေနှင့်မလိမ်းကျံဘိသကဲ့သို့ နိဗ္ဗာန်သည်လည်း အလုံးစုံသော ကိလေသာတို့နှင့် မလိမ်းကျံပေ။ ပဒုမ္မာကြာ၏ဂုဏ်တစ်ပါးသည် နိဗ္ဗာန်နှင့်ဆီလျော်ပေ၏'

'အရှင်ဘုရား၊ ရေ၏ အဘယ်ဂုဏ်နှစ်ပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ ရေသည်အေးမြသကဲ့သို့၊ ပူလောင်ခြင်းဟူသမျှကို ငြိမ်အေးစေဘိသကဲ့သို့

နိဗ္ဗာန်သည် အေးမြ၏။ ကိလေသာဟူ အပူခပ်သိမ်းတို့ကို ငြိမ်းအေးစေ၏။ နောက်တစ်မျိုးကား ရေသည် လူနှင့်တိရစ္ဆာန်တို့၏ မွတ်သိပ်ခြင်းကို ပယ်ဖျောက်နိုင်သကဲ့သို့ နိဗ္ဗာန်သည် ကာမတဏှာ၊ ဘဝတဏှာ၊ ဝိဘဝတဏှာတည်းဟူသော မွတ်သိပ်ခြင်းတို့ကို ပယ်ဖျောက်နိုင်၏။ ရေ၏ ဤဂုဏ်နှစ်ပါးတို့သည် နိဗ္ဗာန်နှင့်ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ ဆေး၏ အဘယ်ဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ ဆေးသည် အဆိပ်သင့်သော သတ္တဝါတို့၏ ကိုးကွယ်ရာ ဖြစ်သကဲ့သို့ နိဗ္ဗာန်သည် ကိလေသာ အဆိပ်သင့်သော သတ္တဝါတို့၏ ကိုးကွယ်ရာဖြစ်၏။ နောက်တစ်မျိုးကား-- ဆေးသည် အနာရောဂါတို့၏အဆုံးကို ပြုတတ်သကဲ့သို့ နိဗ္ဗာန်သည် အလုံးစုံသောဝဋ်ဆင်းရဲတို့၏ အဆုံးကို ပြုတတ်၏။ နောက်တစ်မျိုးကား-ဆေးသည် အသက်မသေအောင် စောင့်ရှောက်တတ်သကဲ့သို့ နိဗ္ဗာန်သည် သေခြင်း ကင်းအောင် စောင့်ရှောက်တတ်၏။ ဆေး၏ ဤဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏။

'အရှင်ဘုရား၊ မဟာသမုဒ္ဒရာ၏ အဘယ်ဂုဏ်လေးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ မဟာသမုဒ္ဒရာသည် အလုံးစုံသော အသေကောင်ပုပ်တို့မှ ကင်းဆိတ်သကဲ့သို့ နိဗ္ဗာန်သည် အလုံးစုံသော ကိလေသာအပုပ်တို့မှ ကင်းဆိတ်၏။ နောက်တစ်မျိုးကား သမုဒ္ဒရာသည် ကြီးကျယ်၏။ တစ်ဖက်ကမ်းဟူ၍ မရှိ။ အလုံးစုံသော မြစ်တို့ စီးဝင်သော်ပြည့်သွားပြီ ဟူ၍လည်း မရှိနိုင်သကဲ့သို့ နိဗ္ဗာန်သည် ကြီးကျယ်၏။ နိဗ္ဗာန်၏ နောက်ဆုံးအပိုင်းခြား ဟူ၍ မရှိ။ သတ္တဝါ အနန္တ တို့ နိဗ္ဗာန်ဝင်လာကြသော်လည်း ပြည့်သွားပြီ။ နောက်ပုဂ္ဂိုလ်များအတွက် ဝင်ခွင့်မရတော့ပြီဟု မရှိပေ။ နောက်တစ်မျိုးကား-မဟာသမုဒ္ဒရာသည် ကြီးမားသော သတ္တဝါတို့၏ နေရာဖြစ်သကဲ့သို့ နိဗ္ဗာန်သည်လည်း အာသဝကုန်ပြီးသော ဘုရားရဟန္တာတို့၏ နေရာဖြစ်၏။ နောက်တစ်မျိုးကား မဟာသမုဒ္ဒရာသည် မနိုင်းရှည့်အပ်ကုန်သော၊ အထူးထူး အပြားပြား ပြန့်ပြောစွာကုန်သော လှိုင်းတံပိုးတို့ဖြင့် ရောပြွမ်းနေသကဲ့သို့ နိဗ္ဗာန်သည် မနှိုင်းရှည့်အပ်ကုန်သော၊ အထူးထူးအပြားပြား ပြန့်ပြောလှစွာကုန်သော ဝိဇ္ဇာ၊ ဝိမုတ္တိပန်းတို့ဖြင့် ရောပြွမ်း၏။ မဟာသမုဒ္ဒရာ၏ ဤဂုဏ်လေးပါးတို့သည် နိဗ္ဗာန်နှင့်ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ ဘောဇဉ်၏ အဘယ်ဂုဏ်ငါးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ ဘောဇဉ်သည် သတ္တဝါတို့အား အသက်ကိုပေးသကဲ့သို့ နိဗ္ဗာန်သည် မိမိအား မျက်မှောက်ပြုသူ အားလုံးအား သေဆုံးခြင်းမှ ကယ်တင်တော်မူ၏။ နောက်တစ်မျိုးကား- ဘောဇဉ်သည် အလုံးစုံသော သတ္တဝါတို့၏ အင်အားကို တိုးပွားစေသကဲ့သို့ နိဗ္ဗာန်သည် မိမိအား မျက်မှောက်ပြုသောသူ အားလုံးတို့၏ တန်ခိုးအင်အားကို တိုးပွားစေ၏။ နောက်တစ်မျိုးကား-

ဘောဇဉ်သည် အလုံးစုံသော သတ္တဝါတို့အား အဆင်းလှစေသကဲ့သို့ နိဗ္ဗာန်သည် မိမိကို မျက်မှောက်ပြုသူ အားလုံးတို့အား ဂုဏ်သတင်းပျံ့မွှေးခြင်းတို့ကို ဖြစ်စေ၏၊ နောက်တစ်မျိုးကား– ဘောဇဉ်သည် အလုံးစုံသောသတ္တဝါတို့၏ ပူပန်ခြင်းကို ငြိမ်းစေသကဲ့သို့ နိဗ္ဗာန်သည် မိမိကို မျက်မှောက်ပြုသူ အားလုံးတို့၏ ကိလေသာဟူသော ပူပန်မှုကို ငြိမ်းအေးစေ၏။ နောက်တစ်မျိုးကား ဘောဇဉ်သည် အလုံးစုံသော သတ္တဝါတို့၏ ဆာလောင်မွတ်သိပ်ခြင်းကို ပယ်ဖျောက်သကဲ့သို့ နိဗ္ဗာန်သည် မိမိကို မျက်မှောက်ပြုသူ အားလုံးတို့၏ ဆင်းရဲခြင်းဟူသော ဆာလောင်ခြင်းကို ပယ်ဖျက်ပေး၏။ ဘောဇဉ်၏ ဤဂုဏ်ငါးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ ကောင်းကင်၏ အဘယ်ဂုဏ်ဆယ်ပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန် သနည်း'

'မင်းမြတ်၊ ကောင်းကင်သည် ပဋိသန္ဓေ မနေ၊ မအို၊ မနာ၊ မသေ၊ မဖြစ်ပေါ်၊ ညှဉ်းဆဲပုတ်ခတ်၍ မရနိုင်။ ခိုးသူတို့ မဆောင်ယူနိုင်။ တစ်စုံတစ်ခုကိုမျှ မမှီခို။ အပိတ်အပင် အတားအဆီးမရှိ။ အဆုံးအပိုင်းအခြား မရှိသကဲ့သို့ နိဗ္ဗာန်သည် ပဋိသန္ဓေမနေ။ မအို၊ မနာ၊ မသေ၊ မဖြစ်ပေါ်။ ညှဉ်းဆဲပုတ်ခတ်၍ မရနိုင်။ တစ်စုံတစ်ခုကိုမျှ မမှီခို။ အပိတ်အပင် အတား အဆီးမရှိ။ အဆုံးအပိုင်းအခြား မရှိ။ ကောင်းကင်၏ ဤဂုဏ်ဆယ်ပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ ပတ္တမြားရတနာ၏ အဘယ်ဂုဏ်သုံးပါး တို့သည် နိဗ္ဗာန်နှင့်ဆီလျော် ပါကုန်သနည်း'

'မင်းမြတ်၊ ပတ္တမြားရတနာသည် အလိုရှိရာ ပေးနိုင်သကဲ့သို့ နိဗ္ဗာန်သည် အလိုရှိရာကို ပေးနိုင်၏။ နောက်တစ်မျိုးကား ပတ္တမြားရတနာသည် မိမိကိုရှုမြင်သူတို့အား ကြည်လင်ရွှင်လန်း စေသကဲ့သို့ နိဗ္ဗာန်သည် မိမိကို မျက်မှောက်ပြုသူတို့အား ကြည်လင်ရွှင်လန်းစေ၏။ နောက်တစ်မျိုးကား ပတ္တမြားရတနာသည် ထွန်းလင်း တောက်ပဘိသကဲ့သို့ နိဗ္ဗာန်သည် ငြိမ်းချမ်းသော သဘောလက္ခဏာအားဖြင့် ထွန်းလင်းတောက်ပ၏။ ပတ္တမြားရတနာ၏ ဤ ဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့်ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ စန္ဒကူးနီ၏ အဘယ်ဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ စန္ဒကူးနီသည် ရနိုင်ခဲသကဲ့သို့ နိဗ္ဗာန်သည် ရနိုင်ခဲ၏။ နောက်တစ်မျိုးသည်ကား စန္ဒကူးနီသည် အတုမရှိ၊ ကောင်းသောအနံ့ရှိသကဲ့သို့ နိဗ္ဗာန်သည် အတုမရှိ။ ကောင်းသော သဘောလက္ခဏာ ရှိ၏။ နောက်တစ်မျိုးကား စန္ဒကူးနီကို လူဘော်လူကောင်းတို့ ချီးကျူးရသကဲ့သို့ နိဗ္ဗာန်ကို အရိယာ သူတော်ကောင်းတို့ ချီးကျူးကြရကုန်၏။ စန္ဒကူး၏ ဤဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ ထောပတ်ကြည်၏ အဘယ်ဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်သနည်း'

'မင်းမြတ်၊ ထောပတ်ကြည်သည် အဆင်းနှင့် ပြည့်စုံသကဲ့သို့ နိဗ္ဗာန်သည် ဂုဏ်သတင်းကောင်းနှင့် ပြည့်စုံ၏။ နောက်တစ်မျိုးကား ထောပတ်ကြည်သည် အနံ့နှင့် ပြည့်စုံသကဲ့သို့ နိဗ္ဗာန်သည် သီလနှင့် ပြည့်စုံ၏။ နောက်တစ်မျိုးကား ထောပတ်ကြည်သည် အရသာနှင့် ပြည့်စုံသကဲ့သို့ နိဗ္ဗာန်သည် ဝိမုတ္တိအရသာနှင့် ပြည့်စုံ၏။ ထောပတ်ကြည်၏ ဤဂုဏ်သုံးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ကုန်၏'

'အရှင်ဘုရား၊ တောင်ထွတ်၏ အဘယ်ဂုဏ်ငါးပါးတို့သည် နိဗ္ဗာန်နှင့်ဆီလျော်ပါကုန်သနည်း'

'မင်းမြတ်၊ တောင်ထွတ်သည် အလွန်မြင့်မားသကဲ့သို့ နိဗ္ဗာန်သည် အလွန်မြင့်မြတ်၏။ နောက်တစ်မျိုးကား– တောင်ထွတ်သည် မတုန်လှုပ်သကဲ့သို့ နိဗ္ဗာန်သည်မတုန်လှုပ်။ နောက်တစ်မျိုးကား– တောင်ထွတ်သည် တက်ရောက်ရန် ခဲယဉ်းသကဲ့သို့ နိဗ္ဗာန်သည် ကိလေသာတို့ တက်ရောက်ရန် ခဲယဉ်း၏။ နောက်တစ်မျိုးကား– တောင်ထွတ်သည် အလုံးစုံသော မျိုးစေ့တို့ ပေါက်ရောက်ရှင်သန်ရာ မဟုတ်သကဲ့သို့ နိဗ္ဗာန်သည် အလုံးစုံသော ကိလေသာတို့ ပေါက်ရောက်ရှင်သန်ရာမဟုတ်ပေ။ နောက်တစ်မျိုးကား– တောင်ထွတ်သည် ချစ်ခြင်း၊ မုန်ခြင်း ကင်းလွတ်သကဲ့သို့ နိဗ္ဗာန်သည် ချစ်ခြင်း၊ မုန်းခြင်းကင်း၏။ တောင်ထွတ်၏ ဤဂုဏ်ငါးပါးတို့သည် နိဗ္ဗာန်နှင့် ဆီလျော်ပေကုန်၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

## ၁၁။ နိဗ္ဗာန်ကို အဘယ်သို့ မျက်မှောက်ပြုသနည်း

'အရှင်နာဂသေနဘုရား၊ နိဗ္ဗာန်သည် အတိတ်လည်း မဟုတ်။ အနာဂတ်လည်း မဟုတ်။ ပစ္စုပ္ပန်လည်းမဟုတ်။ ခဏသုံးပါးသို့ ရောက်နေဆဲလည်းမဟုတ်။ ခဏသုံးပါးသို့ ရောက်ဆဲမဟုတ်သော တရားလည်းမဟုတ်။ မချွတ်ကေန် ဖြစ်လတ္တံ့တရားလည်း မဟုတ်ဟူ၍ အရှင်ဘုရားတို့ မိန့်ဆိုကြပါကုန်၏။ ဤသာသနာတော်၌ တစ်စုံတစ်ယောက်သောသူသည် ကောင်းမွန်စွာကျင့်သည်ဖြစ်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုရာ၏။ ထိုသူတို့သည် ဖြစ်ပြီးနိဗ္ဗာန်ကို မျက်မှောက်ပြုပါသလော။ ဖြစ်ဆဲနိဗ္ဗာန်ကို မျက်မှောက်ပြုပါသလော'

'မင်းမြတ်၊ နိဗ္ဗာန် မျက်မှောက်ပြုသောသူသည် ဖြစ်ပြီးနိဗ္ဗာန်ကိုလည်း မျက်မှောက်မပြုပေ။ ဖြစ်ဆဲနိဗ္ဗာန်ကိုလည်း မျက်မှောက်မပြုပေ။ စင်စစ်အားဖြင့် ကောင်းစွာကျင့်သုံးသောပုဂ္ဂိုလ်၏ မျက်မှောက်ပြုရာ နိဗ္ဗာန်ကား ထင်ရှားရှိသည်သာတည်း'

'အရှင်ဘုရား၊ ဤပြဿနာကို ဖုံးကွယ်လျှို့ဝှက်၍ မဖြေကြားပါလင့်။ စိတ်ဆန္ဒရှိသည့်အတိုင်း ကြိုးစား၍ ပွင့်လင်းစွာ ဖြေကြားတော်မူပါလော့။ အရှင်ဘုရား၊ သင်ကြားခဲ့ဖူးလေသမျှသော

နည်းနိသယများကို ဤပြဿနာမှာ စုပြုံလောင်းထည့်၍ ဖြေကြားပါလော့။ ဤနေရာ၌ လူအပေါင်းသည် တွေဝေကြပါကုန်၏။ ယုံမှားသံသယ ရှိကြပါကုန်၏။ စိတ်နှလုံးအတွင်းသို့ စူးဝင်နေသော အပြစ်တည်းဟူသော ငြောင့်ကို ပယ်နုတ်တော်မူပါလော့'

'မင်းမြတ်၊ အေးငြိမ်းသော၊ ချမ်းသာအတိဖြစ်သော၊ မွန်မြတ်သော၊ တောင့်တအပ်သော၊ ဤနိဗ္ဗာန်ဓာတ်သည် ထင်ရှားရှိသည် သာတည်း။ ဥပမာအားဖြင့် တပည့်သည် ဆရာ့ထံမှ သင်ကြားထားသည့် အတိုင်း ကြည့်လိုမြင်လိုသော အရာဝတ္ထုကို မျက်ဝါးထင်ထင် ရှုမြင်၏။ ဤအတူသာပင် ကောင်းမွန်စွာ ကျင့်သုံးသောသူသည် ဘုရားရှင် ဆုံးမတော်မူသည့်အတိုင်း သင်္ခါရတရား တို့ကို သုံးသပ်ဆင်ခြင်ရာမှ ရရှိသောပညာဖြင့် ထိုနိဗ္ဗာန်ဓာတ်ကို မျက်မှောက်ပြု၏'

'အရှင်ဘုရား၊ ထိုနိဗ္ဗာန်ကို အဘယ်သို့ ရှုမြင်အပ်ပါသနည်း'

'မင်းမြတ်၊ ထိုနိဗ္ဗာန်ကို အပြစ်မရှိသောအားဖြင့်၊ ဥပဒ်ကင်းသောအားဖြင့်၊ ဘေးမရှိသော အားဖြင့်၊ ရန်ကင်းသောအားဖြင့်၊ အေးချမ်းသောအားဖြင့်၊ ချမ်းသာသောအားဖြင့်၊ သာယာဖွယ် အားဖြင့်၊ မွန်မြတ်သောအားဖြင့်၊ စင်ကြယ်သောအားဖြင့်၊ အေးမြသောအားဖြင့် ရှုမြင်ပေ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် မီးလောင်ခံနေရသော ယောကျ်ားသည် မီးမှ ကင်းလွတ်အောင် ကြိုးစားပမ်းစား ရုန်းထွက်၍ မီးလွတ်ရာသို့ ရောက်လတ်သော် ထိုနေရာ၌ လွန်ကဲသော ချမ်းသာခြင်းကို ခံစားရ၏။ ဤအတူသာပင် ကောင်းမွန်စွာ ကျင့်သုံးသောသူသည် သင့်လျော်သော နှလုံးသွင်းဖြင့် လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံတည်းဟူသော ဘုံသုံးပါးမှ လွတ်မြောက်ရာ နိဗ္ဗာန်ကို မျက်မှောက်ပြု၏။

'မင်းမြတ်၊ ဥပမာ နောက်တစ်မျိုးအားဖြင့် အသေကောင်ပုပ်များ၊ အညစ်အကြေးများ ရှုပ်ယှက်ခတ်နေသော နေရာသို့ ဝင်ရောက်မိသောယောကျ်ားသည် ထိုနေရာမှ လွတ်မြောက်ရန် ကြိုးစားပမ်းစား ရုန်းထွက်၍ လွတ်မြောက်ရာသို့ ရောက်လတ်သော် ထိုနေရာ၌ လွန်ကဲသော ချမ်းသာကို ခံစားရ၏။ ဤအတူသာပင် ကောင်းစွာကျင့်သုံးသောသူသည် သင့်လျော်သော နှလုံးသွင်းခြင်းဖြင့် ကာမဂုဏ်အကောင်ပုပ်တို့ လွတ်ကင်းရာနိဗ္ဗာန်ကို မျက်မှောက်ပြု၏။

မင်းမြတ်၊ ဥပမာနောက်တစ်မျိုးအားဖြင့် ကြောက်မက်ဖွယ်ရာ အရပ်သို့ ရောက်ရှိ၍ ကြောက်ရွံ့ထိတ်လန့်နေရသော ယောကျ်ားသည် ထိုအရပ်မှ လွတ်မြောက်ရန် ကြိုးစားပမ်းစား ရုန်းထွက်၍ ဘေးလွတ်ရာသို့ ရောက်လတ်သော် ထိုနေရာ၌ပင် လွန်ကဲသော ချမ်းသာကို ခံစားရ၏။ ဤအတူသာပင် ကောင်းမွန်စွာ ကျင့်သုံးသောသူသည် သင့်လျော်သော နှလုံးသွင်းဖြင့် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းတို့မှလွတ်ကင်းရာနိဗ္ဗာန်ကို မျက်မှောက်ပြု၏။

မင်းမြတ်၊ ဥပမာ နောက်တစ်မျိုးအားဖြင့် ဗွက်ထဲသို့ကျရောက်သော ယောကျ်ားသည် ထိုဗွက်မှ လွတ်မြောက်ရန် ကြိုးစားပမ်းစား ရုန်းထွက်၍ လွတ်ရာသို့ရောက်လတ်သော် ထိုနေရာ၌

လွန်ကဲသော ချမ်းသာကို ခံစားရ၏။ ဤအတူသာပင် ကောင်းမွန်စွာ ကျင့်သုံးသောသူသည် သင့်လျော်သော နှလုံးသွင်းဖြင့် လာဘ်ပူဇော်သကာ ကျော်စောခြင်းတည်း ဟူသော ညွှန်ပုပ်တို့ လွတ်ကင်းရာ နိဗ္ဗာန်ကို မျက်မှောက်ပြု၏။

'အရှင်ဘုရား၊ ကောင်းမွန်စွာ ကျင့်သုံးသော သူသည် နိဗ္ဗာန်ကို အဘယ်သို့ မျက်မှောက်ပြုပါသနည်း'

'မင်းမြတ်၊ ကောင်းမွန်စွာ ကျင့်သုံးသောသူသည် သင်္ခါရတရားတို့၏ ဖြစ်ခြင်း၊ ပျက်ခြင်းကို ရှုမြင်သုံးသပ်၏။ ဖြစ်ခြင်း၊ ပျက်ခြင်းကို သုံးသပ်ဆင်ခြင်လတ်သော် သင်္ခါရတရားတို့၏ ဖြစ်ပေါ်ခြင်း၊ အိုမင်းခြင်း၊ ဖျားနာခြင်း၊ တို့ကို ရှုမြင်၏။ ဥပမာအားဖြင့် ယောကျ်ား တစ်ယောက်သည် တစ်နေ့ကုန် အလျှံပြောင်ပြောင် တောက်လောင်ကုန်သော သံတွေခဲ၌ အစ၊ အလယ်၊ အဆုံးနေရာ အားလုံးတို့၌ ကိုင်တွယ်ယူငင်စရာ မရနိုင်ပေ။ ဤအတူသာပင် သင်္ခါရတရားတို့၏ အစ၊ အလယ်၊ အဆုံး နေရာအားလုံးတို့၌ ကိုင်တွယ်ယူငင်စရာကို ချမ်းသာဖွယ်၊ သာယာဖွယ်ကို လုံးဝမတွေ့မြင်ရပေ။

'မင်းမြတ်၊ ဥပမာအားဖြင့် အလျှံပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီးထဲသို့ ဝင်မိသောယောကျ်ားသည် ထိုမီးပုံကြီး၌ အားကိုးအားထားပြုစရာကို ရှာမရသဖြင့် ငြီးငွေ့ရာ၏။ ဤအတူသာပင် သင်္ခါရတရားတို့၌ ဆွဲကိုင်ယူငင်စရာ၊ ချမ်းသာဖွယ်၊ သာယာဖွယ်ကို မတွေ့ရသဖြင့် သင်္ခါရတရားတို့၌ မမွေ့လျော်တော့ပေ။ သင်္ခါရ တရားတို့၌ အားကိုးအားထားပြုစရာကို ရှာမရသဖြင့် ဘုံသုံးပါးတို့၌ငြီးငွေ့၏။ သင်္ခါရ တရားတို့၏ ဖြစ်ပျက်ပုံကို ဘေးဟု ရှုမြင်သော သူသည် ဤသို့ တွေးတောမိ၏။ ဤသင်္ခါရတရားတို့၏ ဖြစ်ပျက်နေခြင်းသည် ပူလောင်လှသည်သာတည်း။ ဆင်းရဲလှသည်သာတည်း။ တစ်စုံတစ်ယောက်သောသူသည် ဤသင်္ခါရ တရားတို့၏ ဖြစ်ခြင်း ပျက်ခြင်း မရှိရာ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ရာ၏။ သင်္ခါရ အားလုံး တို့၏ ချုပ်ငြိမ်းရာ၊ ခန္ဓာငါးပါးတို့ကို လွတ်လွတ်ကျွတ်ကျွတ်ကြီး စွန့်လွှတ်ရာ၊ တဏှာ ကုန်ခန်းရာဖြစ်သော ထိုနိဗ္ဗာန်သည် မွန်မြတ်လှပေ၏ဟုတွေးတောကာ နိဗ္ဗာန်သို့ကိုင်းညွတ်၏။ ဤသို့အားဖြင့် ထိုသူ၏စိတ်သည် သင်္ခါရတို့၏ဖြစ်ပျက်ခြင်းကင်းရာ နိဗ္ဗာန်သို့ ပြေးဝင်၏။ ကြည်လင်ရွှင်ပျ၏။ ဥပမာအားဖြင့် လမ်းမှားပေါ်မှာ လျှောက်မိနေရာမှ လမ်းမှားကို စွန့်ခွာ၍ လမ်းမှန်ပေါ် ရောက်လာသော ယောကျ်ားသည် ငါသည် ဤတောအုပ်မှ ထွက်မြောက်နိုင်သော လမ်းမှန်ကို ရပေပြီ ဟူ၍ နှစ်သက်ဝမ်းမြောက်၏။ ဤအတူသာပင် နိဗ္ဗာန်ကို မျက်မှောက် ပြုမိသောသူသည် ငါသည် သင်္ခါရတို့၏ ထွက်မြောက်ရာကို ရပေပြီဟူ၍ နှစ်သက်ဝမ်းမြောက်ပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

[ကျမ်းရင်း၌ သင်္ခါရတရားတို့ ဖြစ်ခြင်းကို သုံးသပ်ကြောင်းသာ ပါရှိ၏။ ဖြစ်ခြင်း၏နောက်ကွယ် တွင် ပျက်ခြင်းက ထက်ကြပ်မကွာပါလာသောကြောင့် လည်းကောင်း၊ သင်္ခါရတရားတို့၏ အိုမင်းခြင်း၊

ဖျားနာခြင်း၊ သေဆုံးခြင်းတို့ကို ကျမ်းရင်းမှာပင် ပြဆိုထားသောကြောင့် လည်းကောင်း ပျက်ခြင်းကို ရှုမြင်ပုံကိုပါ ဖြည့်စွက်လိုက်ရပေ၏။]

## ၁၂။ နိဗ္ဗာန်သည် အဘယ်အရပ်မှာ တည်နေသနည်း

'အရှင်နာဂသေနဘုရား၊ အရှေ့၊ တောင်၊ အနောက်၊ မြောက်၊ အထက်၊ အောက် ဖီလာအရပ်တို့၌ နိဗ္ဗာန်၏အစွဲအမြဲ တည်နေရာအရပ်ဟူ၍ ရှိပါသလော'

'မင်းမြတ်၊ နိဗ္ဗာန်၏ အစွဲအမြဲ တည်နေရာအရပ် ဟူ၍ မရှိပေ'

'အရှင်ဘုရား၊ စပါး၏ ဖြစ်ထွန်းရာ လယ်မြေရှိ၏။ အနံ့ဖြစ်ထွန်းရာ ပန်းပွင့်ရှိ၏။ ပန်းပွင့်၏ဖြစ်ထွန်းရာပန်းရုံရှိ၏။ သစ်သီး၏ဖြစ်ထွန်းရာ သစ်ပင်ရှိ၏။ ရတနာတို့၏ဖြစ်ထွန်းရာ အရပ်ဌာနရှိ၏။ တစ်စုံတစ်ယောက်သောသူသည် မိမိအလိုရှိသော အရာဝတ္ထုကို ထိုအရာဝတ္ထု ဖြစ်ထွန်းတည်နေရာသို့ သွားရောက်၍ ဆောင်ယူ၏။ ဤအတူသာပင် အကယ်၍ နိဗ္ဗာန်သည် ဧကန်ထင်ရှား ရှိငြားအံ့။ နိဗ္ဗာန်၏တည်ရာ အရပ်သည်လည်း ရှိရမည်သာ။ နိဗ္ဗာန်ကို အလိုရှိသောသူသည် နိဗ္ဗာန်ရှိရာအရပ်သို့ သွားရောက်၍ နိဗ္ဗာန်ချမ်းသာကို ခံစားရ၏။ ယခုသော်ကား နိဗ္ဗာန်၏ တည်ရာအရပ်သည်မရှိ။ တည်နေရာအရပ်မရှိသောကြောင့် နိဗ္ဗာန်လည်း မရှိနိုင်ပေ။ နိဗ္ဗာန်ကို မျက်မှောက်ပြုသည်ဆိုသော သူတို့သည်လည်း မှားယွင်းကုန်ရာ၏'

'မင်းမြတ်၊ ဥပမာအားဖြင့် မီး၏အမြဲအစွဲတည်နေရာအရပ်သည် မရှိ။ ထင်းနှစ်ချောင်းကို ပွတ်တိုက်သောအခါ မီးကိုရ၏။ ဥပမာနောက်တစ်မျိုးအားဖြင့် စကြာရတနာ၊ ဆင်ရတနာ၊ မြင်းရတနာ၊ ပတ္တမြားရတနာ၊ မိန်းမရတနာ၊ သူကြွယ်ရတနာ၊ သားကြီးသြရသ ရတနာဟူသော ရတနာ ခုနစ်ပါးတို့၏ အမြဲအစွဲတည်နေရာဟူ၍ မရှိပေ။ စကြာမင်း၏ အလောင်းလျာသည် စကြာမင်း၏ ကျင့်ဝတ်တို့ကို ကောင်းစွာကျင့်သုံးသဖြင့် ထိုရတနာခုနစ်ပါးတို့ ဆိုက်ရောက်လာကြကုန်၏။ ဤအတူသာပင် နိဗ္ဗာန်၏အစွဲအမြဲတည်နေရာ အရပ်ကားမရှိပေ။ ကောင်းမွန်စွာ ကျင့်သုံးသော သူသည် သင့်လျော်သောနလုံးသွင်းဖြင့် နိဗ္ဗာန်ကို မျက်မှောက်ပြုပေ၏'

'အရှင်ဘုရား၊ နိဗ္ဗာန်၏ အစွဲအမြဲတည်နေရာအရပ်သည် မရှိလျှင်နေပါစေတော့။ နိဗ္ဗာန်ကို မျက်မှောက်ပြုသောသူ၏ ရပ်တည်ရာအရပ်ဟူ၍ မရှိပါသလော'

'မင်းမြတ်၊ ရှိပေ၏။ သီလသည် နိဗ္ဗာန်ကို မျက်မှောက်ပြုသောသူ၏တည်ရာအရပ်ပေတည်း။ ဥပမာအားဖြင့် အမြင်မျက်စိ ကောင်းစွာရှိသော သူတစ်ယောက်သည် သက္ကတိုင်း၊ ယွန်းတိုင်းမှာဖြစ်စေ၊ စိန့်တိုင်း၊ ဝိလာတတိုင်းမှာဖြစ်စေ၊ အလသန္ဒအရပ်မှာ ဖြစ်စေ၊ နိရုမ္ဗအရပ်မှာ ဖြစ်စေ၊ ကာသိတိုင်း ကောသလတိုင်းမှာ ဖြစ်စေ၊ ကသ္မီရတိုင်းမှာ ဖြစ်စေ၊ ဂန္ဓာရတိုင်းမှာဖြစ်စေ၊ တောင်ထိပ်မှာဖြစ်စေ၊ ဗြဟ္မာ့ပြည်မှာ ဖြစ်စေ တစ်စုံတစ်ခုသောအရပ်၌ တည်လျက် ကောင်းကင်ကိုမြင်နိုင်၏။ ဥပမာ

နောက်တစ်မျိုးအားဖြင့် ထိုအရပ်တို့တွင် တစ်စုံတစ်ခုသောအရပ်၌ ရပ်တည်နေသူတိုင်းအတွက် အရှေ့အရပ်သည် ရှိနေသည်သာ။ ဤအတူသာပင် ကောင်းမွန်စွာ ကျင့်သုံးသောသူသည် သီလမှာရပ်တည်လျက် ကောင်းစွာ နှလုံးသွင်းသဖြင့် ထိုအရပ်တို့တွင် တစ်စုံတစ်ခုသော အရပ်မှာ ရပ်တည်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ပေရာ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏'

# အနုမာနဝဂ်

## ၁။ ဘုရားရှင် ရှိတော်မူပုံကို မည်သို့မှန်းဆ၍ သိနိုင်သနည်း

'အရှင်နာဂသေနဘုရား၊ အရှင်ဘုရားသည် ဘုရားရှင်ကို ဖူးမြင်ဖူးပါသလော'

'မင်းမြတ်၊ မဖူးမြင်ဖူးပေ'

'အရှင်ဘုရား၊ အရှင်ဘုရား မဖူးမြင်ဖူးပါလျှင် အရှင်ဘုရား၏ ဆရာတို့ကော ဘုရားရှင်ကို ဖူးမြင်ဖူးကြပါသလော'

'မင်းမြတ်၊ ငါ၏ဆရာသမားတို့လည်း ဘုရားရှင်ကို မဖူးမြင်ဖူးပေ'

'အရှင်ဘုရား၊ ထိုသို့ဖြစ်ပါလျှင် ဘုရားရှင်သည် မရှိခဲ့ဟူ၍သာ ဆိုသင့်ပေ၏'

'မင်းမြတ်၊ သင်မင်းမြတ်တို့၏ အမျိုးအနွယ်၌ ရှေးဦးစွာသောမင်းတို့သည် ရှိခဲ့ပါသလော'

'အရှင်ဘုရား၊ ရှိခဲ့ပါကုန်၏'

'မင်းမြတ်၊ ထိုရှေးမင်းတို့ကို သင်မင်းမြတ် ဖူးမြင်ဖူးပါသလာ'

'အရှင်ဘုရား၊ မဖူးမြင်ဖူးပါ'

'သင်မင်းမြတ်ကို ဆုံးမ သွန်သင်ခဲ့ကြသော ပုရောဟိတ်၊ စစ်သူကြီးနှင့် တရားသူကြီးတို့ကော ဖူးမြင်ဖူးကြပါသလော'

'အရှင်ဘုရား၊ ပုရောဟိတ်၊ စစ်သူကြီးနှင့် တရားသူကြီးတို့ကိုလည်း မဖူးမြင်ဖူးကြပါ'

'မင်းမြတ်၊ ထိုသို့ဖြစ်လျှင် ရှေးဦးဆုံးမင်းတို့သည် မရှိကုန်ဟူ၍သာ ဆိုသင့်ပေ၏'

'အရှင်ဘုရား၊ ရှေးဦးဆုံးမင်းတို့ကို မဖူးမြင်ဖူးသော်လည်း ထိုရှေးဦးဆုံးမင်းတို့၏ အသုံးအဆောင်တို့ကား ထင်ရှားရှိနေကြပါကုန်၏။ ထိုရှေးဦးဆုံးမင်းတို့၏ ထီးဖြူတော်၊ မကိုဋ် သင်းကျစ်၊ ခြေနင်း၊ စာမရီသားမြီးယပ်၊ သန်လျက်၊ သလွန်ညောင်စောင်းတို့ကို တွေ့မြင်နိုင်ကြပါကုန်၏။ ထိုအသုံးအဆောင်တို့ကြောင့် ရှေးဦးဆုံးမင်းတို့ ရှိခဲ့ကြကုန်၏ဟု သိနိုင်ကြပါ၏'

မင်းမြတ်၊ ဤအတူသာပင် ပူဇော်အထူးကို ခံတော်မူထိုက်သော သစ္စာလေးတန် တရားမှန်ကို ကိုယ်တော်တိုင် ထိုးထွင်း၍ သိမြင်တော်မူသော ဘုရားရှင်ကို မဖူးမြင်ရသော်လည်း

ထိုဘုရားရှင်သုံးဆောင်တော်မူခဲ့သော တရားတို့ကား ထင်ရှား ရှိနေ ကြပါကုန်၏။ ထိုဘုရားရှင်၏ သတိပဋ္ဌာန်လေးပါး၊ သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဖိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ အရိယမဂ္ဂင်ရှစ်ပါး တည်းဟူသော အသုံးအဆောင်တို့ ထင်ရှား ရှိနေကြပါကုန်၏။ ထိုအသုံးအဆောင်တို့ကြောင့် နတ်နှင့်တကွသော ဤလောကသည် ဘုရားရှင် ထင်ရှားရှိတော်မူခဲ့ကြောင်းကို သိနိုင်ပေ၏'

## ဓမ္မမြို့တော်ကြီး

'အရှင်ဘုရား၊ ဥပမာပြုတော်မူပါဦး'

'မင်းမြတ်၊ မြို့ကိုတည်ဆောက်နိုင်သော ပညာရှင်သည် ပထမဦးစွာ ဘေးဥပဒ်ကင်းစေ၍ မွေ့လျော် ပျော်ရွှင်ဖွယ်ဖြစ်သော မြေနေရာကို ရွေးချယ်သတ်မှတ်၏။ ထို့နောက် ထိုမြေနေရာ၌ မညီညွတ်သည်တို့ကို ညီညွတ်အောင် ပြုပြင်စေ၏။ သစ်ငုတ်၊ စူးငြောင့်တို့ကို တူးစေ၊ နုတ်စေ၏။ ထိုမြေကွက်ကို စနစ်တကျ တိုင်းတာ သတ်မှတ်၍ တင့်တယ်ထည်ဝါလှစွာသော ကျုံး၊ မြို့ရိုးတို့ဖြင့် ဝန်းရံ၏။ တံခါးတိုင်ကို မြဲမြံစွာစိုက်ထူ၏။ တံခါးရွက်ကို ခိုင်ခံ့စွာ ပြုလုပ်၏။လမ်းသွယ်၊ လမ်းဆုံ၊ မင်းလမ်းမနှင့် နန်းရင်ပြင်တို့ကို စနစ်တကျ တိုင်းတာသတ်မှတ်၍ ဖောက်လုပ်ထား၏။ အိမ်ဈေး၊ မြို့တွင်းဥယျာဉ်၊ တစ်ဖက်ဆည်ကန်၊ လေးထောင့်ကန်၊ ရေတွင်းနှင့် မင်း၏နန်းတော်၊ အိမ်တော်တို့ဖြင့် တန်ဆာဆင်ထား၏။ ထိုပညာရှင်သည် ထိုမြို့ကို ဘက်ပေါင်းစုံမှ စည်ပင်ပြန့်ပြောအောင် ပြုလုပ်စီမံပြီးလျှင် အခြားအရပ်သို့ ထွက်ခွာသွားလေရာ၏။

'ထို့နောက် ထိုမြို့သည် တစ်စတစ်စ စည်ပင်ပြန့်ပြောလာကာ ဈေးသည်မျိုးစုံ၊ အလုပ်သမား မျိုးစုံ၊ ပညာသည်မျိုးစုံ၊ အနုပညာသည်မျိုးစုံ၊ အနယ်နယ်အရပ်ရပ်မှ လူမျိုးပေါင်းစုံတို့ လာရောက် နေထိုင်ကြ၏။ ထိုမြို့သည် ထမင်းရိက္ခာ ရလွယ်ရာ၏။ ဘေးရန်ကင်းရှင်း၍ လုံခြုံစိတ်ချမှုရှိရာ၏။ ပစ္စည်းမျိုးစုံ ကုံလုံကြွယ်ဝရာ၏။ ထိုမြို့သို့ နေထိုင်ရန် ရောက်လာသူ အားလုံးတို့သည် အဘက် ဘက်မှပြည့်စုံလှသော၊ တင့်တယ်သပ်ရပ်လှသော၊ အပြစ်တင်စရာရှာ၍ မရသော ထိုမြို့တော်သစ်ကို အားပါးတရကြည့်ရှုကာ အချင်းတို့၊ ဤမြို့ကို တည်ဆောက်ခဲ့သော ပညာရှင်သည် ကျွမ်းကျင် လိမ္မာပေစွတကားဟု မျက်မြင်တွင် ဉာဏ်တွဲ၍ တအံ့တသြ ချီးကျူးပေရာ၏။

'မင်းမြတ်၊ ဤအတူသာပင် အတုမရှိ မြင့်မြတ်တော်မူသော ဘုရားရှင်သည် မာရ်နတ်မင်း၏စစ်သည်တော်အပေါင်းကို ကောင်းကောင်းကြီးအောင်မြင်တော်မူပြီးသည် ဖြစ်၍ ဓမ္မမြို့တော်ကြီးကို တည်ထောင်ဖန်ဆင်းတော်မူပေ၏။ ထိုမြို့တော်ကြီးတွင် သီလတည်းဟူသော တံတိုင်းရှိ၏။ ဟိရီတည်းဟူသော ကျုံးမြောင်းရှိ၏။ ဉာဏ်တော်တည်းဟူသော တံခါးမုခ်ရှိ၏။ ဝီရိယတည်းဟူသော ပြအိုးရှိ၏။ သဒ္ဓါတည်းဟူသော တုရင်တိုင်ရှိ၏။ အသိတည်းဟူသော တံခါးစောင့်ရှိ၏။ ပညာ

တည်း ဟူသော ပြာသာဒ်ရှိ၏။ သုတ္တန်တည်းဟူသော လမ်းသွယ်ရှိ၏။ အဘိဓမ္မာတည်းဟူသော လမ်းဆုံရှိ၏။ ဝိနည်းတည်းဟူသော မှတ်တိုင်ရှိ၏။ သတိပဋ္ဌာန်လေးပါးတည်း ဟူသော လမ်းမတော်ရှိ၏။ ထိုသတိပဋ္ဌာန်လမ်းမတော်ကြီး၌ ပန်းဈေးရုံ၊ နံ့သာဈေးရုံ၊ အသီးဈေးရုံ၊ အဆိပ်ဖြေဆေးဈေးရုံ၊ ဆေးဈေးရုံ၊ အမြိုက်ရေစင်ဈေးရုံ၊ ရတနာမျိုးစုံဈေးရုံ၊ ကုန်မျိုးစုံဈေးရုံ ဟူသော ဈေးရုံတော်ကြီး အသီးသီးတို့ကို ခင်းကျင်းရောင်းချလျက် ရှိပေ၏'

## ဓမ္မမြို့တော်ကြီး၏ ပန်းဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ပန်းဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ပူဇော်အထူးသို့ ခံယူတော်မူထိုက်သော၊ သစ္စာလေးတန် တရားမှန်ကို ကိုယ်တော်တိုင် သိမြင်တော်မူသော ဘုရားရှင်သည် ကမ္မဋ္ဌာန်း အာရုံတို့ကို နှစ်ဆယ့်ခုနစ်ပါးအားဖြင့် ဝေဖန်၍ ဟောကြားတော်မူခဲ့၏။ ထိုကမ္မဋ္ဌာန်းအာရုံ နှစ်ဆယ့်ခုနစ်မျိုးတို့ကား-အနိစ္စသညာ၊ ဒုက္ခသညာ၊ အနတ္တသညာ၊ အသုဘသညာ၊ အာဒီနဝသညာ၊ ပဟာနသညာ၊ ဝိရာဂသညာ၊ နိရောဓသညာ၊ သဗ္ဗလောကေ အနဘိရတိသညာ၊ သဗ္ဗသင်္ခါ ရေသုအနိစ္စသညာ၊ အနာပါနဿတိ ဥဒ္ဓုမာတကသညာ၊ ဝိနီလကသညာ၊ ဝိပုပ္ပကသညာ၊ ဝိစ္ဆိဒ္ဒကသညာ၊ ဝိက္ခာယိတကသညာ၊ ဟတဝိက္ခိတ္တကသညာ၊ လောဟိတကသညာ၊ ပုဠုဝကသညာ၊ အဋ္ဌိကသညာ၊ မေတ္တာသညာ၊ ကရုဏာသညာ၊ မုဒိတာသညာ၊ ဥပေက္ခာသညာ၊ မရဏဿတိ၊ ကာယဂတာသတိတို့ပေတည်း။ အိုခြင်း၊ သေခြင်းမှ လွတ်မြောက်လိုသူ တစ်စုံတစ်ယောက်သည် နှစ်ဆယ့်ခုနစ်ပါးသော ထိုကမ္မဋ္ဌာန်းအာရုံတို့တွင် တစ်ပါးပါးကိုယူ၍ ပွားများသောအားဖြင့် ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိတို့မှ လွတ်မြောက်၏။ သံသရာကိုကူးမြောက်နိုင်၏။ တဏှာအလျဉ်ကို တားမြစ်၏။ အညစ်အကြေးသုံးစုံကို သုတ်သင်နိုင်၏။ ကိလေသာအညစ်အကြေးကင်းသော၊ စင်ကြယ်သော၊ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်းမရှိသော၊ အေးငြိမ်းချမ်းသာ၊ ဘေးကင်းကွာသော နိဗ္ဗာန်မြို့တော်ကို ဝင်ရောက်ကာ အရဟတ္တဖိုလ်ဖြင့် လွတ်မြောက်မှုအရသာကို ခံစားရ၏။ ဤ ဈေးရုံတော်ကို ဘုရားရှင်၏ ပန်းဈေးရုံဟု ဆိုအပ်၏။ ကုသိုလ်ကံတည်းဟူသောအဖိုးငွေကို ယူဆောင်၍ ပန်းဈေးရုံသို့ချဉ်းကပ်လာကြသော သူတို့သည် အနိစ္စသညာ အစရှိသော ပန်းတို့ကို ဝယ်ယူ၍ အရဟတ္တဖိုလ်ဖြင့် မောဟစသည်တို့မှ လွတ်မြောက်ကြပါကုန်လော့'

## ဓမ္မမြို့တော်ကြီး၏ နံ့သာဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ နံ့သာဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုန်းတော်ကြီးသော ဘုရားရှင်သည် သီလကို ဝေဖန်၍ ဟောကြားတော်မူခဲ့၏။ ထိုသီလတို့ကား-သရဏဂုံသီလ၊ ငါးပါးသီလ၊ ရှစ်ပါးသီလနှင့် ပါတိမောက္ခ သံဝရသီလ

တို့ပေတည်း။ ထိုသီလတည်းဟူသော နံ့သာဖြင့် လိမ်းကျံထားကုန်သော ဘုရားရှင်၏ တပည့်သားတို့သည် နတ်နှင့်တကွသော လောကကို သီလတည်းဟူသော မွှေးရနံ့ သင်းပျံ့စေကုန်၏၊ လေအောက် လေညာ အရပ်မျက်နှာမရွေးဘဲ အမွှေးနံ့ကြိုင်စေကုန်၏။ ဤအလုံးစုံသောသီလကို ဘုရားရှင်၏နံ့သာဈေးဟူ၍ ဆိုအပ်၏။

မင်းမြတ်၊ နတ်တကာတို့ထက် လွန်မြတ်၍ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင် ကိုယ်တိုင် ကလည်း–

ပန်းတို့၏ အနံ့သည် လေညာသို့ မသွားရောက်နိုင်။ စန္ဒကူးပန်းသည် လည်းကောင်း၊ တောင်ဇလပ်ပန်းသည် လည်းကောင်း၊ ကြက်ရုံးပန်းသည် လည်းကောင်း၊ လေညာသို့ မသွား ရောက်နိုင်ပေ။ သူတော်ကောင်းတို့၏ သီလတည်းဟူသော အနံ့သည်ကား လေညာသို့ သွားရောက် နိုင်၏။ သူတော်ကောင်းတို့၏ သီလတည်းဟူသော အနံ့သည် အရပ်မျက်နှာ အားလုံးသို့ ပျံ့နှံ့ကြိုင်လှိုင်၏။

စန္ဒကူးပန်းအမျိုးမျိုး၊ တောင်ဇလပ်ပန်း အမျိုးမျိုး၊ ကြာညိုပန်း အမျိုးမျိုး၊ မြတ်လေးပန်း အမျိုးမျိုး၊ ဤပန်းနံ့သာအမျိုးမျိုးတို့ထက် သီလတည်းဟူသော ပန်းနံ့သာသည် အတိုင်းထက်အလွန် မွန်မြတ်လှပေ၏။

တောင်ဇလပ်ပန်း၊ စန္ဒကူးပန်း၏အနံ့သည် အနည်းငယ်မျှသာတည်း။ သီလရှိသူတို့၏ သီလတည်းဟူသော ရနံ့သည်ကား မြင့်မြတ်လှသည်ဖြစ်၍ နတ်ပြည်၊ ဗြဟ္မာပြည်တို့၌ ပျံ့နှံ့ကြိုင်လှိုင် ၏ဟု ဟောကြားတော်မူပေ၏'

## ဓမ္မမြို့တော်ကြီး၏ အသီးဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ အသီးဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင် ဟောကြားတော်မူအပ်သော ဖိုလ်အသီးသီးတို့ ရှိကြကုန်၏။ ထိုဖိုလ်အသီးသီးတို့ကား သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ်၊ သုညတဖလသမာပတ်၊ အနိမိတ္တဖလ သမာပတ်၊ အပ္ပဏိဟိတဖလ သမာပတ်တို့ ပေတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်မှာ အမြဲသီးနေသော သရက်ပင် တစ်ပင်ရှိပေရာ၏။ ထိုယောကျ်ားသည်ဝယ်သူမလာသေးလျှင် သရက်ပင်မှ အသီးများကို ဆွတ် မထားပေ။ ဝယ်လိုသူတို့ ရောက်လာလျှင်ကား သရက်သီးဖိုးကိုယူပြီးလျှင် အချင်း၊ ဤ သရက် ပင်သည် အမြဲသီးနေ၏။ ဤသရက်ပင်မှ သီးကင်းကို လည်းကောင်း၊ အစေ့မယှက်သေးသော အသီးကို လည်းကောင်း၊ အစေ့ယှက်ပြီးသော အသီးကို လည်းကောင်း၊ အသီးရင့်ကို

လည်းကောင်း၊ အသီးမှည့်ကို လည်းကောင်း သင်အလိုရှိရာ ဆွတ်ခူးယူလေလော့ဟု ပြောဆိုရာ၏။ ဤတွင်ဝယ်သူသည် မိမိပေးထားသောသရက်သီးဖိုး အားလျော်စွာ မိမိအလိုရှိရာသရက်သီးကို ဆွတ်ခူး၍ ယူရာ၏။ ဤအတူသာပင် တစ်စုံတစ်ယောက်သောသူသည် သောတာပတ္တိဖိုလ်စသော အသီးတို့ကို အလိုရှိလျှင် ကုသိုလ်ကံတည်းဟူသော အဖိုးကို ပေး၍ မိမိအလိုရှိရာ ဖိုလ်အသီးကို ဝယ်ယူရ၏။ ဤသို့အားဖြင့်ကုသိုလ်ကံတည်းဟူသော အဖိုးကိုပေး၍ မဂ်ဖိုလ်တည်းဟူသောအသီးကို ဝယ်ယူဆွတ်ခူးနိုင်သူတို့သည် ချမ်းသာကြပေကုန်၏။ ဤကား ဘုရားရှင်၏ အသီးဈေးရုံ ပေတည်း'

## ဓမ္မမြို့တော်၏ အဆိပ်ဖြေဆေး ဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသောဘုရားရှင်၏ အဆိပ်ဖြေဆေးဈေးရုံကြီးကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် သတ္တဝါတို့အား ကိလေသာအဆိပ်တက်ခြင်းမှလွတ်ကင်းကြစေရန် အဆိပ်ဖြေဆေးလေးမျိုးကို ဟောကြားတော်မူခဲ့၏။ ထိုအဆိပ်ဖြေဆေး လေးမျိုးတို့ကား-ဒုက္ခ၊ သမုဒယ၊ နိရောဓ၊ မဂ္ဂ တည်းဟူသော အရိယာသစ္စာလေးပါးတို့ပေတည်း။ သိလိုမြင်လိုသော စိတ်ထားဖြင့် သစ္စာလေးပါး တရားတော်ကို နာကြားကြရသော သူတို့သည် ပဋိသန္ဓေနေရခြင်း၊ အိုရခြင်း၊ သေရခြင်း၊ စိုးရိမ်ပူဆွေး ငိုကြွေးရခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာမယာခြင်း၊ ပြင်းစွာပင်ပန်းခြင်းတို့မှ လွတ်မြောက်ကြကုန်၏။ လောက၌ တရားတည်းဟူသော အဆိပ်ဖြေဆေးနှင့် တူသော အဆိပ်ဖြေဆေး မရှိပေ။ ရဟန်းတို့သည် ထိုတရားတည်းဟူသော အဆိပ်ဖြေဆေးကို သောက်ကြကုန်၏။ ဤကား ဘုရားရှင်၏ အဆိပ်ဖြေဆေး ဈေးရုံကြီးပေတည်း'

## ဓမ္မမြို့တော်ကြီး၏ ဆေးမျိုးစုံ ဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးကုန်သော ဘုရားရှင်၏ ဆေးအမျိုးမျိုးဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါ အပေါင်းတို့၏ ကိလေသာရောဂါ တို့ကို ကုစားနိုင်ရန် ဆေးအမျိုးမျိုးကို ဟောကြားတော်မူခဲ့၏။ ထိုဆေးအမျိုးမျိုးတို့ကား သတိပဋ္ဌာန် လေးပါး၊ သမ္မပ္ပဓာန် လေးပါး၊ ဣဒ္ဓိပါဒ် လေးပါး၊ ဣန္ဒြေ ငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင် ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးတို့ပေတည်း။ ဘုရားရှင်သည် ထိုဆေးတော်ကြီးတို့ဖြင့် မိစ္ဆာဒိဋ္ဌိ၊ မိစ္ဆာသင်္ကပ္ပ၊ မိစ္ဆာဝါစာ၊ မိစ္ဆာကမ္မန္တ၊ မိစ္ဆာအာဇီဝ၊ မိစ္ဆာဝါယာမ၊ မိစ္ဆာသတိ၊ မိစ္ဆာသမာဓိတို့ကို လျှော့သက်ကျဆင်း ကင်းပျောက်စေတော်မူ၏။ လောဘ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဥဒ္ဓစ္စ ထိနမိဒ္ဓ အဟိရိက အနောတ္တပ္ပနှင့်တကွ ကိလေသာ ဟူသမျှတို့ကို ပျို့အန်ထွက်ကျ

ကင်းပစေတော်မူ၏။ ဆေးအမျိုးမျိုးတို့တွင် တရားနှင့်တူသော ဆေးမရှိပေ။ ရဟန်းတို့သည် တရားတည်းဟူသော ဆေးကို သောက်ကြကုန်ရာ၏။ တရားတည်းဟူသော ဆေးကိုသောက်၍ လည်းကောင်း၊ မဂ်ကိုပွားများ၍ လည်းကောင်း၊ မအိုရာ မသေရာ နိဗ္ဗာန်ကို မျက်မှောက်ပြုပေရာ၏။ ဥပဓိ ဟူသောခန္ဓာငါးပါးတို့၏ ကုန်ရာ ကင်းရာ နိဗ္ဗာန်၌ ကိလေသာအားလုံး ချုပ်ငြိမ်းကုန်ရာ၏။ ဤကား ဘုရားရှင်၏ ဆေးမျိုးစုံဈေးရုံပေတည်း'

## ဓမ္မမြို့တော်ကြီး၏ အမြိုက်ရေစင် ဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသောဘုရားရှင်၏ အမြိုက်ရေစင်ဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် ကာယဂတာသတိ တည်းဟူသော အမြိုက်ရေစင်ကို ဟောကြားတော်မူခဲ့၏။ ထိုအမြိုက်ရေစင်ဖြင့် သွန်းလောင်းခြင်းကို ခံယူရကုန်သော နတ်တို့သည် ပဋိသန္ဓေနေရခြင်း၊ အိုခြင်း၊ သေရခြင်း၊ စိုးရိမ်ပူဆွေးငိုကြွေးရခြင်း၊ ဆင်းရဲခြင်း၊ နှလုံးမသာမယာ ဖြစ်ရခြင်း၊ ပြင်းစွာပင်ပန်းရခြင်းတို့မှ လွတ်ကင်းကြကုန်၏။ ဤသို့ဖြင့် ရာဂအနာစသည်ဖြင့် အနှိပ်စက်ခံနေရကုန်သော သတ္တဝါအပေါင်းကို မြင်တော်မူ၍ ဘုရားရှင်သည် အမြိုက်ရေစင်ဈေးရုံ တော်ကို ဖြန့်ခင်းတော်မူထား၏။ ရဟန်းတို့သည် ထိုအမြိုက်ရေစင်ကို ကုသိုလ်ကံဖြင့် ဝယ်ယူ သုံးဆောင်ကြကုန်ရာ၏။ ဤကား ဘုရားရှင်၏ အမြိုက်ရေစင် ဈေးရုံပေတည်း'

## ဓမ္မမြို့တော်ကြီး၏ ရတနာမျိုးစုံ ဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ရတနာမျိုးစုံဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် သီလရတနာ၊ သမာဓိရတနာ၊ ပညာရတနာ၊ ဝိမုတ္တိရတနာ၊ ဝိမုတ္တိဉာဏဒဿန ရတနာ၊ ပဋိသမ္ဘိဒါ ရတနာနှင့် ဗောဇ္ဈင် ရတနာတို့ကို ဟောကြားတော်မူခဲ့၏။ ထိုရတနာတို့ဖြင့် တန်ဆာဆင်ထားကုန်သော ဘုရားရှင်၏ သားတော်တို့သည် နတ်နှင့်တကွသော လောကကို တင့်တယ်စေကုန်၏။ ထွန်းလင်းတောက်ပစေကုန်၏။ ထက်အောက်ဖီလာအရပ်တို့၌ အလင်းရောင်ကို ထွန်းပြောင်စေကုန်၏။

## ဘုရားရှင်၏ သီလရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ သီလရတနာကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်၏သီလရတနာတို့ကား-ပါတိမောက္ခသံဝရသီလ၊ ဣန္ဒြိယသံဝရသီလ၊ ပစ္စယသန္နိဿိတသီလ၊ အာဇီဝပါရိသုဒ္ဓိသီလ၊ စူဠသီလ၊ မဇ္ဈိမသီလ၊ မဟာသီလ၊ မဂ်သီလ၊ ဖိုလ်သီလ တို့ပေတည်း။ ထိုသီလရတနာတို့ဖြင့် တန်ဆာဆင်ထားသော ပုဂ္ဂိုလ်ကို လူ နတ်

ပြဟ္မာ ရဟန်း ပုဏ္ဏား အားလုံးတို့က ချစ်မြတ်နိုးကြပေ၏။ သီလရတနာကို ပန်ဆင်ထားသော ရဟန်းသည် အရပ်ဆယ်မျက်နှာတို့၌ အလွန်တင့်တယ်၏။ အောက်အဝီစိ၊ အထက်ဘဝဂ် အတွင်းရှိ ရတနာမျိုးစုံတို့ထက် လွှမ်းမိုးတောက်ပ၏။ ဤသို့သော သီလရတနာတို့ကို ဘုရားရှင်၏ ရတနာဈေး၌ ဖြန့်ခင်း၍ ထားပေ၏။ ထိုသီလရတနာ တို့ကို ကုသိုလ်ကံတည်းဟူသော အဖိုးငွေဖြင့် ဝယ်ယူ၍ ပန်ဆင်ကြကုန်၏'

## ဘုရားရှင်၏ သမာဓိရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ သမာဓိရတနာကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်၏ သမာဓိရတနာတို့သည်ကား- သဝိတက္က သဝိစာရ သမာဓိ၊ အဝိတက္ကဝိစာရမတ္တ သမာဓိ၊ အဝိတက္ကအဝိစာရ သမာဓိ၊ သုညတ သမာဓိ၊ အနိမိတ္တ သမာဓိ၊ အပ္ပဏိဟိတ သမာဓိ တို့ပေတည်း။ မင်းမြတ်၊ ဥပမာအားဖြင့် ပဒုမ္မာကြာရွက်ပေါ်၌ ရေသည် ရပ်တည်မနေနိုင်ဘဲ ဖရိုဖရဲ ပြိုကွဲလျှောကျ သွားရ၏။ ပဒုမ္မာကြာရွက်က စင်ကြယ်သန့်ရှင်း လှသောကြောင့် ဖြစ်၏။ ဤအတူသာပင် ထိုသမာဓိရတနာကို ပန်ဆင်ထားသော ရဟန်းမှာ ကာမဝိတက်၊ ဗျာပါဒဝိတက်၊ ဝိဟိံသာဝိတက်၊ မာန၊ ဥဒ္ဓစ္စ၊ ဝိစိကိစ္ဆာ ဟူသော ကိလေသာ အညစ်ကြေးတို့သည် လည်းကောင်း၊ မကောင်းသော အကြံအစည်အပေါင်းတို့သည် လည်းကောင်း မကပ်ရောက် မတည်နေနိုင်ကြဘဲ ဖရိုဖရဲပြိုကွဲပျောက်လွင့် ကြရကုန်၏။ သမာဓိရတနာက အလွန်တရာ စင်ကြယ်လှသောကြောင့် ဖြစ်ပေ၏။ ဤသို့သော သမာဓိရတနာတို့ကို ဘုရားရှင်၏ ရတနာဈေးရုံ၌ ဖြန့်ခင်းထားပေ၏။ ထိုသမာဓိရတနာ တည်းဟူသော ပန်းကို ပန်ဆင်ကြကုန်ရာ၏'

## ဘုရားရှင်၏ ပညာရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ပညာရတနာကား အဘယ်သို့ပါသနည်း'

'မင်းမြတ်၊ ဘုရားရှင်၏ ပညာရတနာသည်ကား-ကုသိုလ်၊ အကုသိုလ်၊ အပြစ်ရှိသောတရား၊ အပြစ်မရှိသောတရား၊ မှီဝဲအပ်သောတရား၊ မမှီဝဲအပ်သောတရား၊ ယုတ်ညံ့သောတရား၊ မြင့်မြတ်သောတရား၊ ဖြူစင်သောတရား၊ မည်းညစ်သောတရား၊ အမည်းအဖြူနှင့်တူသောတရား၊ ဒုက္ခ၊ သမုဒယ၊ နိရောဓ၊ မဂ္ဂဟူသော သစ္စာလေးပါးတရားတို့ကို ပိုင်းခြားဝေဖန်၍ သိသော ပညာပေတည်း။ ပညာရတနာတို့ကို ပန်ဆင်ထားသူမှာ ဘဝသံသရာ ကြာမြင့်စွာ လည်မနေတော့ပေ။ ထိုပညာရှင်သည် ဘဝသုံးပါး၌ မနှစ်သက်တော့သည် ဖြစ်၍ သေခြင်း ကင်းရာနိဗ္ဗာန်ကို လျင်မြန်စွာ သိနိုင်ရာ၏'

## ဘုရားရှင်၏ ဝိမုတ္တိရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ဝိမုတ္တိရတနာသည်ကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်သည် အရဟတ္တဖိုလ်ကို ဝိမုတ္တိရတနာဟု ဟောတော်မူ၏။ အရဟတ္တဖိုလ်သို့ရောက်သောသူကို ဝိမုတ္တိရတနာပန်ဆင်ထားသူဟု ဟောတော်မူ၏။ ဥပမာအားဖြင့်

ပုလဲကုံး၊ ပတ္တမြားကုံး၊ သန္တာကုံးတို့ဖြင့်တန်ဆာဆင်ယင်၍ အကျော်၊ တောင်ဇလပ်၊ မြတ်လေး၊ စံနှကူးနီနံ့သာတို့ကို လိမ်းကျံ၍ ကံ့ကော်ပန်း၊ ပုန်းညက်ပန်း၊ အင်ကြင်းပန်း၊ သရဖီပန်း၊ စံကားဝါပန်း၊ နော်ဇာပန်း၊ ပင်လယ်ကသစ်ပန်း၊ ကြာညိုပန်း၊ မြတ်လေးပန်း၊ ကြက်ရုံးပန်းတို့ကို ဆန်းကြယ်စွာ ပန်ဆင်ထားသော ယောကျ်ားသည် ကြွင်းသော လူအပေါင်းတို့ထက် ပန်းနံ့သာ ရတနာတန်ဆာတို့ဖြင့် သာလွန်၍ တင့်တယ်၏။ ဤအတူသာပင် အရဟတ္တဖိုလ်သို့ ရောက်ပြီးသော ရဟန္တာပုဂ္ဂိုလ်သည် ဝိမုတ္တိရတနာကို တန်ဆာဆင်လျက် အောက်ဖိုလ်ရဟန်းတို့ထက် သာလွန်၍ တင့်တယ်၏။ အရဟတ္တဖိုလ် တည်းဟူသော တန်ဆာသည် အခြားတန်ဆာ အားလုံးတို့ထက်သာလွန် မြင့်မြတ်သောကြောင့်တည်း။ ဤသို့သောရတနာကို ဘုရားရှင်၏ ဝိမုတ္တိရတနာဟုဆိုအပ်၏။ ပတ္တမြားရတနာပန်ဆင်ထားသော အိမ်ရှင်သေဋ္ဌေးကို လူအပေါင်းတို့က မော့၍ကြည့်ကြရကုန်၏။ ဝိမုတ္တိရတနာတန်ဆာ ပန်ဆင်ထားသောသူကိုကား နတ်ရောလူပါမော့ကြည့်ကြရကုန်၏'

## ဘုရားရှင်၏ ဝိမုတ္တိဉာဏဒဿနရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ဝိမုတ္တိဉာဏဒဿနရတနာကား အဘယ်သို့ ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်၏ ဝိမုတ္တိဉာဏဒဿနရတနာကား ကိလေသာမှလွတ်မြောက်မှုကို သိသော ပစ္စဝေက္ခဏာဉာဏ်ပေတည်း။ ထိုပစ္စဝေက္ခဏာဉာဏ်ဖြင့် အရိယာသာဝကတို့သည် မဂ်ကို လည်းကောင်း ၊ ဖိုလ်ကို လည်းကောင်း၊ နိဗ္ဗာန်ကို လည်းကောင်း၊ ပယ်ပြီးသောကိလေသာတို့ကို လည်းကောင်း၊ မပယ်ရသေးသော ကိလေသာတို့ကို လည်းကောင်း ဆင်ခြင်၏။ ဤကား ဘုရားရှင်၏ ဝိမုတ္တိဉာဏဒဿနရတနာ ပေတည်း။ ထိုဉာဏ်ဖြင့် အရိယာ သာဝကသည် ပြုစရာရှိသမျှ မဂ်ကိစ္စကို ပြုလုပ်ပြီးစီးပြီဖြစ်သော ရဟန္တာ၏အဖြစ်ကို သိမြင်နိုင်၏။ ဘုရားရှင်၏ သားတော်တို့သည် ထိုဉာဏ်ကိုရခြင်းငှာ အားထုတ်ကြကုန်ရာ၏'

## ဘုရားရှင်၏ ပဋိသမ္ဘိဒါရတနာ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ပဋိသမ္ဘိဒါ ရတနာကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်၏ ပဋိသမ္ဘိဒါ ရတနာသည်ကား–အတ္ထပဋိသမ္ဘိဒါ၊ ဓမ္မပဋိသမ္ဘိဒါ၊ နိရုတ္တိပဋိသမ္ဘိဒါ၊ ပဋိဘာနပဋိသမ္ဘိဒါ တို့ပေတည်း။ ဥပမာအားဖြင့်သူရဲကောင်း စစ်သည်တော်သည် လက်နက်ငါးမျိုးတို့ကိုကိုင်စွဲလျက် ကြောက်ရွံ့ခြင်းကင်း ရဲတင်းသောစိတ်ဖြင့် စစ်မြေပြင်သို့ ဝင်ရောက်၍ ရန်သူတို့သည် အဝေးမှာရှိနေကြလျှင် မြားဖြင့်ပစ်အံ့။ မြားပစ်လောက်အောင်

မဝေးလျှင် လုံ့ဖြင့်ပစ်၍ထိုးအံ့။ လုံ့ပစ်၍ ထိုးလောက်အောင် မဝေးလျှင် ခက်ရင်းဖြင့်ထိုးအံ့။ ခက်ရင်း ဖြင့် ထိုးလောက်အောင် မဝေးကွာဘဲ အနီးကပ်ဖြစ်နေလျှင် သန်လျက်ဖြင့်နှစ်ပိုင်းပိုင်းအံ့။ လူခြင်း နီးကပ်နေလွန်းလျှင် ဓားမြှောင်ဖြင့် ထိုးသတ်အံ့ဟု ရည်ရွယ်မှန်းထားလျက် ထိုစစ်သည် သူရဲကောင်းသည် စစ်မြေပြင်သို့ချီတက်၏။ ဤအတူသာပင် ပဋိသမ္ဘိဒါ ရတနာလေးပါးဖြင့် တန်ဆာဆင်ထားသော ရဟန်းသည် ကြောက်ရွံ့တုန်လှုပ်ခြင်းမရှိ။ ပကတိရဲတင်းသောစိတ်ဖြင့် ပရိသတ်အလယ်သို့ သက်ဝင်၏။

တစ်စုံတစ်ယောက်သောသူသည် ငါ့အား အတ္ထပဋိသမ္ဘိဒါဆိုင်ရာပြဿနာကိုမေးငြားအံ့။ ထိုသူအား ငါသည် အကျိုးတရားဖြင့် အကျိုးတရားကို ဖြေဆိုအံ့။ တစ်စုံတစ်ယောက်သော သူသည် ငါ့အား ဓမ္မပဋိသမ္ဘိဒါဆိုင်ရာပြဿနာကို မေးလာငြားအံ့။ ထိုသူအားငါသည် အကြောင်းတရားဖြင့် အကြောင်းတရားကိုဖြေဆိုငြားအံ့၊ တစ်စုံတစ်ယောက်သောသူသည် ငါ့အား နိရုတ္တိပဋိသမ္ဘိဒါဆိုင်ရာ ပြဿနာကို မေးလာငြားအံ့။ ထိုသူအား သဒ္ဒါ၊ ပုဒ်ဝိဘတ်၊ အက္ခရာ၊ ပညတ်၊ ဝေါဟာရတို့ဖြင့် သဒ္ဒါနည်းကို ဖြေဆိုအံ့။ တစ်စုံတစ်ယောက်သော သူသည် ငါ့အား ပဋိဘာန ပဋိသမ္ဘိဒါဆိုင်ရာ ပြဿနာကို မေးလာငြားအံ့။ ထိုသူအား ငါသည် ဥပမာဖြင့် ဥပမာကို ဖြေဆိုပေအံ့။ မှတ်ကြောင်းလက္ခဏာဖြင့် မှတ်ကြောင်းလက္ခဏာကို ဖြေဆိုပေအံ့။ ယုံမှားသံသယ ကင်းအောင်ဖြေဆို၍ ထိုသူအား နှစ်သက်စေအံ့ဟု ရည်ရွယ်မှန်ထားလျက် ထိုပဋိသမ္ဘိဒါ ရဟန်းသည် ပရိသတ်အလယ်သို့ သက်ဝင်၏။ ဤကား ဘုရားရှင်၏ ပဋိသမ္ဘိဒါရတနာတို့ပေတည်း။ ပဋိသမ္ဘိဒါ ရတနာတို့ကို ကုသိုလ်ကံတည်းဟူသော အဖိုးအခဖြင့် ဝယ်ယူ၍ ဉာဏ်ဖြင့်ထိတွေ့နိုင်သူသည် နတ်နှင့်တကွသော လောက၌ မတုန်မလှုပ် ရဲရင့် တည်ကြည်သည် ဖြစ်၍ အလွန်တရာ တင့်တယ်ပေ၏'

## ဓမ္မမြို့တော်ကြီး၏ ကုန်မျိုးစုံဈေးရုံ

'အရှင်ဘုရား၊ ဘုန်းတော်ကြီးသော ဘုရားရှင်၏ ကုန်မျိုးစုံ ဈေးရုံကား အဘယ်သို့ပါနည်း'

'မင်းမြတ်၊ ဘုရားရှင်၏ ကုန်မျိုးစုံ ဈေးရုံတော်ကား–အင်္ဂါကိုးပါးနှင့် ပြည့်စုံသော ဒေသနာတော်များ၊ ကိုယ်တော်စားဖြစ်သော ဥဒ္ဒိဿစေတီ၊ ဓာတုစေတီ၊ ဘုရားရှင် သုံးဆောင်တော်မူခဲ့သော သပိတ်၊ သင်္ကန်း စသော ပရိဘောဂစေတီနှင့် သံဃာရတနာတို့ ပေတည်း။ ထိုဈေးရုံတော်တို့၌ အမျိုးမြတ်ခြင်းတည်းဟူသော ဇာတိသမ္ပတ္တိကုန်ကို လည်းကောင်း၊ စည်းစိမ်ဥစ္စာ ပေါများခြင်းတည်းဟူသော ဘောဂသမ္ပတ္တိကုန်ကို လည်းကောင်း၊ အသက်ရှည်ခြင်း တည်းဟူသော အာယုသမ္ပတ္တိကုန်ကို လည်းကောင်း၊ အနာရောဂါ ကင်းရှင်ခြင်း ဟူသော အာရောဂျသမ္ပတ္တိကုန်ကို လည်းကောင်း၊ အဆင်းလှခြင်း တည်းဟူသော ဝဏ္ဏသမ္ပတ္တိကုန်ကို လည်းကောင်း၊ ပညာထက်မြက်ခြင်း တည်းဟူသော ပညာသမ္ပတ္တိကုန်ကို လည်းကောင်း၊

လူ့စည်းစိမ်ချမ်းသာခြင်း ဟူသော မာနုသိကသမ္ပတ္တိကုန်ကို လည်းကောင်း၊ နတ်စည်းစိမ်ချမ်းသာခြင်းဟူသော ဒိဗ္ဗသမ္ပတ္တိကုန်ကို လည်းကောင်း၊ နိဗ္ဗာန်ချမ်းသာ တည်းဟူသော နိဗ္ဗာနသမ္ပတ္တိကုန်ကို လည်းကောင်း ဖြန့်ခင်းထားပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် အိမ်ဈေးဆိုင်ရှိ နှမ်း၊ ပဲနောက်၊ ပဲကြီးတို့ကို ထိုက်တန်ရာ အဖိုးငွေဖြင့် ထောက်ဆ၍ ဝယ်ယူနိုင်ကုန်၏။ ဤအတူသာပင် ထိုကုန်မျိုးစုံ တို့ကို အလိုရှိသော သူတို့သည် ကုသိုလ်ကံ တည်းဟူသော အဖိုးငွေဖြင့် ထိုကုန်ပစ္စည်းတို့ကို ထိုဈေးရုံတို့၌ ဝယ်ယူနိုင်ကုန်၏။ ဤကား ဘုရားရှင်၏ကုန်မျိုးစုံ ဈေးရုံပေတည်း'

## ဓမ္မမြို့တော်၌ နေထိုင်သူများ

'အရှင်ဘုရား၊ ဘုရားရှင်၏ ဓမ္မမြို့တော်၌ အဘယ်သူတို့ နေထိုင်ကြပါသနည်း'

'မင်းမြတ်၊ ထိုဓမ္မမြို့တော်၌ နေထိုင်သူတို့ကား–သုတ္တန်ဆောင်များ၊ ဝိနည်းဆောင်များ၊ အဘိဓမ္မာဆောင်များ၊ ဓမ္မကထိကများ၊ ဇာတ်တော်ဆောင်များ၊ ဒီဃနိကာယ်ဆောင်များ၊ မဇ္ဈိမနိကာယ်ဆောင်များ၊ သံယုတ္တနိ ကာယ်ဆောင်များ၊ ခုဒ္ဒက နိကာယ်ဆောင်များ၊ သီလစင်ကြယ်ကြ သူများ၊ သမာဓိတည်ကြည်ကြသူများ၊ ပညာထက်မြက်သူများ၊ ဗောဇ္ဈင်၌မွေ့လျော်သူများ၊ ဝိပဿနာပွားများသူများ၊ မိမိ၏အကျိုးငှာ ကြိုးစားသူများ၊ ဓုတင်အကျင့် ဆောက်တည်သူများ၊ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်များ၊ ဖလဋ္ဌာန်ပုဂ္ဂိုလ်များ၊ သေက္ခပုဂ္ဂိုလ်များ၊ ရဟန္တာပုဂ္ဂိုလ်များ၊ ဝိဇ္ဇာဉာဏ်သုံးပါး ရရှိသူများ၊ အဘိညာဉ်ခြောက်ပါး ရရှိသူများ၊ တန်ခိုးဣဒ္ဓိပါဒ် ကြီးမားသူများ၊ ပညာပါရမီ တစ်ဖက်ကမ်းသို့ ရောက်ရှိသူများ၊ ဗောဓိပက္ခိယ တရားတို့၌ ကျွမ်းကျင်လိမ္မာသူများ နေထိုင်ကြကုန်၏'

## ဓမ္မမြို့တော်ကြီးမှ ပုဂ္ဂိုလ်ထူးများ

'အရှင်ဘုရား၊ ဘုရားရှင်၏ ထိုဓမ္မမြို့တော်ကြီးမှ ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်ထူးတို့ကား အဘယ်သူတို့ပါနည်း'

'မင်းမြတ်၊ အလွန်တရာ ပညာကြီးကုန်၍ ဘုရားရှင်နည်းတူ ဓမ္မစက်ကိုလည်ပတ်အောင် ဟောနိုင်စွမ်းရှိသောရဟန်းတို့ကား ထိုဓမ္မမြို့တော်ကြီးမှ တရားစစ်သူကြီးတို့ပေတည်း။

'မင်းမြတ်၊ ပဋိသမ္ဘိဒါဉာဏ်ကို ရရှိကုန်၍ ကောင်းကင်၌ သွားလာနိုင်ကုန်သော၊ လနှင့်နေတို့ကို သုံးသပ်နိုင်ကုန်သော၊ တန်ခိုးဖန်ဆင်းခြင်း၌ ကျွမ်းကျင်လိမ္မာကုန်သော ရဟန်းတို့သည် ထိုဓမ္မမြို့တော်ကြီးမှ ပုရောဟိတ်တို့ပေတည်း။

'မင်းမြတ်၊ ဓုတင်ဆောင်ကုန်သော၊ အလိုနည်းကုန်သော၊ ရောင့်ရဲလွယ်ကုန်သော၊ မအပ်စပ်သောနည်းဖြင့် တောင်းခံခြင်းနှင့် မအပ်စပ်သောနည်းဖြင့် ရှာမှီးခြင်းကို စက်ဆုပ်ကြ

ကုန်သော၊ အိမ်စဉ်အတိုင်း ဆွမ်းခံ၍ စားလေ့ ရှိကုန်သော ရဟန်းတို့ကား ထိုဓမ္မမြို့တော်ကြီးက တရားစစ်သူကြီးတို့ပေတည်း။

'မင်းမြတ်၊ ကိလေသာ ကင်းကုန်သော စုတိပဋိသန္ဓေ၌ လိမ္မာကုန်သော၊ ဒိဗ္ဗစက္ခု အဘိညာဏ်၏ အထွတ်အထိပ်သို့ ရောက်ကုန်သော ရဟန်းတို့သည် ဓမ္မမြို့တော်ကြီး၏ ကျက်သရေဆောင် အတွင်းဝန်တို့ ပေတည်း။

'မင်းမြတ်၊ အကြားအမြင် များကုန်သော၊ ပိဋကတ်သုံးပုံဆောင်ကုန်သော၊ ဌာန်ကရိုဏ်း ကျနမှန်ကန်အောင် ရွတ်ဖတ်နိုင်ကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီး၏ မြို့စောင့် အမတ်ကြီးတို့ ဖြစ်ကြကုန်၏။

'မင်းမြတ်၊ ဝိနည်း၌ ကျွမ်းကျင်သော အာပတ်သင့်သည်၊ မသင့်သည်ကို ခွဲခြား၍ သိနိုင်ကုန်သော၊ သံဃာ့ကံ အမျိုးမျိုး၌ ကျွမ်းကျင်ကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီး၏ ရှုပါရုံကို စောင့်ရှောက်သော အမတ်ကြီးတို့ပေတည်း။

'မင်းမြတ်၊ ဝိမုတ္တိတည်းဟူသော ပန်းကို သီကုံးတတ်ကုန်သော၊ အလွန်တရာ မြင့်မြတ်လှကုန်သော၊ လူအများ၏ ကြည်ညိုမြတ်နိုးခြင်းကို ခံယူရသော ရဟန်းတို့သည်ကား ဓမ္မမြို့တော်ကြီးမှ ပန်းဈေးဆိုင်ရှင်တို့ ပေတည်း။

'မင်းမြတ်၊ မဂ်လေးတန်၊ ဖိုလ်လေးတန်ကို ရရှိပြီးကုန်သော၊ သူတစ်ပါးတို့ ဖိုလ်ချမ်းသာ ခံစားနိုင်ရန် နည်းလမ်းညွှန်ပြသော အားဖြင့် ဖိုလ်ချမ်းသာကို ခွဲဝေပေးနိုင်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီးမှ အသီးဈေးဆိုင်တို့ပေတည်း။

'မင်းမြတ်၊ သီလတည်းဟူသော နံ့သာဖြင့် လိမ်းကျံကုန်သော၊ မကောင်းသော ကိလေသာ အနံ့အသက်ကို လွှင့်မှုတ်ဖျက်ဆီးကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီးမှ နံ့သာဈေးဆိုင်ရှင်တို့ ပေတည်း။

'မင်းမြတ်၊ တောတောင်၊ သစ်ပင်ရိပ်၊ ဆိတ်ငြိမ်ရာ အရပ်သို့ကပ်ကုန်၍ တရားတော်၏ အရသာကို သောက်သုံး ကြကုန်သော၊ အလိုနည်းခြင်း စသော ဂုဏ်ကျေးဇူးကို ချီးကျူးလျက် လှည့်လည်သွားလာကြကုန်သော ရဟန်းတို့သည်ကား ဓမ္မမြို့တော်ကြီးမှ တရားအရသာကို သောက်စားမြူးထူးသူများ ပေတည်း။

'မင်းမြတ်၊ ညဉ့်ဦးယံ၊ မိုးသောက်ယံတို့၌ မအိပ်စက်မူ၍ တရားဘာဝနာများပွားများ အားထုတ်ကြကုန်သော၊ မိမိ၏ အကျိုးစီးပွားတည်း ဟူသော အရဟတ္တဖိုလ် ရောက်အောင် ကြိုးစားကြကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီးမှ မြို့တော်စောင့်တို့ပေတည်း။

'မင်းမြတ်၊ အင်္ဂါကိုးပါးနှင့်ပြည့်စုံသော ဘုရားဟော ဒေသနာတော်တို့ကို ပို့ချကြကုန်သော၊ ဟောကြားကြကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီးမှ ဈေးဆိုင်ရှင်တို့ ပေတည်း။

'မင်းမြတ်၊ အာဂုံဆောင်ထားသော တရားရတနာ ရှိကုန်သော၊ ပညာဉာဏ်ထက်သန်ကုန်သော ရဟန်းတို့သည်ကား ထိုဓမ္မမြို့တော်ကြီးမှ သေဋ္ဌေးကြီးတို့ပေတည်း။

'မင်းမြတ်၊ ဒေသနာတော်မြတ် တို့ကို ထိုးထွင်း၍ သိနိုင်ကုန်သော၊ မိမိတို့ အဖန်တလဲလဲ လေ့ကျင့်ပွားများထားသော ကမ္မဋ္ဌာန်းအာရုံကို အကျယ်ဝေဖန်၍ ဟောကြားနိုင်ကုန်သော၊ အကျင့်သိက္ခာ၊ ဂုဏ်ကျေးဇူးတို့၏ အထွတ်အထိပ်သို့ ရောက်ရှိကြကုန်သော ရဟန်းတို့ သည်ကား ထိုဓမ္မမြို့တော်ကြီးမှ ထင်ရှားသော တရားကျင့်သူတို့ပေတည်း'

## ဓမ္မမြို့တော်ကြီး၏ ဂုဏ်ကျေးဇူး

'မင်းမြတ်၊ ဤသို့လျှင် ဘုန်းတော်ကြီးသော ဘုရားရှင်သည် ဓမ္မမြို့တော်ကြီးကို ကောင်းမွန် သေသပ်စွာ ပိုင်းခြား ဝေဖန်၍ တည်ထောင် ဖန်ဆင်းတော်မူ၏။ ထက်ဝန်းကျင်မှ ပြည့်စုံအောင်၊ လုံခြုံ စိတ်ချရအောင်၊ ရန်သူတို့မနှိပ်စက် မဖျက်ဆီးနိုင်အောင် စီစဉ်တော်မူခဲ့၏။ နှလုံးမွေ့လျော်ဖွယ်ရာ၊ ကောင်းမွန်စွာ ဝေဖန်ပိုင်းခြား၍ တည်ထားခဲ့သော မြို့တော်ကို ကြည့်ရှုရသော် တည်ဆောက်ခဲ့သော ပညာရှင်၏ ကြီးကျယ်မြင့်မြတ်လှသော အတတ်ပညာကို မှန်းဆ၍သိကြရသကဲ့သို့ အဘက်အဘက်မှ ပြည့်စုံအောင်၊ ကောင်းမွန်အောင်၊ လုံခြုံစိတ်ချရအောင် တည်ဆောက်ထားခဲ့သော ဓမ္မမြို့တော်ကြီး တည်းဟူသော အထောက်အထားကို မှန်းဆကာ ဓမ္မမြို့တော်ကြီးကို တည်ထောင်ဖန်ဆင်းခဲ့သော ဘုရားရှင် ရှိတော်မူကြောင်းကို သိနိုင်ပေ၏။

'မဟာသမုဒ္ဒရာ၏ ကြီးမားလှစွာသော လှိုင်းတံပိုးတို့ကို ရှုမြင်လတ်သော် မဟာသမုဒ္ဒရာ၏ ကြီးကျယ်ပုံကို သိနိုင်သကဲ့သို့ တရားတည်းဟူသော လှိုင်းတံပိုးတို့ကို ရှုမြင်ရသဖြင့် ကြီးကျယ် မြင့်မြတ်လှသော ဘုရားရှင်ရှိတော်မူခဲ့ကြောင်းကို သိနိုင်ပေ၏။

'မြင့်မားလှသော တောင်ထွတ်ကို ရှုမြင်လတ်သော် ဤတောင်ထွတ်ကား ဟိမဝန္တာတောင် ပေတည်းဟု သိနိုင်သကဲ့သို့ တရားတည်းဟူသော တောင်ကြီးကို ရှုမြင်ရသဖြင့် ကြီးမားသော လုံ့လဝီရိယ ရှိတော်မူသော ဘုရားရှင် ရှိတော်မူခဲ့ကြောင်း သိနိုင်ပေ၏။

'ကြီးမားလှသော ခြေရာကို ရှုမြင်လတ်သော် ဤသည်ကား ဆင်ပြောင်ကြီး၏ ခြေရာပေတည်းဟု သိနိုင်သကဲ့သို့ တရားတည်းဟူသော ကြီးကျယ်သော အရာဌာနကို ရှုမြင်ရသဖြင့် ကြီးကျယ်လှစွာသော တရားတော်၏သခင် ဘုရားရှင် ရှိတော်မူကြောင်းကို သိနိုင်ပေ၏။

'ကြောက်ရွံ့ထိတ်လန့်နေကြသော သားကောင်ငယ်တို့ကို ရှုမြင်လတ်သော် သားရ[illegible]သနင်း ခြင်္သေ့မင်း၏ဟောက်သံကြောင့် ကြောက်ရွံ့နေကြရပုံကို သိနိုင်သကဲ့သို့ ကြောက်ရွံ့ထိတ်လန့် နေကြသော တိတ္ထိတို့ကို ရှုမြင်ရသဖြင့် ခြင်္သေ့မင်းကဲ့သို့ ရဲတင်းသော အသံတို့ဖြင့် ကြုံးဝါး၍

ဟောကြားတော်မူခဲ့သော ဘုရားရှင် ရှိတော်မူခဲ့ပုံကို သိနိုင်ပေ၏။

'မြက် သစ်ပင်များ စိမ်းစို၍ ရေတင်နေသော မြေပြင်ကို ရှုမြင်လတ်သော် မိုးကြီးရွာထားသောကြောင့် ဖြစ်ရပုံကို သိနိုင်သကဲ့သို့ လွန်စွာနှစ်သက် ဝမ်းမြောက်နေသော လူအပေါင်းကို ရှုမြင်ရသဖြင့် ဘုရားရှင်က တရားမိုးဖြင့် သွန်းတော်မူခဲ့၍ ဖြစ်ကြောင်းကို သိနိုင်ပေ၏။

'ရွှံ့ညွန်တို့ဖြင့် စိုစွတ်နေသော မြေအပြင်ကို ရှုမြင်လတ်သော် ဤနေရာ၌ ရေစီးကြောင်းတစ်ခု စီးဆင်းသွားခဲ့ပုံကို သိနိုင်သကဲ့သို့ တရားအမြိုက်ရည်ဖြင့် စိုစွတ်နေသော နတ်လူတို့ကို ရှုမြင်ရသဖြင့် ဘုရားရှင်၏ တရားရေစီးကြောင်းကြီး စီးဆင်းခဲ့ကြောင်းကို သိနိုင်ပေ၏။

'မွှေးပျံ့သော ပန်းရနံ့ကို ရှူရှိုက်ရလတ်သော် ဤပန်းတို့ လန်းလန်းဆွင့်ဆွင့် ပွင့်နေပုံကို သိနိုင်သကဲ့သို့ သီလတည်းဟူသော မွှေးရနံ့ကို ရှူရှိုက်ရသဖြင့် ထိုရနံ့၏တည်ရာ ဘုရားရှင်တည်းဟူသော ပန်းပွင့်ရှိတော်မူကြောင်းကို သိနိုင်ပေ၏။

'မင်းမြတ်၊ ဤသို့သဘောရှိသော ဥပမာ တစ်ရာဖြင့် လည်းကောင်း၊ ဥပမာတစ်ထောင်ဖြင့် လည်းကောင်း၊ ဘုရားရှင်၏စွမ်းအားကို ထုတ်ဆောင် ပြဆိုနိုင်ပေ၏။ မင်းမြတ်၊ ဥပမာအားဖြင့် ကျွမ်းကျင်လိမ္မာသော ပန်းကုံးသမားသည် ဆရာသမားများ၏ သွန်သင်ပြသချက်အရ လည်းကောင်း၊ မိမိကိုယ်တိုင် ကြိုးစားတီထွင်ချက်အရ လည်းကောင်း၊ အမျိုးအမည်စုံလှသော ပန်းပုံကြီးမှ ဆန်းကြယ်လှစွာသော ပန်းကုံးကို သီကုံးဘိသကဲ့သို့ ငါသည် ရှေးဆရာတို့၏ သွန်သင်ပြသချက်အရ လည်းကောင်း၊ ငါ၏ပညာစွမ်းဖြင့် လည်းကောင်း၊ ဘုရားရှင်၏ ကျေးဇူးဂုဏ်အနန္တ အစုအပုံမှ ဂုဏ်တော် ကျေးဇူးတော်တို့ကို ပန်းကုံးသဖွယ် သီကုံး၍ ပြဆိုခဲ့ပေပြီ'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အခြားသူတို့သည် ဘုရားရှင်၏ စွမ်းအားကို ဤသို့ အကြောင်း အမျိုးမျိုးပြ၍ ထုတ်ဆောင်ခြင်းငှာ ခဲယဉ်းလှပါပေ၏။ အလွန် ဆန်းကြယ်လှသော ပြဿနာကို ပြေလည်အောင် ဖြေရှင်းတော်မူသဖြင့် တပည့်တော်၏ စိတ်နှလုံးငြိမ်းချမ်းသွားရပါပေ၏'

## ၂။ ဓုတင်အကျင့်၌ မည်သို့သော ဂုဏ်ကျေးဇူး ရှိသနည်း

'အရှင်နာဂသေနဘုရား၊ အိမ်၌နေထိုင်၍၊ ကာမဂုဏ်ခံစား၍၊ သားမယားတို့ဖြင့် ကျဉ်းမြောင်းစွာ နေထိုင်၍၊ ကာသိတိုင်းဖြစ် အဝတ်ကောင်းများကိုဝတ်ဆင်၍၊ စန္ဒကူးနံ့သာ၊ နံ့သာပျောင်းတို့ကို လိမ်းကျံ၍၊ ပန်းပန်၍၊ ရွှေ၊ ငွေ ကိုင်တွယ်သုံးစွဲ၍၊ ပတ္တမြား၊ ပုလဲတို့ဖြင့် ဆန်းကြယ်သော ဦးသျှောင်ကိုထုံး၍ နေထိုင်လျက် လောဘ စသည်မှ အေးငြိမ်းရာ ပရမတ္ထနိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်သူ လူပုဂ္ဂိုလ်တစ်စုံတစ်ယောက် ရှိပါ၏လော'

'မင်းမြတ်၊ သိန်း၊ သန်း၊ ကုဋေမက မြောက်မြားစွာ ရှိကြပေကုန်၏'

'အရှင်ဘုရား၊ အိမ်၌နေထိုင်၍ ကာမဂုဏ်ခံစားသော လူပုဂ္ဂိုလ်သည် အေးငြိမ်းသော ပရမတ္ထနိဗ္ဗာန်ကို အကယ်၍ မျက်မှောက်ပြုနိုင်ပါလျှင် ဓုတင်အကျင့်ဖြင့် အဘယ်အကျိုး ရှိပါတော့ မည်နည်း။

'အရှင်ဘုရား၊ ဥပမာအားဖြင့် ဆေးဝါး မန္တရား တို့ဖြင့် မကုစားဘဲ အနာရောဂါ ပျောက်ပါလျှင် ပျို့အန်စေခြင်း၊ ဝမ်းလျှောစေခြင်း စသည်ဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ လက်သီးဖြင့် ရန်သူကို နှိမ်နင်းနိုင်ပါလျှင် သန်လျက်၊ လှံ၊ လင်းလေး၊ ဒူလေး၊ တုတ်၊ ဆောက်ပုတ်တို့ဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ သစ်ဖု၊ သစ်ကောက်၊ သစ်ခေါင်း၊ ဆူး၊ နွယ်၊ သစ်ခေါက်တို့ကိုကိုင်ဆွဲ၍ သစ်ပင်ပေါ်သို့ တက်နိုင်လျှင် ရှည်လျား၍ ခိုင်ခံ့သော လှေကားဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ မြေခံုထက်၌ အိပ်စက်၍ ဓာတ်လေးပါး ညီညွတ်နေပါလျှင် အိပ်ရာကောင်းကောင်းဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ တစ်ယောက်တည်းဖြင့် ကန္တာရခရီးကြမ်းကို ဖြတ်သန်း နိုင်ပါလျှင် လှည်းကုန်သည် တို့ဖြင့် အဘယ် အကျိုး ရှိပါတော့မည်နည်း။ မြစ်၊ ထုံးအိုင် တို့ကို လက်ပစ် ကူးနိုင်လျှင် တံတားဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ မိမိဥစ္စာကို စားသောက်နေထိုင်နိုင်လျှင် သူတစ်ပါးထံ ခစားနေခြင်းဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။ တူးမနေရသော တစ်ဖက်ဆည်ကန်မှ ရေ ရရှိနိုင်လျှင် ရေတွင်း ရေကန် တူးခြင်းဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း။

'အရှင်ဘုရား၊ ဤအတူသာပင် အိမ်၌ နေထိုင်၍ ကာမဂုဏ်ခံစားသော လူပုဂ္ဂိုလ်က အေးငြိမ်းသော ပရမတ္ထနိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ပါလျှင် ဓုတင်အကျင့်ဖြင့် အဘယ်အကျိုး ရှိပါတော့မည်နည်း'

## ဓုတင်၏ ဂုဏ်ကျေးဇူး နှစ်ဆယ့်ရှစ်ပါး

'မင်းမြတ်၊ အလုံးစုံသော ဘုရားရှင်တို့ အလေးအမြတ်ပြုအပ်ကုန်သော၊ လိုလားတော်င့်တ အပ်ကုန်သော ဓုတင်၏ ဂုဏ်ကျေးဇူးတို့သည် နှစ်ဆယ့်ရှစ်ပါး ရှိကြကုန်၏။ ထိုဂုဏ်ကျေးဇူး နှစ်ဆယ့်ရှစ်ပါးတို့ကား– အသက်မွေးမှု စင်ကြယ်ခြင်း၊ ချမ်းသာသော အကျိုးရှိခြင်း၊ အပြစ်ကင်းခြင်း၊ သူတစ်ပါးကို မဆင်းရဲစေခြင်း၊ ဘေးရန်ကင်းလွတ်ခြင်း၊ သူတစ်ပါးတို့ မနှိပ်စက် မညှဉ်းပန်းရခြင်း၊ ကုသိုလ်တရား တိုးပွားခြင်း၊ ကုသိုလ်တရား မဆုတ်ယုတ်နိုင်ခြင်း၊ မာယာမရှိခြင်း၊ ကိုယ်ကိုစောင့်ရှောက်ခြင်း၊ တောင့်တအပ်သောအကျိုးကို ပေးနိုင်ခြင်း၊ သတ္တဝါ အားလုံးကို ဆုံးမနိုင်ခြင်း၊ စောင့်ရှောက်နိုင်ခြင်း၊ သုံပေါ်ကောင်းနှင့်လျော်ကန်ခြင်း၊ သူတစ်ပါးကိုမမှီခိုရခြင်း၊ လာဘ်လာဘမက်မောမှု ကင်းလွတ်ခြင်း၊ ရာဂကုန်ခန်းလွယ်ခြင်း၊ ဒေါသကုန်ခန်းလွယ်ခြင်း၊ မောဟကုန်ခန်းလွယ်ခြင်း၊ မာနကိုပယ်စွန့်နိုင်ခြင်း၊ မကောင်းအကြံကို ပယ်ဖြတ်နိုင်ခြင်း၊ ယုံမှားမှုမှ လွတ်မြောက်နိုင်ခြင်း၊ ပျင်းရိမှုကို ဖျက်ဆီးနိုင်ခြင်း၊ မမွေ့လျော်မှုကို ပယ်ဖျောက်နိုင်ခြင်း၊

အရာရာ၌ သည်းခံနိုင်ခြင်း၊ အတုမရှိခြင်း၊ ယှဉ်ပြိုင်ဘက်ကင်းခြင်း၊ ဆင်းရဲကုန်ရာ နိဗ္ဗာန်သို့ ရောက်စေနိုင်ခြင်းတို့ပေတည်း'

## ဓုတင်ကျင့်သူ၏ ဂုဏ်ကျေးဇူးတစ်ဆယ့်ရှစ်ပါး

'မင်းမြတ်၊ ဓုတင်အကျင့်ကို ကျင့်သုံးသော သူတို့သည် တစ်ဆယ့်ရှစ်ပါးသော ဂုဏ်ကျေးဇူးတို့ကို ရရှိကြကုန်၏။ ထိုဂုဏ်ကျေးဇူး တစ်ဆယ့်ရှစ်ပါးတို့ကား- ဓုတင်ကျင့်သူ၏ ကျင့်ဝတ်စင်ကြယ်ခြင်း၊ ကျင့်ဝတ်ပြည့်စုံခြင်း၊ ကာယကံ၊ ဝစီကံတို့ကို ကောင်းစွာ စောင့်ရှောက်ပြီး ဖြစ်ခြင်း၊ ပီတိအလေ့အကျင့် ကောင်းစွာစင်ကြယ်ခြင်း၊ လုံ့လကိုကောင်းစွာ ချီးမြှောက်ခြင်း၊ ဘေးဥပဒ်ကင်းငြိမ်းခြင်း၊ အတ္တဒိဋ္ဌိ ကင်းငြိမ်းခြင်း၊ ရန်ငြိုးထားမှု လွတ်ကင်းခြင်း၊ မေတ္တာတရား ရှေ့ရှုထင်ရှားခြင်း၊ အစာအာဟာရကို ပိုင်းခြား ကန့်သတ်နိုင်ခြင်း၊ သတ္တဝါအားလုံး၏ အလေးအမြတ်ပြု ခံရခြင်း၊ ဘောဇဉ်၌ အတိုင်းအရှည်ကိုသိခြင်း၊ နိုးကြားမှုရှိခြင်း၊ စွဲလမ်း ထားစရာ ကျောင်းတိုက်တာဟူ၍ မရှိခြင်း၊ ချမ်းသာရာ အရပ်၌ နေနိုင်ခြင်း၊ မကောင်းမှုကို စက်ဆုပ်ခြင်း၊ ဆိတ်ငြိမ်ရာ၌ မွေ့လျော်ခြင်း၊ အမြဲမပြတ် မမေ့မလျော့ခြင်းတို့ ပေတည်း။ ဓုတင်အကျင့်ကို ကောင်းစွာမှီဝဲကျင့်သုံးကုန်သော ရဟန်းတို့သည် ဤဂုဏ်ကျေးဇူး တစ်ဆယ့်ရှစ်ပါးတို့နှင့် ပြည့်စုံကြပေကုန်၏'

## ဓုတင်ကျင့်ထိုက်သော ပုဂ္ဂိုလ် ဆယ်ယောက်

'မင်းမြတ်၊ တစ်ကျိပ်သော ပုဂ္ဂိုလ်တို့သည် ဓုတင်အကျင့်ကို ကျင့်ထိုက်ကုန်၏။ ထိုပုဂ္ဂိုလ် ဆယ်ယောက်တို့ကား- သဒ္ဓါတရားရှိသူ၊ မကောင်းမှုမှ ရှက်တတ်သူ၊ သမာဓိရှိသူ၊ သူတစ်ပါး အထင်ကြီးအောင် အံ့ဖွယ်သရဲ မပြုတတ်သူ၊ အကျိုးစီးပွားရရှိရေး၌ ကြိုးစားအားထုတ်သူ၊ မလျှပ်ပေါ်သူ၊ ကျင့်ဝတ်သိက္ခာကို လိုလားတောင့်တသူ၊ စွဲမြဲစွာဆောက်တည် ကျင့်သုံးသူ၊ သူတစ်ပါးကို မကဲ့ရဲ့တတ်သူ၊ မေတ္တာပွား၍ နေလေ့ရှိသူတို့ပေတည်း'

## ဓုတင်နှင့်ကင်းသော ရဟန္တာ မရှိပုံ

'မင်းမြတ်၊ ရှေးရှေး ဘဝများတုန်းက တစ်ဆယ့်သုံးပါးသော ဓုတင်အကျင့်အား ကျင့်ခဲ့ခြင်းကို ကြဉ်ထား၍ တစ်ဘဝတည်းဖြင့် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်သူ ဟူ၍ မရှိချေ။ မြင့်မြတ်သော လုံ့လဖြင့် အားထုတ်ခဲ့ခြင်း၊ မြတ်သောဓုတင်အကျင့်ကို ကျင့်ခဲ့ဖူးခြင်း၊ ထိုကဲ့သို့

အားထုတ်သော၊ ကျင့်သုံးသော ဆရာကောင်းထံ ဆည်းကပ်ရခြင်း၊ ထိုသို့သော အဆွေခင်ပွန်းကောင်းနှင့် ပေါင်းသင်းရခြင်း တို့ကြောင့်သာလျှင် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် တတ်ကျွမ်းသော လေးသမားအထံ၌ တပည့်တို့သည် လေးအတတ်မျိုးစုံကို သင်ယူရကုန်၏။ မြားပစ်လေ့ကျင့်ရာ တဲမဏ္ဍပ်အတွင်း၌ လေးကိုင်ပုံ၊ မြားတင်ပုံ၊ ခြေထားပုံ၊ ချိန်ရွယ်ပုံ၊ ပစ်ခတ်ပုံတို့ကို သင်ကြားရ၏။ မြက်ရုပ်၊ နွားချေးပုံ၊ မြက်ပုံ၊ ကောက်ရိုးပုံ၊ ပျဉ်ချပ်နှင့် မှတ်တိုင်ပေါက်တို့ကို အထပ်ထပ်အခါခါ ပစ်ခတ်ကြရကုန်၏။ ထိုတပည့်များထဲမှ အထူးချွန်ဆုံးသော တပည့်တစ်ယောက်သည် မင်းအထံ၌ လေးအတတ်ကို ပြသလေရာ မင်းက အားရနှစ်သက်စွာဆုချသဖြင့် အာဇာနည်မြင်းများ က သော ရထား၊ ဆင်၊ မြင်း၊ ဥစ္စာ၊ စပါး၊ ရွှေ၊ ငွေ၊ ကျွန်ယောကျ်ား၊ ကျွန်မိန်းမ၊ မယားနှင့် ရွာတည်းဟူသော ဆုတို့ကို ခံယူရရှိ၏။ ဥပမာ နောက်တစ်မျိုး အားဖြင့် ဆေးအတတ် သင်လိုသောသူသည် ဆေးဆရာကြီးအထံ၌ ဝတ်ကြီးဝတ်ငယ် ပြုစုကာ ဓားကိုနိုင်ပုံ၊ လှီးဖြတ်ပုံ၊ ခြစ်ဆွဲပုံ၊ ထိုးဖောက်ပုံ၊ ငြောင့်ကို ထုတ်ယူပုံ၊ အနာ ဖန်ဆေးပုံ၊ ပြည်ကို ခန်းခြောက်အောင်ပြုပုံ၊ ဆေးတင်ပုံ၊ ဆေးလိမ်းပုံ၊ ပျို့ဆေးပေးပုံ၊ ဝမ်းသက်ဆေးပေးပုံ၊ အသားနုတက်စေရန် ဆေးအုံပုံတို့ကို သင်ယူရ၏။ ဤသို့သင်ယူ၍ ဆေးအတတ် မျိုးစုံကို တတ်မြောက်ပြီးလျှင် ဆေးဆရာနှင့်အတူ လက်တွေ့ကုသပြီးသောအခါ လူနာထံသို့ သွားရောက်၍ မိမိ ကိုယ်တိုင် ဆေးကုသပေ၏။ ဆေးကုသ၍ ရရှိသော စည်းစိမ်ဥစ္စာတို့ဖြင့် ချမ်းသာစွာ နေထိုင် စားသောက်ရ၏။

မင်းမြတ်၊ ဤအတူသာပင် အိမ်၌နေ၍ ကာမဂုဏ်ကို ခံစားလျက် အေးငြိမ်းသော ပရမတ္ထ နိဗ္ဗာန်ကို မျက်မှောက် ပြုသူ အားလုံးတို့သည် ရှေးရှေးဘဝများတုန်းက တစ်ဆယ့်သုံးပါးသော ဓုတင်အကျင့်ကို ကျင့်သုံးခဲ့ကြဖူးသည်သာ ဖြစ်၏။ နိဗ္ဗာန်ရောက်ကြောင်း ကောင်းမှုကုသိုလ် ပြုခဲ့ကြဖူးသည်သာ ဖြစ်၏။ ထိုသူတို့သည် ရှေးရှေးဘဝက ကျင့်ခဲ့ဖူးသော ထိုဓုတင်အကျင့်ကို ဤဘဝ၊ ဤသာသနာတော်တွင် ဘုရားရှင်၏ တရားတော်ကို ကြားနာရခြင်းဖြင့် စင်ကြယ်သန့်ရှင်းအောင် သုတ်သင်ကာ နိဗ္ဗာန်ကို မျက်မှောက်ပြုကြကုန်၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ရေမလောင်းလျှင် မျိုးစေ့မှ အပင်မပေါက်နိုင်ပေ။ ကောင်းမှုကုသိုလ် မပြုလုပ်လျှင် သုဂတိဘုံသို့ မလာ ရောက်နိုင်ပေ။ ဤအတူသာပင် ဓုတင်အကျင့်ကို မကျင့်ခဲ့လျှင် သစ္စာလေးပါးကို ထိုးထွင်း၍ မသိနိုင်ပေ'

## ဓုတင်၏ ဥပမာများ

'မင်းမြတ်၊ ဓုတင်အကျင့်သည် နိဗ္ဗာန်လိုလားသူတို့၏ တည်ရာ ဖြစ်သောကြောင့် မြေကြီးနှင့်တူ၏။ နိဗ္ဗာန်လိုလားသူ တို့၏ ကိလေသာ အညစ်အကြေးကို ဆေးကြောတတ်သောကြောင့် ရေနှင့် တူ၏။ နိဗ္ဗာန်လိုလားသူတို့၏ ကိလေသာအနာကို ရှို့မြိုက် တတ်သောကြောင့် မီးနှင့်

တူ၏။ နိဗ္ဗာန် လိုလားသူတို့၏ ကိလေသာ မြူမှုန့်ကို မှုတ်လွှင့် တတ်သောကြောင့် လေနှင့် တူ၏။ နိဗ္ဗာန် လိုလားသူတို့၏ ကိလေသာအနာကို ပျောက်ကင်းစေတတ်သောကြောင့် အဆိပ်ဖြေဆေးနှင့် တူ၏။ နိဗ္ဗာန် လိုလားသူတို့၏ ကိလေသာ အဆိပ်ကို ဖျောက်တတ်သောကြောင့် အမြိုက်ရေစင်နှင့် တူ၏။ နိဗ္ဗာန်လိုလားသူတို့၏ မဂ်ဖိုလ်တည်း ဟူသော ကောက်ပင်၏ ပေါက်ရောက်ရှင်သန်ရာ ဖြစ်သောကြောင့် လယ်မြေနှင့်တူ၏။ နိဗ္ဗာန်လိုလားသူတို့အား တောင့်တတိုင်း တောင့်တတိုင်းသော လောကုတ္တရာ စည်းစိမ်ကို ပေးတတ်သောကြောင့် မနောမယပတ္တမြားနှင့် တူ၏။ နိဗ္ဗာန်လိုလားသူတို့အား သံသရာတည်းဟူသော မဟာသမုဒ္ဒရာ၏ ဟိုဘက်ကမ်းသို့ ရောက်စေတတ်သောကြောင့် လှေနှင့်တူ၏။ နိဗ္ဗာန်လိုလားသူတို့အား အို–နာ–သေ ဘေးတို့မှ သက်သာရာကို ပြတတ်သောကြောင့် ပုန်းအောင်းရာ ဌာနနှင့်တူ၏။ နိဗ္ဗာန် လိုလားကုန်သော ကိလေသာ ဆင်းရဲဖြင့် အနှိပ်စက်ခံနေရသူတို့အား အစဉ်ချီးမြှောက်တတ် သောကြောင့် မိခင်နှင့်တူ၏။ နိဗ္ဗာန်ကို လိုလားသော သူတို့အား မဂ်ဖိုလ်ကို ဖြစ်စေတတ် သောကြောင့် ဖခင်နှင့်တူ၏။ နိဗ္ဗာန်ကို လိုလားသူတို့အား ရဟန်း၏ဂုဏ်ကျေးဇူးကို မချွတ်မယွင်း ရရှိစေတတ်သောကြောင့် မိတ်ဆွေနှင့် တူ၏။ နိဗ္ဗာန် လိုလားသူတို့ကို ကိလေသာအညစ်အကြေးဖြင့် မလိမ်းကျံနိုင်သောကြောင့် ပဒုမ္မာကြာနှင့်တူ၏။ နိဗ္ဗာန်လိုလား သူတို့၏ ကိလေသာအနံ့ဆိုးကို ပယ်ဖျောက်နိုင်သောကြောင့် အမွှေးနံ့သာနှင့်တူ၏။ နိဗ္ဗာန်လိုလား သူတို့၏ လောကဓံတရားရှစ်ပါး တည်းဟူသော လေအဟုန်ကြောင့် မတုန်လှုပ်နိုင်သောကြောင့် မြင်းမိုရ်တောင်နှင့် တူ၏။

'နိဗ္ဗာန်လိုလားသူတို့အတွက် ကျယ်ဝန်းလှသောကြောင့် ကောင်းကင်နှင့် တူ၏။ နိဗ္ဗာန် လိုလားသူတို့၏ ကိလေသာအညစ်အကြေးတို့ကို မျောပါစေသောကြောင့် မြစ်နှင့်တူ၏။ နိဗ္ဗာန် လိုလားသူတို့အား ကိလေသာ တောအရှုပ်ထဲမှ ထွက်မြောက်စေသောကြောင့် လမ်းပြကောင်း နှင့် တူ၏။ နိဗ္ဗာန်ကို လိုလားသော သူတို့အား နိဗ္ဗာန်မြို့တော်ကြီးသို့ ပို့ဆောင်တတ်သောကြောင့် လှည်းမှူးကြီးနှင့် တူ၏။ နိဗ္ဗာန် လိုလားသူတို့အား သင်္ခါရသဘောကို ပြတတ်သောကြောင့် ကြေးမုံပြင်နှင့်တူ၏။ နိဗ္ဗာန်လိုလားသူတို့အား ကိလေသာဆောက်ပုတ်၊ ကိလေသာမြား၊ ကိလေသာ လှံတို့မှ ကာကွယ်ပေးတတ်သောကြောင့် ကာနှင့်တူ၏။ နိဗ္ဗာန် လိုလားသူတို့အား ကိလေသာမိုး၊ ကိလေသာနေပူတို့ကို တားမြစ်ပေးတတ်သောကြောင့် ထီးနှင့်တူ၏။ နိဗ္ဗာန်လိုလားသူတို့ကို ချစ်ခင်တောင့်တအပ်သောကြောင့် လနှင့်တူ၏။ နိဗ္ဗာန် လိုလားသူတို့၏ မောဟ အမိုက်တိုက်ကို ပယ်ဖျောက်တတ်သောကြောင့် နေနှင့်တူ၏။ နိဗ္ဗာန် လိုလားသူတို့အား များပြားလှစွာသော မဂ်ဖိုလ်ရတနာတို့ကို ပေးတတ်သောကြောင့် မဟာသမုဒ္ဒရာနှင့်တူ၏'

## ဓုတင်အကျိုးတရားများ

'မင်းမြတ်၊ ဤသို့လျှင် ဓုတင်အကျင့်သည် နိဗ္ဗာန် လိုလားသူတို့အား များစွာကျေးဇူးပြု၏။ ပူပန်ခြင်း၊ ပင်ပန်းခြင်း၊ မမွေ့လျော်ခြင်း၊ ကြောက်ရွံ့ခြင်း၊ ဘဝ၊ ငြောင့်တံသင်း၊ အညစ်အကြေး၊ စိုးရိမ်ပူဆွေးခြင်း၊ ဆင်းရဲခြင်း၊ ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိနှင့် အလုံးစုံသော အကုသိုလ်

တရားတို့ကို ပယ်ဖျောက်နိုင်၏။ အခြံအရံ အကျော်အစောနှင့် စီးပွားချမ်းသာတို့ကို ဆောင်ရွက်နိုင်၏။ ချမ်းသာစွာ နေရခြင်း၊ နှစ်သက်ခြင်း၊ ယောဂကုန်ခြင်းကိုပြုနိုင်၏။ အပြစ်မရှိသော ချမ်းသာခြင်း အကျိုးကို ပေးနိုင်၏။ မရေတွက်နိုင်သော ဂုဏ်ကျေးဇူးရှိ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် ကိုယ်ခန္ဓာအား အထောက်အပံ့ဖြစ်စေရန် ဘောဇဉ်ကို စားသောက်ကြရကုန်၏။ ကျန်းမာစွာ စီးပွားရှာဖွေနိုင်ရန် ဆေးကို မှီဝဲကြရကုန်၏။ ကျေးဇူးတရား ခံစားရန် မိတ်ဆွေကိုပေါင်းသင်းကြရကုန်၏။ မွေးသောရနံ့ကို နမ်းရှုနိုင်ရန် ပန်းနံ့သာကို လိမ်းကျံ ပန်ဆင်ကြရကုန်၏။ ဘေးရန်ကင်းစေရန် တားဆီးနိုင်သူကို မှီခိုကြရကုန်၏။ ရပ်တည်ရာရစေရန် မြေကြီးပေါ်မှာ နေကြရကုန်၏။ အတတ်ပညာ သင်ယူရန် ဆရာ့ထံ ချဉ်းကပ်ကြရကုန်၏။ အခြံအရံ အကျော်အစောရစေရန် မင်းထံ ခစားကြရကုန်၏။ အလိုရှိရာ ရနိုင်စေရန် ပတ္တမြားရတနာကို အသုံးပြုကြရကုန်၏။ ဤအတူသာပင် မဂ်တရား၊ ဖိုလ်တရားကို ရနိုင်စေရန် ခုတင်အကျင့်ကို ကျင့်ကြရကုန်၏။

'မင်းမြတ်၊ ဥပမာတစ်မျိုးအားဖြင့် ရေသည် မျိုးစေ့မှအပင်ပေါက်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် ကုသိုလ်ကံမျိုးစေ့မှ မဂ်ပင် ဖိုလ်ပင် ပေါက်လာခြင်းငှာ ဖြစ်၏။ မီးသည် လောင်ကျွမ်းခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် ကိလေသာအညစ်အကြေးကို လောင်ကျွမ်းစေခြင်းငှာ ဖြစ်၏။ အစားအစာသည် ခွန်အားတိုးစေခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် တန်ခိုးစွမ်းအား တိုးပွားစေခြင်းငှာ ဖြစ်၏။ နွယ်ပင်သည် ဖွဲ့နှောင်ချည်တုပ်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် သတိသံဝရကို မြဲမြံစွာ ဖွဲ့နှောင်ချည်တုပ်ခြင်းငှာ ဖြစ်၏။ ဓားသည် ခုတ်ဖြတ်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် တွေးတောမှု၊ မဝေခွဲနိုင်မှုကို ဖြတ်တောက်ခြင်းငှာ ဖြစ်၏။ သောက်ရေသည် မွတ်သိပ်ခြင်းကို ဖြေဖျောက်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် တဏှာတည်းဟူသော မွတ်သိပ်ခြင်းကို ဖြေဖျောက်ရန်ဖြစ်၏။ ရွှေအိုးသည် အသက်မွေးမှုသက်သာစေခြင်းငှာ ဖြစ်သကဲ့သို့ သစ္စာလေးပါး ထိုးထွင်းသိခြင်းဖြင့် သက်သာစေခြင်းငှာ ဖြစ်၏။ လှေသည် ကမ်းတစ်ဖက်သို့ရောက်စေခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် ဩဃလေးပါးမှ လွတ်မြောက်ခြင်းငှာဖြစ်၏။ ဆေးသည်အနာကို ငြိမ်းစေခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် ကိလေသာအနာကို ငြိမ်းစေခြင်းငှာဖြစ်၏။ ယာဉ်သည် အသွားအလာကို ချမ်းသာစေခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် နိဗ္ဗာန်ချမ်းသာကို ရစေခြင်းငှာ ဖြစ်၏။

'ကိုးကွယ်ရာပုဂ္ဂိုလ်သည် ကြောက်လန့်ခြင်း ပယ်ဖျောက်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် ဇာတိစသော အကျင့်တို့ကို ပယ်ဖျောက်ခြင်းငှာ ဖြစ်၏။ မင်းသည် လူအများကို စောင့်ရှောက်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် မဂ်ဖိုလ်ကို စောင့်ရှောက်ခြင်းငှာ ဖြစ်၏။ ကာသည် တုတ်၊ ခဲ၊ ဆောက်ပုတ်၊ မြား၊ လှံတို့ကို တားမြစ်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် မမွေ့လျော်မှု၊ မကောင်းသော အကြံအစည်တို့ကို တားမြစ်ခြင်းငှာ ဖြစ်၏။ ဆရာသည် ဆုံးမသွန်သင်ခြင်းငှာ ဖြစ်သကဲ့သို့ ခုတင်သည် မဂ်ဖိုလ်ဟူသော အကျိုးပြု၍ ဆုံးမခြင်းငှာ ဖြစ်၏။ အမိသည်

ကျွေးမွေးသုတ်သင်ခြင်းငှာ ဖြစ်သကဲ့သို ဓုတင်သည် မဂ်ဖိုလ်ဟူသော ဂုဏ်ကျေးဇူးတို့ကို မွေးမြူခြင်းငှာ ဖြစ်၏။ ကြေးမုံပြင်သည် ကြည့်ရှုခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် သမထ၊ ဝိပဿနာ၊ မဂ်ဖိုလ်တို့ကို ရှုမြင်ခြင်းငှာ ဖြစ်၏။ အဆင်းတန်ဆာတို့သည် တင့်တယ်စေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် လူအပေါင်းတို့၏ ချီးကျူးမှုကိုခံယူ၍ တင့်ကယ်စေခြင်းငှာ ဖြစ်၏။ အဝတ်သည် အရှက်ကို ဖုံးကွယ်စေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် အပါယ်လေးပါးကို ဖုံးကွယ်တားမြစ်စေရန် ဖြစ်၏။ လှေကားသည် အမြင့်သို့ တက်ရန် ဖြစ်သကဲ့သို့ ဓုတင်သည် မဂ်ဖိုလ်တည်းဟူသော တောင်ထိပ်သို့ တက်နိုင်စေရန် ဖြစ်၏။

'ချိန်ခွင်သည် မညီမျှသည်ကို ပယ်ရှားခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် ကောက်ကျစ်တွန့်လိမ်၍ မညီညွတ်သောစိတ်ကို ပယ်ဖျောက်ရန် ဖြစ်၏။ မန္တရားသည် ဖန်းမှုတ်ခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် မှီဝဲအပ်သော တရားနှင့် မမှီဝဲအပ်သောတရားတို့ကို ကောင်းစွာ ရွက်ဖတ်သရဇ္ဈာယ်ခြင်းငှာ ဖြစ်၏။ လက်နက်သည် ခိုးမ်းခြောက်ခြင်းကို တားမြစ်ခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် ကိလေသာရန်သူ၏ ခြိမ်းခြောက်ခြင်းကို တားမြစ်ခြင်းငှာ ဖြစ်၏။ ဆီမီးသည် အမိုက်တိုက်ကို ပယ်ခြင်းဖြစ်သကဲ့သို့ ဓုတင်သည် အဝိဇ္ဇာအမိုက်တိုက်ကို ပယ်ဖျောက်ခြင်းငှာ ဖြစ်၏။ လေသည် ပူအိုက်ခြင်းကို ငြိမ်းစေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် သုံးမျိုးသောမီးဖြင့် ပူလောင်ခြင်းကို ငြိမ်းစေခြင်းငှာ ဖြစ်၏။ အတတ်ပညာသည် အသက်မွေးမှုကို ပြည့်စုံစေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် နူးညံ့သိမ်မွေ့၍ ငြိမ်သက်သော သမာပတ်ကို ပြည့်စုံခြင်းငှာဖြစ်၏။ ဆေးသည် အသက်ကို စောင့်ရှောက်ခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် မဂ်ဖိုလ်ကို စောင့်ရှောက်ခြင်းငှာ ဖြစ်၏။ သတ္တုတွင်းသည် ရတနာကို ထွက်ပေါ်စေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် ဗောဇ္ဈင်ရတနာကို ထွက်ပေါ်စေခြင်းငှာ ဖြစ်၏။ ရတနာသည် တန်ဆာဆင်ခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် ယောဂီပုဂ္ဂိုလ်ကို တန်ဆာဆင်ခြင်းငှာ ဖြစ်၏။ အာဏာသည် မကျူးလွန်စေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် ငြိမ်းအေးသော နိဗ္ဗာန်ချမ်းသာကို မကျော်လွန်စေရန် ဖြစ်၏။ အစိုးရသည် အလိုသို့ လိုက်ပါစေခြင်းငှာ ဖြစ်သကဲ့သို့ ဓုတင်သည် မဂ်ဖိုလ်ဟူသော အရိယာဓမ္မ၏အလိုသို့ လိုက်ပါစေခြင်းငှာဖြစ်၏။ မင်းမြတ်၊ ဤသို့ ဆိုလျှင် ဓုတင်ဟူသော ဂုဏ်ကျေးဇူးသည် အတုမရှိ။ မြင့်မြတ်လှပေ၏'

## ဓုတင် အကျင့်နှင့် မထိုက်တန်သူ

'မင်းမြတ်၊ ဥပမာအားဖြင့် မင်းအဖြစ်နှင့် မထိုက်တန်သော၊ အမျိုးယုတ်ညံ့သော သူသည် မင်းအဖြစ်နှင့် မိမိကိုယ်ကို အဘိသိက်သွန်းငြားအံ့။ ထိုသူသည် လောကစည်းစိမ် ဥပဒေကို ဖောက်ဖျက်သောကြောင့် အမျိုးမျိုးသော ညှဉ်းပန်းနှိပ်စက်ခြင်းဖြင့် နှိပ်စက်ညှဉ်းပန်း၍ အသတ်ခံရ၏။

၃၀၈ ဤအတူသာပင် ဝမ်းရေးကိုငဲ့ကွက်သော၊ လာဘ်လာဘကို တပ်မက်သော၊ အခြံအရံ

အကျော်အစောကို အလိုရှိသော၊ လူအထင်ကြီးအောင် အံ့ဖွယ်သရဲကို ပြုတတ်သော၊ ဓုတင်အကျင့်နှင့် မထိုက်တန်သောသူသည် ဓုတင်အကျင့်ကို ဆောက်တည်၍ ကျင့်သုံးဟန်ဆောင်ငြားအံ့။ ထိုသူသည်ပစ္စုပ္ပန်၊ တမလွန် နှစ်ဌာနလုံး၌ အပြစ်ဒဏ်ခံစားရ၏။ ပစ္စုပ္ပန်ဘဝ၌ကဲ့ရဲ့ရှုတ်ချခံရ၏။ ပြက်ရယ်ပြောင်လှောင် ခံရ၏။ သံဃာ့ဘောင်မှ နှင်ထုတ်ခြင်းခံရ၏။ တမလွန်ဘဝ၌ နှစ်ပေါင်းကုဋေ သိန်းပေါင်းများစွာ ငရဲကျခံနေရ၏။ ငရဲမှ လွတ်ပြန်သော် အမျိုးမျိုးအဖုံဖုံ ပျက်စီးချွတ်ယွင်းသော ကိုယ်ခန္ဓာဖြင့် နာကျင်စွာအော်မြည်နေရသော ရဟန်းပြိတ္တာ ဖြစ်ရ၏'

## ဓုတင် အကျင့်နှင့် ထိုက်တန်သူ

'မင်းမြတ်၊ ဥပမာအားဖြင့် မင်းအဖြစ်နှင့် ထိုက်တန်သော၊ မင်းမျိုးမင်းနွယ်မှ ဖွားမြင်လာ၍ မင်းတို့၏ အဘိသိက်သွန်းခြင်းဖြင့် သွန်းလောင်းအပ်ပြီးသောမင်းအား တိုင်းသူပြည်သားများ၊ မင်းအမှုထမ်းများ၊ အနုပညာရှင်များက ခစားကြရကုန်၏။ နှုတ်မင်္ဂလာကို ထုတ်ဆိုကုန်လျက် သာယာနာပျော်ဖွယ်ရာ ကဗျာလင်္ကာတို့ဖြင့် သီဆိုကျူးရင့်ကြကုန်၏။ ဤအတူသာပင် ဝမ်းရေးကို မငဲ့ကွက်သော၊ လာဘ်လာဘကို မမက်မောသော၊ အခြံအရံအကျော်အစောကို အလိုမရှိသော၊ လူအထင်ကြီးအောင် အံ့ဖွယ်သရဲကို မပြုတတ်သော၊ ဓုတင်အကျင့်နှင့်ထိုက်တန်သော သာသနာတော်ကိုယုံကြည်၍ ရဟန်းပြုသောပုဂ္ဂိုလ်သည် သာသနာတော်ကို ချီးမြှောက်ခြင်းငှာ ဓုတင်ကို ဆောက်တည်ကျင့်သုံး၏။ ဓုတင်နှင့်ထိုက်သော ထိုပုဂ္ဂိုလ်အား သတိပဋ္ဌာန်လေးပါး၊ သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ အရိယာမဂ္ဂင်ရှစ်ပါးတို့ ပွားများပြည့်စုံကြကုန်၏။ သမထဝိပဿနာတို့ကို ရ၏။ မဂ်ဖိုလ်ရကြောင်း ကျင့်ဝတ်သည် ရင့်ကျက်၏။ မဂ်လေးပါး၊ ဖိုလ်လေးပါး၊ ပဋိသမ္ဘိဒါလေးပါး၊ ဝိဇ္ဇာဉာဏ်သုံးပါး၊ အဘိညာဉ်ခြောက်ပါးနှင့်တကွ ရဟန်းတရား အားလုံးတို့ ရှေးရှုတည်လာကြကုန်၏။ အရဟတ္တဖိုလ် တည်းဟူသော ထီးဖြူဖြတ်ဖြင့် အဘိသိက်သွန်းခြင်းကို ခံယူ၏'

## ဓုတင်တစ်ဆယ့်သုံးပါး

'မင်းမြတ်၊ ရူပဈာန်လေးပါး၊ အရူပဈာန်လေးပါး၊ သမာပတ်ရှစ်ပါး၊ အဘိညာဉ် ခြောက်ပါးနှင့် တကွ အရဟတ္တဖိုလ်သို့ ရောက်စေနိုင်သော ဓုတင်အကျင့် ဆယ့်သုံးပါး ရှိကုန်၏။ ထိုတစ်ဆယ့်သုံးပါးတို့ကား– ပံသုကူလ၊ တိစီဝရိက၊ ပိဏ္ဍပါတိက၊ သပဒါနစာရိက၊ ဧကာသနိက၊ ပတ္တပိဏ္ဍိက၊ ခလုပစ္ဆာဘတ္တိက၊ အာရညိကင်္ဂ၊ ရုက္ခမူလိက၊ အဗ္ဘောကာသိက၊ သောသာနိက၊ ယထာသန္ထတိ၊ နေသဇ္ဇိက ဟို့ဒပတည်း။

'မင်းမြတ်၊ ဥပမာအားဖြင့် ဥစ္စာရှိသော လေှသူကြီးသည် ဆိပ်ကမ်း၌ အခွန်တော် ပေးဆောင် ပြီးပြီဖြစ်၍ မဟာသမုဒ္ဒရာသို့ သွက်ဝင်ကာ ဝင်္ဂတိုင်း၊ တက္ကောလတိုင်း၊ စိန့်တိုင်း၊ သောဝီရတိုင်း၊

သုရဋ္ဌတိုင်း၊ အလသန္ဒကျွန်း၊ ကောလဆိပ်ကမ်း၊ သုဝဏ္ဏဘူမိ အရပ်တို့ကို လွတ်လပ်စွာ သွားလာ၍ ကူးသန်းရောင်းဝယ်၏။ လေ့သွား၍ ရနိုင်သမျှသော အရပ်တို့ကို အဆီးအတားမရှိ သွားလာနိုင်၏၊ ဥပမာ တစ်နည်းအားဖြင့် လယ်သမားသည် မြက်၊ သစ်ငုတ်၊ ကျောက်ခဲတို့ကို ရှေးဦးစွာ ပယ်ထုတ်ပြီးလျှင် ကောင်းမွန်စွာ ထွန်ယက်၍ စိုက်ပျိုး၏။ ရေကောင်းကောင်း သွင်းကာ လုံခြုံအောင် စောင့်ရှောက်ထား၏။ အချိန်တန်သောအခါ ကောက်ပင်များကို ရိတ်၍ နယ်၍ စပါးများစွာကို ရရှိ၏။ ဥပမာ နောက်တစ်မျိုးအားဖြင့် အမျိုးဇာတ်မြင့်မြတ်၍ အဘိသိက်သွန်းပြီးသော မင်းသည် လူအပေါင်းကို အစိုးရ၏။ လူအပေါင်းကို မိမိအလိုသို့ လိုက်စေနိုင်၏။ တိုင်းနိုင်ငံနှင့်အမျှသော မြေအပြင်သည် ထိုမင်းထံ ဆိုက်ရောက်ရ၏။ ဤအတူသာပင် ရှေးဘဝကမှီဝဲခဲ့ကုန်သော၊ အဖန်ဖန်အထပ်ထပ် အလေ့အလာ ပြုအပ်ကုန်သော ဤဓုတင် အကျင့်တို့ဖြင့် အရိယာသာဝကသည် အလုံးစုံသော ရဟန်းတို့၏ ဂုဏ်ကျေးဇူးကိုရပေ၏'

## အရှင်ဥပသေန၏ ဓုတင် ဂုဏ်ကျေးဇူး

'မင်းမြတ်၊ ဝင်္ဂန္တ ပုဏ္ဏား၏ သားဖြစ်သော အရှင်ဥပသေနသည် မိမိ၏ပရိသတ်နှင့်တကွ ဘုရားရှင်ထံဆည်းကပ်ရန်လာခဲ့၍ ထိုအချိန်၌ ဘုရားရှင်သည် တစ်ပါးတည်း ကိန်းအောင်း တော်မူနေရာ သံဃာများက ဘုရားရှင်ထံ ဆွမ်းတော်၊ ရေတော် ဆက်ကပ်သော ရဟန်းမှတစ်ပါး အခြားရဟန်းကို ဘုရားရှင်ထံ မဝင်ရောက်ရ။ ဝင်ရောက်သော် ပါစိတ်အာပတ်ကို ဒေသနာကြားရမည် ဟူ၍ ကတိဝတ်ပြုထားကြ၏။ အရှင်ဥပသေနသည် ထိုကတိကဝတ်ကို မလိုက်နာဘဲ မိမိ၏ ပရိသတ်နှင့်တကွ ဘုရားရှင်ထံဝင်ရောက်၍ ဦးချရှိခိုး၏။ ဤတွင် ဘုရားရှင်က ဥပသေန၊ သင်၏ပရိသတ်သည် ကြည်ညိုဖွယ်ရှိပေစွတကား။ သင်သည် သင်၏ပရိသတ်ကို မည်သို့ဆုံးမ သွန်သင်ထားသနည်းဟု မေးမြန်းတော်မူ၏။

'ဤတွင် အရှင်ဥပသေနက အရှင်ဘုရား၊ တစ်စုံတစ်ယောက်သောသူသည် တပည့်တော်ထံ လာရောက်၍ ရဟန်းခံရန်၊ နိဿရည်းယူရန်လျှောက်ထားပါလျှင် တပည့်တော်က ဤသို့ ပြောပြပါသည်။ (ငါ့ရှင်၊ ငါသည် အာရညကင် ဓုတင် ဆောက်တည်၏။ ပိဏ္ဍပါတ် ဓုတင် ဆောက်တည်၏။ ပံသုကူ ဓုတင် ဆောက်တည်၏။ တိစီဝရိတ် ဓုတင် ဆောက်တည်၏။ သင်သည်လည်း ငါကဲ့သို့ ဆောက်တည်နိုင်လျှင် သင့်အားရဟန်းပြုပေးအံ့။ နိဿရည်းပေးအံ့) ဟူ ပြောပြပါသည်။ ဤသို့ ပြောပြသည်ကို လက်ခံသောသူများကို ရှင်ရဟန်း ပြုပေးပါ၏။ နိဿရည်းပေးပါဟု လျှောက်ထား၏။

'မင်းမြတ်၊ ဤသို့လျှင် ဓုတင်အကျင့် ဆောက်တည်သော ရဟန်းသည် ဤသာသနာတော်၌ သူတစ်ပါးကို မိမိအလိုသို့ လိုက်စေနိုင်၏။ အရှင်သခင် ဖြစ်၏။ သိမ်မွေ့ချမ်းသာသော သမာပတ်တို့သည် ထိုရဟန်းနှင့် ဆက်စပ်ကြကုန်၏'

## ဓုတင်၏ ဂုဏ်ကျေးဇူး သုံးဆယ်

'မင်းမြတ်၊ ဤတစ်ဆယ့်သုံးပါးသော ဓုတင်တို့ဖြင့် အရိယာ သာဝကသည် သုံးဆယ်သော ဂုဏ်ကျေးဇူးတို့နှင့် ပြည့်စုံပေ၏။ ထိုဂုဏ်ကျေးဇူးသုံးဆယ်တို့ကား- မေတ္တာစိတ်ရှိသူဖြစ်ခြင်း၊ ကိလေသာတို့ကို ဖျက်ဆီးနိုင်ခြင်း၊ မာန်ထောင်လွှားခြင်းကို ပယ်နိုင်ခြင်း၊ မတုန်လှုပ်သော သဒ္ဓါတရားရှိခြင်း၊ သိမ်မွေ့ချမ်းသာသော သမာပတ် ကိုရရှိခြင်း၊ သီလတည်းဟူသော မွှေးရနံ့ သင်းပျံ့ခြင်း၊ နတ် လူတို့ ချစ်မြတ်နိုးခြင်း၊ ရဟန္တာ ပုဂ္ဂိုလ်တို့၏ တောင့်တခံရခြင်း၊ နတ်လူတို့ ရှိခိုး ပူဇော် ခံရခြင်း၊ ပညာရှိသူတို့က ချီးမွမ်းရခြင်း၊ လူ့ပြည် နတ်ပြည် ဗြဟ္မာ့ပြည် တို့နှင့် မလိမ်းကျံ မကပ်ငြိခြင်း၊ ကိုပြီးစေနိုင်ခြင်း၊ တောင့်တအပ်သော ပစ္စည်းကိုရခြင်း၊ ကျောင်း အိပ်ရာ နေရာဟူ၍ စွဲမြဲစွာ သတ်မှတ်ထားမှု မရှိခြင်း၊ ဈာန်ဝင်စား၍ နေနိုင်ခြင်း၊ ကိလေသာ ကွန်ရက်ကို ဖြေရှင်းနိုင်ခြင်း၊ ကောက်ကွေး ဖုံးလွှမ်းသောဂတိနှင့် နီဝရဏတို့ကို ဖြတ်တောက် ဖျက်ဆီးနိုင်ခြင်း၊ မပျက်စီးသော သဘောရှိခြင်း၊ လိုလားတောင့်တအပ်သော အရဟတ္တဖိုလ် အကျိုးကို ရရှိခြင်း၊ မဂ်တရား, ဖိုလ်တရားကို သိမြင်ခြင်း၊ အနုသယကို ပိုင်းဖြတ်နိုင်ခြင်း၊ အာသဝလေးပါး ကုန်ရာသို့ ရောက်ခြင်း၊ အေးမြ ချမ်းသာသော သမာပတ်ကို ဝင်စား၍ နေနိုင်ခြင်း၊ ရဟန်း၏ ဂုဏ်ကျေးဇူးအပေါင်းနှင့် ပြည့်စုံခြင်းတို့ ဖြစ်ကြပေ၏'

## အရှင်သာရိပုတ္တရာ၏ ဓုတင် ဂုဏ်ကျေးဇူး

'မင်းမြတ်၊ အရှင်သာရိပုတ္တရာသည် တစ်သောင်းသော လောကဓာတ်၌ ဘုရားရှင်မှလွဲလျှင် အမြတ်ဆုံးပုဂ္ဂိုလ် မဟုတ်ပါလော။ ထိုအရှင်သာရိပုတ္တရာသည် ကမ္ဘာပေါင်းမြောက်မြားစွာ ပါရမီကုသိုလ် ဆည်းပူးခဲ့၏။ နောက်ဆုံးဘဝတွင် မြင့်မြတ်သော ပုဏ္ဏားမျိုး ဖြစ်ပါလျက် နှစ်ခြိုက်ဖွယ်ရာ ကာမဂုဏ်မျိုးစုံနှင့် ပစ္စည်းဥစ္စာအများအပြားကို စွန့်လွှတ်၍ သာသနာတော်၌ ရဟန်းပြုပြီးလျှင် ဤဓုတင် တစ်ဆယ့်သုံးပါးတို့ကို ဆောက်တည်ကျင့်သုံးကာ ကိုယ် နှုတ် စိတ် တို့ကို စောင့်စည်းခဲ့သဖြင့် ယခုထက်တိုင် ထိုအရှင်မြတ်ကြီးသည် အဆုံးမရှိသော ဂုဏ်ကျေးဇူး တို့ဖြင့်ထင်ရှား ကျော်စောတော်မူပေ၏'

'အရှင်ဘုရား၊ ကောင်းလှပါပေ၏။ အင်္ဂါကိုးပါးရှိသော ဘုရားဟော ဒေသနာတော်သည် လည်းကောင်း၊ လောကုတ္တရာရေးအတွက် ကျင့်သုံးဖွယ်သည် လည်းကောင်း၊ လောကီ စည်းစိမ်ချမ်းသာ အမျိုးမျိုးတို့သည် လည်းကောင်း တစ်ဆယ့်သုံးပါးသော ဤဓုတင်အကျင့်တို့၌ စုပေါင်း၍ ဆိုက်ရောက်ကြပါကုန်၏'

[ဓုတင်အကျင့်၏ ဂုဏ်ကျေးဇူးတို့ကို တခမ်းတနား ချီးကျူးထားသည် အားလျော်စွာ ဓုတင်ဆယ့်သုံးပါး ဆောက်တည်ပုံများကို အခြားကျမ်းတို့မှ ထုတ်နုတ်၍ ပါဠိမြန်မာ နှစ်ဘာသာတို့ဖြင့် ဖော်ပြလိုက်ပေ၏။

၁။ ပံသုကူစုတင်။ ။ ဂဟပတိစီဝရံ ပဋိက္ခိပါမိ။ ပံသုကူလိကင်္ဂ သမာဒိယာမိ။ ဒါယကာတို့ လှူဒါန်းသော သင်္ကန်းကောင်းကို ပယ်ပါ၏။ မြေမှုန့် အလိမ်းလိမ်း ကပ်နေသော အဝတ်စုတ်ကို ကောက်ယူ ချုပ်စပ်ထားသော ပံသုကူသင်္ကန်း ဝတ်ရုံခြင်းတည်း ဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၂။ တိစီဝရိက်စုတင်။ ။စတုတ္ထစီဝရံပဋိက္ခိပါမိ။ တေစီဝရိ ကင်္ဂသမာဒိယာမိ။ လေးထည်မြောက်သော သင်္ကန်းကို ပယ်ပါ၏။ ဒုကုဋ်၊ ကေသီ၊ သင်းပိုင် တည်းဟူသော သင်္ကန်း သုံးထည်သာ ဆောင်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၃။ ပိဏ္ဍပါတ်စုတင်။ ။အတိရေကလာဘံ ပဋိက္ခိပါမိ၊ ပိဏ္ဍပါတိကင်္ဂ သမာဒိယာမိ။ ဆွမ်းခံ၍ ရသမျှထက် ကျော်လွန်သောလာဘ်ကို ပယ်ပါ၏။ ဆွမ်းခံ၍ စားသောက်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၄။ သပဒါနစုတင်။ ။ လောလုပ္ပစာရံ ပဋိက္ခိပါမိ။ သပဒါနစာရိကင်္ဂ သမာဒိယာမိ။ လျှပ်ပေါ်လော်လည်စွာ အိမ်ကျော်၍ ဆွမ်းခံခြင်းကို ပယ်ပါ၏။ တစ်နေရာတည်း၊ တစ်ထိုင်တည်း၌ စားသောက်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၅။ ဧကာသနိက်စုတင်။ ။နာနာသနဘောဇနံ ပဋိက္ခိပါမိ။ ဧကာသနိကင်္ဂ သမာဒိယာမိ။ အထူးထူးသော နေရာ၌ စားသောက်ခြင်းကို ပယ်ပါ၏။ တစ်နေရာတည်း။ တစ်ထိုင်တည်း ၌စားသောက်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၆။ ပတ္တပိဏ်စုတင်။ ။ဒုတိယဘာဇနံပဋိက္ခိပါမိ။ ပတ္တပိဏ္ဍိကင်္ဂ သမာဒိယာမိ။ နှစ်ခုမြောက်သော ခွက်၌ စားသောက်ခြင်းကို ပယ်ပါ၏။ သပိတ်ထဲမှာ ရှိသမျှဆွမ်းကို စားသောက်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၇။ ခလုပစ္ဆာဘတ္တိကစုတင်။ ။အတိရိတ္တဘောဇနံပဋိက္ခိပါမိ။ ခလုပစ္ဆာဘတ္တိကင်္ဂ သမာဒိယာမိ။ အတိရိက်ဝိနည်း ပြုပြီးသောဆွမ်းကို ပယ်ပါ၏။ အတိရိက် ပြုပြီးနောက်မှ ရရှိသောဆွမ်းကို ဝိနည်းကံဖြင့် အပ်စပ်အောင်ပြု၍ မစားသောက်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၈။ အာရညကင်စုတင်။ ။ဂါမန္တသေနာသနံပဋိက္ခိပါမိ။ အရညိကင်္ဂ သမာဒိယာမိ။ ဥပစာနှင့်တကွသော ရွာနားကျောင်းကို ပယ်ပါ၏။ တောထဲ၌ အရဏ်တက်စေခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၉။ ရုက္ခမူစုတင်။ ။ဆန္နံပဋိက္ခိပါမိ။ ။ရုက္ခမူလိကင်္ဂ သမာဒိယာမိ။ အုတ်အစ ရှိသော ငါးမျိုးသော အမိုးကိုပယ်ပါ၏။ သစ်ပင်ရင်း၌ နေထိုင်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၁၀။ အဗ္ဘောကာသိကစုတင်။ ။ဆန္နဉ္စရုက္ခမူလဉ္စ ပဋိက္ခိပါမိ။ အဗ္ဘောကာသိကင်္ဂ သမာဒိယာမိ။ အမိုးကို လည်းကောင်း၊ သစ်ပင်ရင်းကို လည်းကောင်း ပယ်ပါ၏။ ဟင်းလင်းပြင် နေထိုင်ခြင်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၁၁။ သောသာနိကစုတင်။ ။နသုသာနံပဋိက္ခိပါမိ။ သောသာနိကင်္ဂ သမာဒိ ယာမိ။ သုသာန်လက္ခဏာမရှိသော နေရာကိုပယ်ပါ၏။ သုသာန်လက္ခဏာရှိသော အရပ်၌ နေထိုင်ခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၁၂။ ယထာသန္ထတိစုတင်။ ။သေနာသနလောလုပ္ပံ ပဋိက္ခိပါမိ။ ယထာသန္ထတိကင်္ဂ သမာဒိယာမိ။ ရဟန်းတစ်ပါးကို နေရာမှ ထစေခြင်း၊ တိုးဝှေ့၍အိပ်ခြင်း စသောအိပ်ရာ နေရာ၌ လျှပ်ပေါ်လော်လည်ခြင်းကို ပယ်ပါ၏။ မိမိအတွက် ကျရောက်သော နေရာ၌ နေထိုင်ခြင်းတည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။

၁၃။ နိသဇ္ဇိစုတင်။ ။သေယျံပဋိက္ခိပါမိ။ နေသဇ္ဇိကင်္ဂ သမာဒိယာမိ။ အိပ်ခြင်းကို ပယ်ပါ၏။ ထိုင်လျက်သားနေခြင်း တည်းဟူသော အင်္ဂါကို ဆောက်တည်ပါ၏။]



# အခန်း ၆

# ဩပမ္မကထာပဉ္ဉာ

တောင်ဟူသည်မှာ ရွေ့လျားနိုင်ခြင်း၊ ယိမ်းယိုင်ခြင်း၊ တုန်လှုပ်ခြင်း မရှိပေ။ ယောဂီပုဂ္ဂိုလ်သည်လည်း လောကဓံ တရားတို့နှင့် ကြုံတွေ့ရသည်ရှိသော် မိမိ၏ စိတ်အာရုံကို မရွေ့လျားစေရာ၊ မယိမ်းမယိုင်စေရာ၊ မတုန်လှုပ်စေရာ။

တောင်ထိပ်၌ ရှိသော သူသည် တောင်အောက်မြေပြင်၌ ရှိနေသူတို့ကို ကြည့်နိုင် မြင်နိုင်၏။ ပညာရှိသော ယောဂီပုဂ္ဂိုလ်သည် ပညာဉာဏ်တည်းဟူသော တောင်ထွတ်သို့တက်၍ တွေဝေမိုက်မဲလျက်ရှိသူတို့၏ ဖြစ်ပုံပျက်ပုံ အလုံးစုံကို ကြည့်မြင်နိုင်ပေ၏။




## ၁။ မြည်း၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ အဘယ်မျှသော အင်္ဂါဖြင့်ပြည့်စုံသော ရဟန်းသည် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်ပါသနည်း'

'မင်းမြတ်၊ ဤသာသနာတော်၌ အရဟတ္တဖိုလ်ကို မျက်မှောက်ပြုလိုသော ရဟန်းသည် မြည်း၏ ဤ အင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဥပမာအားဖြင့် မြည်းသည် အမှိုက်ကို လည်းကောင်း၊ လမ်းဆုံ၌ လည်းကောင်း၊ လမ်းကြား၌ လည်းကောင်း၊ ရွာတံခါး၌ လည်းကောင်း၊ တစ်ခုခုသောနေရာ၌ အိပ်နိုင်၏။ အအိပ်မကြီးပေ။ ဤအတူသာပင် ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် မြက်အခင်း၌ လည်းကောင်း၊ သစ်ရွက်အခင်း၌ လည်းကောင်း၊ သစ်သားများ ခင်းထားသော ညောင်စောင်း၌ လည်းကောင်း၊ တစ်ခုခုသောနေရာ၌ သားရေနယ်ကို ခင်း၍ အိပ်ရာ၏။ အအိပ်မကြီးရာ။ မြည်း၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ နတ်တကာတို့ထက် မြင့်မြတ်၍ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် ရဟန်းတို့၊ ယခုအခါ ငါဘုရား၏ တပည့်တို့သည် ထင်းဆွေးတုံးနှင့် တူကုန်၍ ကမ္မဋ္ဌာန်းစီးဖြန်းခြင်း၌ မမေ့မလျော့ဘဲ အားထုတ်နေထိုင်ကြကုန်၏ ဟုဟောကြားတော်မူခဲ့၏။

တရားစစ်သူကြီး ဖြစ်တော်မူသော အရှင်သာရိပုတ္တရာကလည်း ထက်ဝယ်ဖွဲ့ခွေ ထိုင်နေသော ရဟန်းအတွက် ပုဆစ်ဒူးဝန်း နှစ်ဖက်တို့ကို မိုးရေမစွတ်နိုင်သောနေရာကို ရလျှင်ပင် နိဗ္ဗာန်ကို စေလွှတ်ထားသည့် စိတ်ရှိသော ရဟန်းသည် ချမ်းသာစွာနေနိုင်ပေရာ၏ ဟု မိန့်ကြားတော်မူပေ၏'

## ၂။ ကြက်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ ကြက်၏ အဘယ်အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကြက်သည် လျောက်ပတ်သောအခါ၌ အိပ်တန်းတက်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် လျောက်ပတ်သော အချိန် အခါ၌ စေတီရင်ပြင်ပေါ်တွင် တံမြက်လှည်းရာ၏။

သောက်ရေအိုးတွင် ရေလောင်းရာ၏။ ကိုယ်လက် သုတ်သင်ရာ၏။ ထို့နောက် စေတီတော်ကို ရှိခိုးပြီးလျှင် သီတင်းကြီးသော ရဟန်းအား သွား၍ဖူးရာ၏။ လျောက်ပတ်သော အချိန်၌ ဆိတ်ငြိမ်ရာဌာနသို့ ဝင်ရောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ကြက်သည် လျောက်ပတ်သောအခါ၌ အိပ်ရာမှထ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လျောက်ပတ်သောအခါ၌ စေတီရင်ပြင်တော်တွင် တံမြက်လှည်းခြင်း စသည်ကို ပြုရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကြက်သည်မြေကြီးကိုယက်ကာယက်ကာ အစာကို ကောက်ယူ စားမျို၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိုယ်ခန္ဓာမျှတ၍ တရားအားထုတ်နိုင်ရန် အတွက်သာလျှင် အစားအသောက်ကို ပညာဖြင့် ဆင်ခြင်၍ စားသောက်ရာ၏။

'ဘုရားရှင်ကလည်း အစာပြတ်လပ်နေသော ကန္တာရခရီးကြမ်းကြီး၌ မိမိသား၏ အသားကို စားသောက်ကြသကဲ့သို့ လည်းကောင်း၊ လှည်းဝင်ရိုး ပတ်ပတ်လည်၌ ဆီစာထိုးရသကဲ့သို့ လည်းကောင်း သဘောထား၍ ဆွမ်းဘောဇဉ်ကို သာယာတပ်မက်မှုမပြုဘဲ စားသောက်ရာ၏ဟု ဟောကြားတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကြက်သည် မျက်စိ ရှိသော်လည်း ညအခါတွင် ကန်းသကဲ့သို့ဖြစ်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် မကန်းသော်လည်း ကန်းသကဲ့သို့ ဖြစ်ရာ၏။ တောထဲမှာဖြစ်စေ၊ ရွာထဲမှာဖြစ်စေ၊ ဆွမ်းခံနေစဉ်မှာ ဖြစ်စေ တပ်မက်ဖွယ်ရာသော ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတို့ကို တွေ့လတ်သော် မျက်စိ ကန်းသကဲ့သို့၊ နားပင်းသကဲ့သို့၊ အ သကဲ့သို့ ကျင့်သုံးရာ၏။ ယောကျ်ား၊ မိန်း၊ အသံစသော နိမိတ်တို့ကို မယူစွဲရာ။ လက် ခြေ စသော ပုံသဏ္ဌာန်ကို မယူစွဲရာ။

'မင်းမြတ်၊ အရှင် မဟာကစ္စာယနကလည်း ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် မကန်းသော်လည်း ကန်းသကဲ့သို့ ဖြစ်ရာ၏။ နားမပင်းသော်လည်း နားပင်းသကဲ့သို့ ဖြစ်ရာ၏။ မအ သော်လည်း အ သကဲ့သို့ ဖြစ်ရာ၏။ အားမနည်းသော်လည်း အားနည်းသကဲ့သို့ ဖြစ်ရာ၏။ မိမိ၏ကျိုးတရား ဖြစ်ပွားရန်ရှိလျှင် သူသေကဲ့သို့ အိပ်ရာ၏ ဟု မိန့်ကြားတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား-ကြက်သည် ခဲ၊ တုတ်၊ ဆောက်ပုတ်၊ တင်းပုတ်တို့ဖြင့် ပစ်ခတ်သော်လည်း မိမိ၏အိပ်တန်းတက်ရာ ဌာနကို မစွန့်လွှတ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သင်္ကန်းချုပ်ခြင်း၊ အမှုသစ်ပြုခြင်း၊ ဝတ်ကြီး ဝတ်ငယ်ပြုစုခြင်း၊ ပါဠိတော်များ သင်ယူခြင်း၊ ပို့ချခြင်း စသည်တို့ကို ပြုနေရသော်လည်း သင့်လျော်သော နှလုံးသွင်းကို မစွန့်လွှတ်ရာ။ ဤ သင့်လျော်သော နှလုံးသွင်းခြင်းသည်ကား ယောဂီပုဂ္ဂိုလ်၏ ကိုယ်ပိုင်အိမ် ပေတည်း။ ကြက်၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီး ဖြစ်တော်မူသော အရှင် သာရိပုတ္တရာကလည်း ကောင်းစွာ ယဉ်ကျေးပြီးသော ဆင်သည် မိမိ၏နှာမောင်းကို မနင်းသကဲ့သို့လည်းကောင်း၊ စားသင့်သော အစာနှင့် မစားသင့်သော အစာကို သိသကဲ့သို့ လည်းကောင်း၊ ဤအတူသာပင် ဘုရားရှင်၏ သားတော်သည် မမေ့မလျော့မူ၍ သာလျှင် အလွန်မြတ်သော နှလုံးသွင်းခြင်း တည်းဟူသော ဘုရားရှင်၏ အဆုံးအမ စကားတော်ကို မနင်းခြေရာ၊ မချိုးဖဲ့ရာဟု မိန့်ကြားတော်မူပေ၏'

## ၃။ ရှဉ့်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ရှဉ့်၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ် ပါသနည်း'

'မင်းမြတ်၊ ရှဉ့်သည် ရန်သူများ ချဉ်းကပ်လာသောအခါ အမြီးကိုခါ၍ ကြီးအောင် ဖွထားပြီးလျှင် ထိုအမြီးကိုသာလျှင် ဆောက်ပုတ်သဖွယ် ပြု၍ ရန်သူကို တွန်းလှန်တိုက်ခိုက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာရန်သူတို့ ချဉ်းကပ်လာကြသော် သတိပဋ္ဌာန် တရားကို ပွားများလျက် ထိုသတိပဋ္ဌာန်ကိုပင်လျှင် ဆောက်ပုတ်သဖွယ် ပြုလုပ်၍ ကိလေသာ ရန်သူတို့ကို တွန်းလှန်တိုက်ခိုက်ရာ၏။ ရှဉ့်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ အရှင်စူဠပန္ထကသည် ရဟန်းတို့၏ဂုဏ်ကို ဖျက်ဆီးတတ်ကုန်သော ကိလေသာ ရန်သူတို့ ရှေးရှုရောက်လာကြသောအခါ သတိပဋ္ဌာန်ဆောက်ပုတ်ဖြင့် ကိလေသရန်သူတို့ကို အဖန်ဖန်အထပ်ထပ် သတ်ပုတ်အပ်ကုန်၏ဟု မိန့်ကြားတော်မူပေ၏'

## ၄။ သစ်မ၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ သစ်မ၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သစ်မသည် တစ်ကြိမ်သာလျှင် ကိုယ်ဝန်ဆောင်၏။ တစ်ကြိမ်ဆောင်ပြီးလျှင် နောက်ထပ်တစ်ဖန် သစ်ဖိုနားသို့မကပ်တော့ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သံသရာ၏ ဘေးကို ရှုမြင်၍ ဒုတိယ ဘဝ၌ ပဋိသန္ဓေ မနေတော့အံ့ဟု သင့်လျော်သော အားဖြင့် နှလုံးသွင်း ရာ၏။ သစ်မ၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဘုရားရှင်သည် သုတ္တနိပါတ်၊ ဓနိယဂေါပါလကသုတ်၌–

'ဓနိယ၊ နွားလားဥသဘသည် နှောင်ကြိုးကို ဖြတ်သကဲ့သို့ အထက်ပိုင်းသံယောဇဉ် ငါးပါးကို ဖြတ်၍ လည်းကောင်း၊ ဆင်ပြောင်ကြီးသည် ဆင်တုံးမနွယ်ကို ဖြတ်သကဲ့သို့ အောက်ပိုင်း သံယောဇဉ် ငါးပါးကို ဖြတ်၍ လည်းကောင်း၊ ငါသည်သွားတော့အံ့။ ငါသည် အမိဝမ်း၌ နောက်ထပ်တစ်ဖန် ကိန်းအောင်းတော့မည် မဟုတ်။ သို့ဖြစ်သောကြောင့် အို–မိုးမင်း၊ သင်ရွာလိုလျှင် ရွာလိုက်ပါလော့ဟု ဟောကြားတော်မူပေ၏'

## ၅။ သစ်ဖို၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ သစ်ဖို၏ အဘယ်အင်္ဂါ နှစ်ပါးကို ယူရပါမည်နည်း'

'မင်းမြတ်၊ သစ်ဖိုသည် အသွားရခက်သော မြက်တော၊ သစ်တော၊ တောင်၌ မှီခိုပုန်းအောင်း၍ သားကောင်ကို ဖမ်းယူ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်သောတော၊ သစ်ပင်ရိပ်၊ တောင်ချောက်ကြား၊ တောင်ခေါင်း၊ သုသာန်၊ တောအုပ်၊ လွင်တီးခေါင်၊ ကောက်ရိုးပုံနှင့်တစ်ယောက်တည်း ကိန်းအောင်းနိုင်သော နေရာတို့၌ နေထိုင်ရာ၏။ ဆိတ်ငြိမ်ရာ၌နေထိုင်၍ ကမ္မဋ္ဌာန်း စီးဖြန်းသော ယောဂီပုဂ္ဂိုလ်သည် မကြာမီမှာပင် အဘိညာဉ်ခြောက်ပါးကို ရလေရာ၏။

'မင်းမြတ်၊ သံဂီတိကာရက အရှင်မြတ်တို့သည်–

သစ်ဖိုဟူသည် တောတောင်၌ ပုန်းအောင်း၍ သားကောင်ကို ဖမ်းသကဲ့သို့ ထို့အတူသာပင် ခွဲလုံ့လနှင့် အမြဲယှဉ်၍ ဝိပဿနာပွားများသော ဘုရားရှင်၏ သားတော်သည် တောသို့ဝင်၍ မြင့်မြတ်သော ဖိုလ်တရားကို ဖမ်းယူ၏ဟု မိန့်ဆိုကြပေကုန်။

မင်းမြတ်၊ နောက်တစ်မျိုးကား– သစ်ဖိုသည် သားကောင် တစ်ကောင်ကို ဖမ်းရာတွင် လက်ယာနံပါးဖြင့် လဲကျသောသားကောင်ကို မစားပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သစ်သီးပေခြင်း၊ ပန်းပေးခြင်း စသော ဘုရားရှင် ကဲ့ရဲ့တားမြစ်ထားသော အနေသနမှုတို့ဖြင့် ရရှိသော ဘောဇဉ်ကို မစားပေ။

မင်းမြတ်၊ တရားစစ်သူကြီးဖြစ်တော်မူသော အရှင်သာရိပုတ္တရာသည်–

ငါသည် နှုတ်မြွက်ပြောဆိုခြင်းကြောင့် ဖြစ်ပေါ်လာသော (လှူဒါန်းလာသော) ကောင်းမြတ်သောနို့ဃနာဆွမ်းကို အကယ်၍ စားမိငြားအံ့။ ငါ၏ အသက်မွေးမှုသည် ကဲ့ရဲ့စရာဖြစ်လေရာ၏။

ငါ၏အူသည် အပြင်သို့ ထွက်ကာလာစေကာမူ၊ အသက်ကို စွန့်ပစ်စေရကာမူ၊ ငါ၏ အသက်မွေးမှုကိုကား မဖျက်ဆီးတော့အံ့ဟု မိန့်ဆိုခဲ့ပေ၏'

## ၆။ လိပ်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ လိပ်၏ အဘယ်အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လိပ်သည် ရေ၌သာကျက်စား၍ ရေ၌သာရေထိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသော သတ္တလောက၌ မေတ္တာပွားများ၍သာ နေထိုင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လိပ်သည် ရေထဲမှပေါ်လာသောအခါ ဦးခေါင်းမော့လျက်ပေါ်လာ၏။ တစ်စုံတစ်ယောက်က မြင်သွားသောအခါ ရေထဲသို့ပြန်ငုပ်သွား၏။ ဤအတူသာပင်

ယောဂီပုဂ္ဂိုလ်သည် ကိလေသာ တရားတို့ ဖြစ်ပေါ်လာခါနီးသောအခါ ကမ္မဋ္ဌာန်းအာရုံထဲသို့ သက်ဆင်းငုပ်လျှိုးရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လိပ်သည် ရေထဲမှထွက်၍ မိမိကိုယ်ကိုနေလှမ်း၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ထိုင်ခြင်း၊ ရပ်ခြင်း၊ လျောင်းခြင်း၊ စင်္ကြံသွားခြင်းတို့မှ စိတ်ကို ထုတ်ဆောင်၍ သမ္မပ္ပဓာန်တရားတို့၌ စိတ်ကို ခြောက်သွေ့စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လိပ်သည် မြေကိုတူး၍ ဆိတ်ငြိမ်ရာအရပ်၌ နေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လာဘ်၊ ပူဇော်သကာ အကျော်အစောကို စွန့်ပယ်၍ ဆိတ်ငြိမ်သော နေရာ၌ နေထိုင်ရာ၏။

'မင်းမြတ်၊ ဝင်္ဂန္တပုဏ္ဏား၏ သားဖြစ်သော အရှင်ဥပသေနသည်–

'ရဟန်းသည် တစ်ပါးတည်းကိန်းအောင်းနေလိုသောကြောင့် ဆိတ်ငြိမ်သော ကြွေးကြော်သံနည်းပါးသော၊ သားရဲများနှင့် သားသမင်တို့၏ မှီခိုရာဖြစ်သော တောရကျောင်းကို မှီဝဲရာ၏ဟု မိန့်ကြားတော်မူပေ၏'

'မင်းမြတ်၊ နောက်တစ်မျိုးကား– လိပ်သည် အစာရှာထွက်လာသောအခါ တစ်စုံတစ်ယောက်ကို မြင်လျှင်၊ တစ်စုံတစ်ယောက်အသံကို ကြားရလျှင် ခြေလက်နှင့်ခေါင်းတို့ကို အခွံအတွင်းသို့ လျှို့ဝှက်ကာ ကိုယ်ကိုစောင့်ရှောက်၍ နေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိဟူသော အာရုံငါးပါးတို့ ထိခိုက်လာသောအခါ ခြောက်ဒွါရတို့ကို စောင့်စည်းလျက် စိတ်ကိုသိမ်းကာ သတိသမ္ပဇဉ်ဖြင့် ရဟန်းတရားကို စောင့်ရှောက်၍ နေရာ၏။ လိပ်၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ နတ်တကာတို့ထက် မြင့်မြတ်၍ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည် သံယုတ္တနိကာယ်၊ ကုမ္မူပမာသုတ်၌–

'လိပ်သည် မိမိ၏ အခွံအတွင်း၌ ခြေလက်တို့ကို သွတ်သွင်းထားသကဲ့သို့ ရဟန်းသည် စိတ်အကြံတို့ကို ကောင်းစွာထိန်းထားပါလျှင် တဏှာဒိဋ္ဌိတို့၏ မှီတွယ်ခြင်းကို မခံရဘဲ၊ သူတစ်ပါးကို ထိခိုက်ညှဉ်းဆဲခြင်း မပြုရဘဲ ချုပ်ငြိမ်းရာ၏။ တစ်စုံတစ်ယောက်မျှ မစွပ်စွဲမပြောဆိုရာဟု ဟောကြားတော်မူပေ၏'

## ၇။ ဝါး၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ဝါး၏ အဘယ်အင်္ဂါ တစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ဝါးသည် လေတိုက်ရာအရပ်သို့ ကိုင်းညွတ်၍ လိုက်လျောစွာ ရပ်တည်၏။ ဤအတူသာပင် ဘုရားရှင်၏ အဆုံးအမတော်နှင့် လိုက်လျောအောင်နေထိုင်၍ အပြစ်မရှိသော နေရာ၌ ရပ်တည်လျက် ရဟန်းတရားကို ရှာမှီးရာ၏။

'မင်းမြတ်၊ အရှင်ရာဟုလာသည်-

'အင်္ဂါကိုးပါးရှိသော ဘုရားရှင်၏ ဒေသနာတော်ဖြင့် အခါခပ်သိမ်း လိုက်လျောစေ၍ အပ်စပ်သော၊ အပြစ်ကင်းသော နေရာ၌ ရပ်တည်လျက် အပါယ်လေးပါးကို လွတ်မြောက်စေနိုင်ဟု၏ မိန့်ကြားခဲ့ပေ၏'

## ၆။ လေး၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ လေး၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကောင်းစွာရွေးထားပြီးသော လေးကို ကွေးညွတ်လိုက်သောအခါ အရင်းမှ အဖျားတိုင်အောင် အညီအမျှ ကွေးညွတ်၏။ တစ်နေရာရာမှ တောင့်ခိုင်၍ မနေပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သီတင်းကြီး၊ သီတင်းလတ်၊ သီတင်းငယ် ပုဂ္ဂိုလ်တို့အထံ၌ သင့်လျော်လျောက်ပတ်စွာ ကိုင်းညွတ်ရာ၏။ မာနဖြင့်တောင့်ခိုင်၍ မနေရာ။ လေး၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

မင်းမြတ်၊ နတ်တကာတို့ထက် မြင့်မြတ်၍ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် ဝိဓုရဇာတ်တော်၌-

ပညာရှင်သည် လေးကဲ့သို့ ယုတ်လျော့သော ဝမ်းဗိုက်ရှိရာ၏။ ဝါးကဲ့သို့ လေးနှင့်အလိုက်သင့် လှုပ်ရှားရာ၏။ ဆန့်ကျင်ဘက် အကျင့်ကို မကျင့်သုံးရာ။ ထိုသို့သော သူသည် မင်းထံ ခစား နေထိုင်ရာ၏ဟု ဟောကြားခဲ့ပေ၏'

## ၇။ ကျီး၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ ကျီး၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကျီးသည် ယုံမှားစိုးနှောင့်သည် ဖြစ်၍ လုံ့လထုတ်၍ ကျက်စား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အပ်သလော၊ မအပ်သလောဟု ယုံမှားစိုးနှောင့်သည်ဖြစ်၍၊ လုံ့လထုတ်၍၊ သတိတရား လက်ကိုင်ထား၍ ဣန္ဒြေတို့ကို စောင့်စည်းရာ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား-ကျီးသည် အစားအစာ တစ်ခုခုကို တွေ့မြင်သောအခါ မိမိ၏အဆွေအမျိုးဖြစ်သော ကျီးတို့နှင့် ခွဲဝေမျှတ၍သာ စားသောက်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် အနည်းဆုံးအားဖြင့် သပိတ်ထဲမှာရရှိလာသော တရားတော်နှင့်အညီ ဆွမ်းခံ၍ ရရှိသော ဆွမ်းဘောဇဉ်တို့ကို သီလရှိသော သီတင်းသုံးဖော်များနှင့် ဝေခွဲမျှတ၍ စားသောက်ရာ၏။ ကျီး၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီး ဖြစ်တော်မူသော အရှင်သာရိပုတ္တရာသည်-

ငြိုးခြံသော အကျင့်ရှိသောသူသည် ရလာသမျှသော ဆွမ်းဘောဇဉ်တို့ကို ငါ့အား လှူဒါန်းဆက်ကပ် လာကြစေအံ့။ ထိုဘောဇဉ်ကို သီတင်းသုံးဖော်အားလုံးတို့နှင့် ခွဲဝေ မျှတ၍ သာလျှင် စားသောက်လိုရာ၏ဟု မိန့်ကြားခဲ့ပေ၏'

## ၁၀။ မျောက်၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ မျောက်၏အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မျောက်သည် သစ်ခက်သစ်ရွက်တို့ဖြင့် တစ်ခဲနက် ထွေးယှက်သော သစ်ပင်ကြီး၌ ပုန်းအောင်း နေထိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မကောင်းမှုမှ ရှက်တတ်သော၊ သီလနှင့် ပြည့်စုံသော၊ တရားသဖြင့် ဆုံးမတတ်သော၊ အဆွေခင်ပွန်းကောင်းဖြစ်သော ဆရာသမားကို ဆည်းကပ်နေထိုင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- မျောက်သည် သစ်ပင်ပေါ်မှာသာလျှင် သွား၏။ ရပ်၏။ ထိုင်၏။ အိပ်စက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တောအရပ်မှာသာ နေထိုင်၍ သတိပဋ္ဌာန်တရားကို ခံစားသုံးဆောင်ရာ၏။ မျောက်၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီးဖြစ်တော်မူသော အရှင်သာရိပုတ္တရာသည်-

ရဟန်းသည် တောအရပ်၌ စင်္ကြံသွားလျက် လည်းကောင်း၊ ရပ်လျက် လည်းကောင်း၊ ထိုင်နေခြင်း၊ လျောင်းစက်ခြင်းဖြင့် သော်လည်းကောင်း တင့်တယ်၏။ တောတွင်း၌နေထိုင်ခြင်းကိုသာ ချီးကျူးအပ်၏ဟူ၍ မိန့်ကြားတော်မူပေ၏'

❁ ❁ ❁

# သမုဒ္ဒဝဂ်

## ၁။ ဘူးနွယ်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ဘူးနွယ်၏ အဘယ်အင်္ဂါ တစ်ပါးကို ယူရပါမည်နည်း'

'မင်းမြတ်၊ ဘူးနွယ်သည် မြက်ပင်၊ သစ်ပင်၊ နွယ်ပင်တို့၌ နှာမောင်းဖြင့် ဆွဲကပ်မှီတွယ်၍ တက်လာပြီးလျှင် ထိုမြက် စသည်တို့အပေါ်၌ အလွန်တရာကြီးပွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သခ်ိဳရတရားတို့၏အာရုံကို ဆွဲကိုင်မှီတွယ်၍ အရဟတ္တဖိုလ်၌ အလွန်တရာ ကြီးပွားရာ၏။ ဘူးနွယ်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်၏'

## ၂။ ပဒုမ္မာကြာ၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ ပဒုမ္မာကြာ၏ အဘယ်အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ပဒုမ္မာကြာသည် ရေမှာပေါက်ရောက်၍ ရေမှာ ကြီးပွားလာသော်လည်း ရေနှင့်မလိမ်းကျံပေ။ ဤအတူသာပင် ယောဂီသည် အမျိုး၊ ဂိုဏ်း၊ လာဘ်၊ အခြံအရံ ပူဇော်သကာ၊ အလေးအမြတ်ပြုခြင်း၊ အသုံးအဆောင် ပစ္စည်းတို့၌ မကပ်ငြိ မလိမ်းကျံရာ။

မင်းမြတ်၊ နောက်တစ်မျိုးကား– ပဒုမ္မာကြာသည် ရေပေါ်သို့တက်ရောက်၍ တည်နေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသော လောက၏အပေါ်သို့တက်ရောက်၍ လောကုတ္တရာ တရား၌ တည်နေရာ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား– ပဒုမ္မာကြာသည် လေအနည်းငယ်တိုက်ရုံမျှဖြင့် တုန်လှုပ်၏။ ဤအတူသာပင် အနည်းငယ်မျှသော ကိလေသာကိုပင် ဘေးဟု ရှုမြင်ရာ၏။ ပဒုမ္မာကြာ၏ ဤသုံးပါးကို ယူအပ်ပေ၏'

## ၃။ မျိုးစေ့၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ မျိုးစေ့၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မျိုးစေ့သည် အနည်းငယ်မျှပင် ဖြစ်သော်လည်း လယ်မြေကောင်းမှာ စိုက်ပျိုးခဲ့သော်၊ မိုးရေကောင်းစွာ ရွာသွန်းခဲ့သော် သီးနှံများစွာ ထွက်လေရာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကောင်းမွန်စွာ ကျင့်သုံးခဲ့သော် အရဟတ္တဖိုလ်ကို ရလေရာ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား– မျိုးစေ့သည် စင်ကြယ်သန့်ရှင်းအောင် ပြုပြင်ထားပြီးသော လယ်မြေ၌ စိုက်ပျိုးလျှင် အလွန်လျင်မြန်စွာ အပင်ပေါက်လာ၏။ ဤအတူသာပင် ကောင်းစွာ သုတ်သင်ထားပြီးသော သတိပဋ္ဌာန်ကမ္မဋ္ဌာန်း၌ ချထားအပ်သောစိတ်သည် လျင်မြန်စွာ ပေါက်ရောက်စေ၏။ မျိုးစေ့၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်၏'

## ၄။ သာလကလျာဏီပင်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ သာလကလျာဏီပင်၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သာလကလျာဏီမည်သော သစ်ပင်သည် မြေကြီးအတွင်း၌သာလျှင် အတောင်တစ်ရာ လည်းကောင်း၊ အတောင်တစ်ရာထက် ပို၍ လည်းကောင်း စည်ပင်တိုးပွား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်ရာ အရပ်၌သာလျှင် ဖိုလ်လေးပါး၊ ပဋိသမ္ဘိဒါလေးပါး၊ အဘိညာဉ် ခြောက်ပါးနှင့်တကွ ရဟန်းတရားအားလုံးကို ဆည်းပူးအပ်ပေ၏။ သာလကလျာဏီ ပင်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၅။ လှေ၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ လှေ၏ အဘယ် အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လှေသည်အမျိုးမျိုးသော သစ်သားတို့ကို စပ်ဟပ်ပေါင်းစည်းကာ လူများစွာတို့ကို ကယ်တင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အကျင့်သီလတည်းဟူသော ဂုဏ်ကျေးဇူး၊ ဝတ်ကြီး ဝတ်ငယ် ပြုစုခြင်းတည်းဟူသော အမျိုးမျိုးသော ကုသိုလ်တရားတို့ကို၊ စပ်ဟပ် ပေါင်း စည်းကာ နတ်နှင့်တကွသော လူအပေါင်းကို သံသရာ ဝဋ်ဆင်းရဲမှ ထုတ်ဆောင်၍ နိဗ္ဗာန်ရောက်အောင် ကယ်တင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လှေသည် အမျိုးမျိုးသော လှိုင်းလုံးတို့၏ ရိုက်ပုတ်သော ဒဏ်ကို ခံနိုင်ရည်ရှိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာ၊ လာဘ်၊ ပူဇော်သကာ၊ အခြံအရံ၊ အကျော်အစော၊ ရှိခိုးခံရခြင်း၊ သူတစ်ပါးတို့၏ ကဲ့ရဲ့ခြင်း၊ ချီးမွမ်းခြင်း၊ ချမ်းသာခြင်း၊

ဆင်းရဲခြင်း၊ မြတ်နိုးခြင်း၊ မမြတ်နိုးခြင်း စသော အမျိုးမျိုးသော ထိပါးပုတ်ခတ်ခြင်းတို့ကို သည်းခံရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- လှေသည် ကမ်းမမြင်နိုင်လောက်အောင် ကျယ်ဝန်း၍ အလွန်တရာ နက်ရှိုင်းလှစွာသော မဟာသမုဒ္ဒရာ၌ သွားလာနိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အပြန်သုံးဖြာ အခြင်းအရာ တစ်ဆယ့်နှစ်မျိုးရှိသော သစ္စာလေးပါးတို့ကို ထိုးထွင်းသိမြင်ရေး၌ စိတ်ကို ကျက်စား သွားလာစေရာ၏။ လှေ၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်-

'ရဟန်းတို့၊ သင်တို့သည် ကြံစည်ကြသည်ရှိသော် ဤကား ဆင်းရဲသောတရားတည်း ဟူ၍ လည်းကောင်း၊ ဤကားဆင်းရဲခြင်း၏ အကြောင်းတည်း ဟူ၍လည်းကောင်း၊ ဤကား ဆင်းရဲချုပ်ရာ တရားတည်း ဟူ၍လည်းကောင်း၊ ဤကား ဆင်းရဲချုပ်ရာသို့ ရောက်ကြောင်းတည်း ဟူ၍လည်းကောင်း သစ္စာလေးပါးနှင့် ပတ်သက်၍သာလျှင် ကြံစည်ကြကုန်လော့ဟု ဟောကြားတော်မူခဲ့ပေ၏'

## ၆။ ကျောက်ဆူး၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ ကျောက်ဆူး၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကျောက်ဆူးသည် လှိုင်းတံပိုးတို့ ရိုက်ခတ်နေသော မဟာသမုဒ္ဒရာ၌ လှေကို ရပ်တည်နေစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ရာဂ၊ ဒေါသ၊ မောဟနှင့်ဝိတက်တို့ လှုပ်ရှားပုတ်ခတ်နေသော အာရုံ၌ စိတ်ကိုရပ်တည်နေအောင် ထိန်းထားရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကျောက်ဆူးသည် ရေပေါ်သို့မပေါ်ပေ။ အတောင်တစ်ရာ နက်သောရေ၌လည်း လှေကို ရပ်တည်စေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လာဘ်၊ အခြံအရံ၊ အကျော်အစော၊ မြတ်နိုးခြင်း၊ ရှိခိုးပူဇော်ခြင်း၊ အရိုအသေပြုခြင်းတို့ကို ခံယူရရှိသော်လည်း ပေါ်လွင်ခြင်းကို မပြုရာ။ ကိုယ်ခန္ဓာအတွက် မျှတရုံလောက်သာ လက်ခံထား ရှိရာ၏။ လှေ၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏'

## ၇။ လင်းယဉ်တိုင်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ လင်းယဉ်တိုင်၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လင်းယဉ်တိုင်သည် ကြိုး၊ သားရေလွန်းကြိုးနှင့်ရွက်တို့ကို ဆောင်ရွက်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် သတိသမ္ပဇဉ်နှင့် ပြည့်စုံရာ၏။ ရှေ့သို့လှမ်းရာ၊ နောက်သို့

ဆုတ်ရာ၊ တူရူကြည့်ရာ၊ တစောင်းကြည့်ရာ၊ ကွေးရာ၊ ဆန့်ရာ၊ သပိတ်ပိုက်ရာ၊ သင်္ကန်းရုံရာ၊ စားရာ၊ သောက်ရာ ခဲရာ၊ လျက်ရာ၊ ကျင်ကြီး ကျင်ငယ်စွန့်ရာ၊ သွားရာ၊ ရပ်ရာ၊ ထိုင်ရာ၊ အိပ်ရာ၊ နိုးရာ၊ စကားပြောရာ၊ ဆိတ်ဆိတ်နေရာ တို့၌ ပညာဖြင့်ဆင်ခြင်၍ ပြုရာ၏။ လင်းယဉ်တိုင်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၈။ လှေသူကြီး၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ လှေသူကြီး၏ အဘယ်အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လှေသူကြီးသည် နေ့ရောညပါ အခါမလပ် မမေ့မလျော့ အားထုတ်ကြိုးပမ်း၍ လှေကိုသွားစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် နေ့ရောညပါ အခါမလပ် မမေ့မလျော့ အားထုတ်ကြိုးပမ်း၍ စိတ်ကိုရှုမှတ်ရာ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည် ဓမ္မပဒ ပါဠိတော်၌–

'ရဟန်းတို့၊ သင်တို့သည် မမေ့မလျော့ခြင်း၌ မွေ့လျော်ကြကုန်လော့။ ရွံ့ဗွက်ထဲ၌ နစ်မြုပ်နေသော မင်းစီးဆင်ကြီးသည် လွန်မြောက်နိုင်ခဲသော ရွံ့ဗွက်ထဲမှ မိမိကိုယ်ကို လွတ်မြောက်အောင် ရုန်းထွက်သကဲ့သို့ လွန်မြောက်နိုင်ခဲသော သံသရာမှ မိမိကိုယ်ကို ကယ်ထုတ်ကြကုန်လော့ဟု ဟောကြားတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လှေသူကြီးသည် မဟာသမုဒ္ဒရာ၌ အကောင်းအဆိုး အားလုံးကိုသိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အကုသိုလ်၊ ကုသိုလ်၊ အပြစ်ရှိသောတရား၊ အပြစ်မရှိသောတရား၊ ယုတ်ညံ့သောတရား၊ မြင့်မြတ်သောတရား၊ မည်းညစ်သောတရား၊ ဖြူစင်သော တရားတို့ကို သိရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လှေသူကြီးသည် မည်သူမျှစက်ကို မကိုင်ရဟူ၍ စက်၌ တံဆိပ်ခတ်ထား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မည်သို့သော အကုသိုလ် အကြံကိုမျှ မကြံရဟူ၍ စိတ်ကိုစောင့်စည်းထားရာ၏။ လှေသူကြီး၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏'

## ၉။ လှေထိုးသား၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ လှေထိုးသား၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ထိုလှေထိုးသားသည် ဤလှေ၌ အလုပ်လုပ်သောကြောင့်သာ ငါသည် ထမင်း ရိက္ခာကို ရရှိ၏။ ငါသည်မမေ့မလျော့ ဤအလုပ်ကို လုပ်သင့်ဟု ကြံစည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ငါသည် ဤခန္ဓာကိုယ်၌ မမေ့လျော့ဘဲ သတိပဋ္ဌာန်နှင့် ပြည့်စုံလျက်၊ စိတ်ဘည်ကြည်လျက် ဆင်ခြင်သုံးသပ်သောအားဖြင့် ဆင်းရဲဒုက္ခအပေါင်းမှ လွတ်ပေလတ္တံ့ဟု ကြံစည်၍ မမေ့မလျော့ ကြိုးစားအားထုတ်ရာ၏။ လှေထိုးသား၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဟရားစစ်သူကြီးဖြစ်တော်မူသော အရှင်သာရိပုတ္တရာသည်–

ဤကိုယ်ခန္ဓာကို လက္ခဏာယာဉ်သုံးပါးမှာ တင်၍ ဆင်ခြင်သုံးသပ်ကြကုန်လော့။ အဖန်ဖန် အထပ်ထပ်ပိုင်းခြား၍ သိကြကုန်လော့။ ကိုယ်ခန္ဓာ၌ အနိစ္စ စသော လက္ခဏာတို့ကို ရှုမြင်နိုင်လျှင် ဒုက္ခဆုံးရာနိဗ္ဗာန်ကို မျက်မှောက်ပြုရကုန်လတ္တံ့. ဟူ၍ မိန့်ကြားခဲ့ပေ၏'

## ၁၀။ သမုဒ္ဒရာ၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ သမုဒ္ဒရာ၏ အဘယ်အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မဟာသမုဒ္ဒရာသည် အသေကောင်ပုပ်နှင့် အတူမနေပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မကောင်းမှု ဒုစရိုက်ကိလေသာတို့နှင့် အတူမနေရာ။

မင်းမြတ်၊ နောက်တစ်မျိုးကား မဟာသမုဒ္ဒရာသည် ပုလဲ၊ ပတ္တမြား၊ ကြောင်မျက်ရွဲ၊ ခရုသင်း၊ ကျောက်သလင်း၊ သန္တာ၊ ဖန်၊ မြဟူသော ရတနာအမျိုးမျိုးတို့ကို ပြင်ပသို့မကြဲဖြန့်မူ၍ အတွင်းမှာသာ သိုမှီးထား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မဂ်၊ ဖိုလ်၊ ဈာန်၊ဝိမောက္ခ၊ သမာဓိ၊ သမာပတ်၊ ဝိပဿနာ၊ အဘိညာဉ်တည်းဟူသော ဂုဏ်ကျေးဇူးတို့ကို အပြင်အပတို့ မကြဲဖြန့်မူ၍ အတွင်းမှာသာ သိုမှီးထားရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မဟာသမုဒ္ဒရာသည် ကြီးမားလှသော သတ္တဝါတို့နှင့်အတူ နေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလိုနည်းသော ရောင့်ရဲ လွယ်သော၊ ကိလေသာခါ တွက်ခြင်းကို ဟောပြောသော၊ အကျင့်သီလနှင့် ပြည့်စုံသော၊ ဘာဝနာပွားများသော၊ ဆိုဆုံးမတတ်သော၊ တရားပြတတ်သော မိတ်ဆွေကောင်း သီတင်းသုံးဖော်တို့နှင့် အတူနေရာ၏။

'မင်းမြတ်၊ မဟာသမုဒ္ဒရာသည် မြစ်ပေါင်းများစွာမှ စီးဝင်လာသော ရေတို့ကြောင့် လည်းကောင်း၊ ကောင်းကင်မှရွာချသော မိုးရေတို့ကြောင့် လည်းကောင်း မိမိ၏ကမ်းပါးကို မကျော်လွန်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လာဘ်၊ ပူဇော်သကာ၊ အကျော်အစော၊ ရှိခိုးခြင်း၊ မြတ်နိုးခြင်း၊ ပူဇော်ခြင်းတို့ကို အကြောင်းပြု၍ သိက္ခာပုဒ်တော်ကို ဘဝိလျက် မကျူးလွန်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား မဟာသမုဒ္ဒရာသည် မြစ်ပေါင်းများစွာမှ စီးဝင်လာသော ရေတို့ကြောင့် လည်းကောင်း၊ ကောင်းကင်မှ ရွာချသော မိုးရေတို့ကြောင့် လည်းကောင်း၊ မပြည့်စုံပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဘုရားရှင်၏ ပရိယတ္တိသာသနာတော်ကို ကြားနာသင်ယူ၍ မရောင့်ရဲနိုင်ရာ။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည် သုတသောမ ဇာတ်တော်၌-

'ခမည်းတော်မင်းမြတ်၊ မီးသည် ထင်းမီးစာကိုလောင်မြိုက်၍ မရောင့်ရဲနိုင်သကဲ့သို့၊ သမုဒ္ဒရာသည် မြစ်ရေဖြင့် မရောင့်ရဲနိုင်သကဲ့သို့ ပညာရှိတို့သည် ကောင်းစွာ ဆိုအပ်သော တရားစကားကို အခါခါ ကြားနာရကုန်သော်လည်း မရောင့်ရဲ မတင်းတိမ်နိုင်ကြကုန်'ဟု ဟောကြားတော်မူပေ၏'

❁ ❁ ❁




## ၁။ မြေကြီး၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ မြေကြီး၏ အဘယ်အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မြေကြီးသည် ပရုတ်၊ အကျော်၊ တောင်ဇလပ်၊ စန္ဒကူး၊ မာလာကျိုကျူ စသော ကောင်းသော အရာဝတ္ထုတို့ လောင်းချသော် လည်းကောင်း၊ သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီ၊ တံတွေး၊ နှပ်၊ အစေး၊ ကျင်ငယ်ကျင်ကြီး စသည်တို့ကို လောင်းချသော် လည်းကောင်း မတုန်လှုပ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လာဘ်ရခြင်း၊ လာဘ်မရခြင်း၊ ဂုဏ်သတင်းကျော်စောခြင်း၊ ဂုဏ်သတင်းညှိုးမှိန်ခြင်း၊ ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်း၊ ချမ်းသာခြင်း တည်းဟူသော လောကဓံ အကောင်းအဆိုးတို့နှင့် တွေ့ကြုံရသော်လည်း မတုန်လှုပ်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြေကြီးသည် အဆင်တန်ဆာ ဆင်ယင်မနေရဘဲ၊ အမွှေးနံ့သာ လိမ်းကျံမနေရဘဲ မိမိ၏မြေသင်းနံ့ဖြင့် ထက်ဝန်းကျင်မှ လွှမ်းမိုး၍ထုံ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အဆင်တန်ဆာ ဆင်ယင်မနေရဘဲ၊ အမွှေးနံ့သာ လိမ်းကျံ မနေရဘဲ သီလတည်း ဟူသော အနံ့ဖြင့် ထက်ဝန်းကျင်မှ လွှမ်းမိုး၍ ထုံရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြေကြီးသည် အပြတ်အခြား၊ အကျိုးအပေါက် မရှိမူ၍ တစ်ခဲနက် ထူထဲ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အပြတ်အခြား၊ အကျိုးအပေါက်မရှိသော သီလရှိသည် ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြေကြီးသည် ရွာ၊ နိဂုံး၊ ဇနပုဒ်၊ သစ်ပင်၊ တောင်၊ မြစ်၊ တစ်ဖက်ဆည်ကန်၊ လေးထောင့်ကန်၊ တိရစ္ဆာန်၊ ငှက်၊ လူယောကျ်ား၊ လူမိန်းမအပေါင်းကို ထမ်းဆောင်နေရသော်လည်း ငြီးငြင်ပင်ပန်းမှု မရှိပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တရားဒေသနာတော်တို့ကို သွန်သင်ဆုံးမခြင်း၊ ပြောကြားပြသခြင်း၊ ဆောက်တည်ကျင့်သုံးခြင်း တို့ဖြင့် မငြီးငြင် မပင်ပန်းရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြေကြီးသည် ချစ်ခြင်း၊ မုန်းခြင်းမှ ကင်းလွတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသောသတ္တဝါ သခ်ါရတို့၌ ချစ်ခြင်း၊ မုန်းခြင်းမှ ကင်းလွတ်ရာ၏။ မြေကြီး၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ စူဠသုဘဒ္ဒါ ဥပါသိကာမသည် မိမိကိုးကွယ်ဆည်းကပ်သော ရဟန်းတို့ကို ချီးကျူးလိုသည်ဖြစ်၍–

အမျက်ထွက်သောစိတ်ဖြင့် လက်မောင်းတစ်ဖက်ကို ပဲခွပ်ဖြင့်ခုတ်ရွေ စေကာမူ၊ နှစ်သက်ရွှင်ပျသော စိတ်ဖြင့် လက်မောင်းတစ်ဖက်ကို အမွှေးနံ့သာဖြင့် လိမ်းကျံပေးစေကာမူ လက်မောင်းတစ်ဖက်ကို ခုတ်ရွေသောသူ၌လည်း အမျက်မထွက်ပေ။ လက်မောင်းတစ်ဖက်ကို အမွှေးနံ့သာ လိမ်းကျံပေးသူ၌လည်း ချစ်ခြင်းမရှိပေ။ ထိုရဟန်းတို့သည် မြေကြီးနှင့်တူသော စိတ်ရှိကြပေကုန်၏။ ငါ ကိုးကွယ်ဆည်းကပ်သော ရဟန်းတို့သည် ထိုသို့သော စိတ်သဘော ရှိကြပေကုန်၏ဟု ပြောဆိုခဲ့ပေ၏'

## ၂။ ရေ၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ ရေ၏အဘယ်အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ရေသည်ကောင်းစွာတည်၏။ သဘာဝအားဖြင့် စင်ကြယ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဟန်ဆောင်ခြင်း၊ ဝါကြွားခြင်း၊ လျှုချင်ပေးချင်အောင် အရိပ်အမြွက်ပြဆိုခြင်း၊ ဖိနှိပ် ပြောဆိုခြင်းတို့ကို ပယ်၍ ကောင်းစွာတည်ရာ၏။ သဘာဝအားဖြင့် စင်ကြယ်သော အကျင့်သီလရှိရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ရေသည် အေးမြ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သတ္တဝါအားလုံးတို့ကို သည်းခံသူ၊ ချစ်ခင်သူ၊ သနားသူ၊ အစီးအပွားကို ရှာမှီးသူ၊ အစဉ် စောင့်ရှောက်သူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ရေသည် မစင်ကြယ်သည်ကို စင်ကြယ်အောင် ဆေးကြောတတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဥပဇ္ဈာယ် ဆရာ၊ နိဿရည်းဆရာတို့နှင့် လည်းကောင်း၊ ထိုဆရာတော်တို့နှင့် ထပ်တူလေးစားအပ်သော ပုဂ္ဂိုလ်တို့နှင့် လည်းကောင်း ငြင်းခုံခြင်းကို မပြုရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား– ရေသည်လူများကို တောင့်တအပ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ ဆိတ်ငြိမ်ရာ၌ နေထိုင်ခြင်းတို့ဖြင့် လူအပေါင်း၏ တောင့်တကြည်ညိုသူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– ရေသည် တစ်စုံတစ်ယောက်ကိုမျှ အကျိုးမဲ့အောင် မပြုလုပ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သူတစ်ပါးတို့နှင့်ငြင်းခုံခြင်း၊ ခိုက်ရန်ဖြစ်ခြင်း၊ ဆန့်ကျင်ဘက်ပြောဆိုခြင်း၊ မညီမညွတ်ပြောဆိုခြင်း၊ အချည်းနှီး အကျိုးမဲ့သော အကြောင်းအရာတို့ကို ကြံစည်ခြင်း၊ မမွေ့လျော်ခြင်း စသော မကောင်းမှုတို့ကို ကိုယ် နှုတ် စိတ်သုံးပါး တို့ဖြင့် မပြုလုပ်ရာ။ ရေ၏ ဤအင်္ဂါငါးပါးတို့ကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် ကဏှာဇာတ်တော်၌–

နတ်တို့ကို အစိုးရသော သိကြားမင်း၊ သင်သည် ငါ့အား အကယ်၍ ဆုပေးလိုငြားအံ့။ ငါ့ကို အကြောင်းပြု၍ တစ်စုံတစ်ယောက်သော သူ၏ စိတ်ကို လည်းကောင်း၊ ကိုယ်ကို လည်းကောင်း တစ်ခါတစ်ရံမျှ မနှိပ်စက်လိုပါ။ ဤသို့သောဆုကို ငါတောင်းလို၏ဟု ဟောကြားတော် မူပေ၏'

## ၃။ မီး၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ မီး၏ အဘယ် အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မီးသည် မြက်၊ ထင်း၊ သစ်ခက်၊ သစ်ရွက် တို့ကို လောင်ကျွမ်းစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဣဋ္ဌာရုံ၊ အနိဋ္ဌာရုံကို ခံစားတတ်ကုန်သော ကိလေသာတို့ကို ဉာဏ်ဖြင့် လောင်ကျွမ်းစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– မီးသည် သနားခြင်း၊ ကြင်နာခြင်း မရှိပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာ အားလုံးတို့၌ သနားခြင်း၊ ကြင်နာခြင်း မပြုရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား– မီးသည် အအေးကို ပယ်ဖျောက်တတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဝီရိယဖြင့် ကိလေသာတို့ကို ပယ်ဖျောက်ရာ၏။

'မင်းမြတ်၊ မီးသည် ချစ်ခြင်း၊ မုန်းခြင်းမှ ကင်းလွတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သတ္တဝါ သင်္ခါရတို့၌ ချစ်ခြင်း၊ မုန်းခြင်း ကင်းလွတ်သော စိတ်ဖြင့် နေထိုင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– မီးသည် အမိုက်တိုက်ကိုပယ်ဖျောက်၍ အလင်းရောင်ကို ပြ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အဝိဇ္ဇာကို ပယ်ဖျောက်၍ ဉာဏ်ပညာကို ထွန်းလင်းစေရာ၏။ မီး၏ ဤအင်္ဂါငါးပါးတို့ကို ယူအပ်ပေ၏။

မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် သားတော်ရှင်ရာဟုလာအား–

'ရာဟုလာ၊ မီးနှင့်တူသော ဘာဝနာကို ပွားများပါလော့။ မီးနှင့်တူသော ဘာဝနာကို ပွားများသော သင့်အား ဖြစ်ပေါ်ဆဲဖြစ်ကုန်သော၊ နှစ်သက်ဖွယ်၊ မနှစ်သက်ဖွယ် ဖဿတို့သည် သင်၏စိတ်ကို သိမ်းကျုံး၍ မတည်နိုင်ကြကုန်လတ္တံ့.' ဟု ဟောကြားတော်မူပေ၏'

## ၄။ လေ၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ လေ၏ အဘယ် အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လေသည် ကောင်းစွာပွင့်သော တောအုပ်၏ အတွင်းသို့ ဝင်ရောက် တိုက်ခိုက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာမှ လွတ်မြောက်သော ဖိုလ်စိတ်တို့၏ အာရုံ၌ မွေ့လျော်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လေသည် မြေ၌ ပေါက်နေသော သစ်ပင်အပေါင်းကို လုံးထွေး တိုက်ခတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တောရဆောက်တည်လျက် သင်္ခါရတရားတို့ကို စိစစ်ခြင်းဖြင့် ကိလေသာတို့ကို လုံးထွေး တိုက်ခတ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လေသည် အထက် ကောင်းကင်၌ ကျက်စား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လောကုတ္တရာ တရားတို့၌ စိတ်ကို ကျက်စားစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– လေသည် အနံ့ကို သယ်ဆောင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သီလတည်းဟူသော အမွှေးနံ့ကို သယ်ဆောင်ရာ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား လေသည် အမြဲတမ်းစွဲမှီနေသော နေရာမရှိပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အမြဲတမ်း စွဲကပ်ထားသော နေရာမရှိသဖြင့်၊ လူတို့နှင့် ရောနှောဆက်ဆံခြင်း မရှိသဖြင့် အာရုံအားလုံးတို့၌ တပ်ရောက်မှုကင်းလွတ်ရာ၏။ လေ၏ ဤအင်္ဂါ ငါးပါးကို ယူအပ်ပေ၏'

## ၅။ တောင်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ တောင်၏ အဘယ်အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ တောင်သည် မရွေ့လျား၊ မတုန်လှုပ်၊ မယိမ်းယိုင်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တပ်မက်ဖွယ်အာရုံတို့၌ မတပ်မက်ရာ။ ပြစ်မှားဖွယ် အာရုံ၌တို့၌ မပြစ်မှားရာ။ တွေဝေဖွယ် အာရုံတို့၌ မတွေဝေရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား– တောင်သည် တစ်စုံတစ်ခုနှင့်မျှ မရောနှောပေ။ မတွဲစပ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တစ်စုံတစ်ယောက်နှင့်မျှ ရောနှော ဆက်ဆံခြင်း မပြုရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား– တောင်ပေါ်၌မျိုးစေ့သည် အပင်မပေါက်နိုင်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိမိစိတ်၌ ကိလေသာတို့ မဖြစ်ပေါ်စေရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား– တောင်သည် အထက်သို့ မြင့်တက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဉာဏ်ပညာမြင့်မြတ်သည့် အဖြစ်သို့ တက်ရောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- တောင်သည် ရှိမြဲအနေအထားထက် မြင့်၍လည်း မလာ၊ နိမ့်၍လည်းမသွားပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လောကဓံတရားတို့ကြောင့် စိတ် တက်ကြွခြင်း၊ စိတ်ကျဆင်းခြင်း မဖြစ်စေရာ။ တောင်၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏'

## ၆။ ကောင်းကင်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ ကောင်းကင်၏ အဘယ် အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကောင်းကင်သည် မည်သို့မျှ ဆုပ်ကိုင်ဖမ်းယူ၍ မရနိုင်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာတို့က မည်သို့မျှ ဆုပ်ကိုင်ဖမ်းယူ၍ မရနိုင်သူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကောင်းကင်သည် ဘုရား၊ ရဟန္တာ၊ ဈာန်ရ ရသေ့၊ နတ် ဗြဟ္မာတို့နှင့် ငှက်သတ္တဝါတို့၏ လှည့်လည်သွားလာရာ ဖြစ်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် အနိစ္စ၊ ဒုက္ခ၊ အနတ္တ လက္ခဏာတို့၌ စိတ်ကို လှည့်လည်ကျက်စားစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကောင်းကင်သည် ကောင်းကင်သို့ ရောက်နေသူအတွက် ထိတ်လန့်တုန်လှုပ်ဖွယ် ဖြစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသော ဘုံဘဝ၊ ပဋိသန္ဓေတို့၌ စိတ်ကို ထိတ်လန့် တုန်လှုပ်စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- ကောင်းကင်သည် ငြိကပ် တွယ်တာမှုမရှိပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဒါယကာ၊ ဒါယိကာမတို့၌ လည်းကောင်း၊ ဂိုဏ်းတို့၌ လည်းကောင်း၊ လာဘ်လာဘ တို့၌လည်းကောင်း၊ ကျောင်း အိပ်ရာနေရာတို့၌ လည်းကောင်း၊ ပစ္စည်းအသုံးအဆောင်နှင့် ကျောင်း အိပ်ရာ နေရာတို့၌ လည်းကောင်း၊ အလုံးစုံသော ကိလေသာတို့၌ လည်းကောင်း ငြိကပ် တွယ်တာမှုမရှိသူ ဖြစ်ရာ၏။ ကောင်းကင်၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏'

## ၇။ လ၏ အင်္ဂါလေးပါး

'အရှင် နာဂသေနဘုရား၊ လ၏ အဘယ် အင်္ဂါငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လသည် လဆန်းပက္ခ၌ တိုး၍တိုး၍သာလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အကျင့်သီလ ဆောက်တည်ခြင်း၊ ဝတ်ကြီး၊ ဝတ်ငယ် ပြုစုခြင်း၊ ပါဠိတော်များ သင်ယူခြင်း၊ တရားထူးရခြင်း၊ တစ်ပါးတည်း ကိန်းအောင်းခြင်း၊ သတိပဋ္ဌာန် ပွားများခြင်း၊ ဣန္ဒြေကို စောင့်စည်းခြင်း၊ အစားအသောက်၌ အတိုင်အရှည်ရှိခြင်း၊ နိုးကြား ထကြွခြင်း တို့၌ တိုးတက်၍ တိုးတက်၍သာ လာစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား- လသည် ကြယ်တာရာ အပေါင်း၏အကြီးအမှူးဖြစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆန္ဒာဓိပတိ တည်းဟူသော မွန်မြတ်သော အကြီးအမှူးရှိသည် ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လသည် ညဥ့်အခါ၌ လှည့်လည် ထွက်ပေါ်လာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်သူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လသည် ဗိမာန်တံခွန် ဖြစ်၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် သီလတည်းဟူသော တံခွန်ရှိသူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လသည် ကမ္ဘာဦးလူတို့၏ တောင့်တမှုကြောင့် ပေါ်ထွက် လာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဒါယကာတို့က ကြည်ညိုစွာ တောင်းပန်ပင့်ရောက် ကြသဖြင့် ဒါယကာတို့ထံ ချဉ်းကပ်သူဖြစ်ရာ၏။ လ ၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် သံယုတ္တနိကာယ်၌-

'ရဟန်းတို့၊ သင်တို့သည် လနှင့်အလားတူစွာ ကိုယ်ကို မငြိကပ်ဘဲ ရှောင်လွှဲ၍သာလျှင် စိတ်ကိုမငြိကပ်ဘဲ ရှောင်လွှဲ၍သာလျှင် အမြဲအားဖြင့် ရောက်လာခါစ အာဂန္တုပုဂ္ဂိုလ်ကဲ့သို့ ခက်ထန်ကြမ်းကြုတ်ခြင်း ကင်းကုန်၍ ဒါယကာထို့ထံ ချဉ်းကပ်ကြကုန်၏ဟု ဟောကြားတော် မူပေ၏'

## ၀။ နေ၏ အင်္ဂါခုနစ်ပါး

'အရှင် နာဂသေနဘုရား၊ နေ၏ အဘယ် အင်္ဂါခုနစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ နေသည် ရေကို ခန်းခြောက်စေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသော ကိလေသာတို့ကို ခန်းခြောက်စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နေသည် အမိုက်မှောင်ကို ပယ်ဖျောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ကိလေသာနှင့် ဒုစရိုက် အမှောင်တို့ကို ပယ်ဖျောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နေသည် မြဲတစေ လှည့်လည်နေ၏၊ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အမြဲတစေ သင့်လျော်သောအားဖြင့် နှလုံးသွင်းရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နေတွင် ရောင်ခြည်တည်း ဟူသော ပန်းကုံးရှိ၏။ ဤအတူသာပင် ယောဂီ ပုဂ္ဂိုလ်သည် ကမ္မဋ္ဌာန်းအာရုံတည်းဟူသော ပန်းကုံးရှိသည် ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နေသည် လူအပေါင်းအား ကောင်းစွာ နွေးစေလျက် လှည့်လည်ရာ၏၊ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အကျင့် သီလ၊ ဝတ်ကြီးဝတ်ငယ်၊ ဈာန်၊

ဝိမောက္ခ၊ သမာဓိ၊ သမာပတ်၊ ဗောဓိပက္ခိယတရားတို့ဖြင့် နတ်နှင့်တကွသော လူအပေါင်းကို ကောင်းစွာ ပူဇော်စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နေသည် ရာဟု အသူရိန်နတ်ကြီးကို ကြောက်ရွံ့လျက် လှည့်လည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိစ္ဆာ၊ ဒိဋ္ဌိတည်းဟူသော လမ်းလွဲသို့ သွားနေကြသော သတ္တဝါတို့ကိုမြင်၍ ကြီးစွာသော ထိတ်လန့်ခြင်းဖြင့် မိမိစိတ်ကို ထိတ်လန့်စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– နေသည် အကောင်း အဆိုးကို ထင်ရှားစွာ ပြသ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လောကီ၊ လောကုတ္တရာ တရားတို့ကို ထင်ရှားစွာပြ၏။ နေ၏ အင်္ဂါခုနစ်ပါးတို့ကို ယူအပ်ပေ၏'

## ၉။ သိကြားမင်း၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ သိကြားမင်း၏ အဘယ် အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သိကြားမင်းသည် ဧကန်အားဖြင့် ချမ်းသာခြင်းနှင့် ပြည့်စုံ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်ရာ၌ ချမ်းသာစွာ မွေ့လျော်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သိကြားမင်းသည် နတ်တို့ကိုမြင်သောအခါ ရွှင်လန်းစေရန် ချီးမြှောက်စကား ပြောကြားတတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကုသိုလ်တရားတို့၌ မငြီးငွေ့စေရန် စိတ်ကို ချီးမြှောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သိကြားမင်းသည် မမွေ့လျော်သည် ဟူ၍ မရှိပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်ရာ၌ မမွေ့လျော်သည်ဟူ၍ မရှိစေရာ။ သိကြားမင်း၏ ဤသုံးပါးတို့ကို ယူအပ်ပေ၏'

## ၁၀။ စကြဝတေးမင်း၏ အင်္ဂါလေးပါး

'အရှင် နာဂသေနဘုရား၊ စကြဝတေးမင်း၏ အဘယ် အင်္ဂါလေးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ စကြဝတေးမင်းသည် သင်္ဂဟဝတ္ထု လေးပါးတို့ဖြင့် တိုင်းသူပြည်သား လူအများအား ချီးမြှောက်တတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ပရိသတ်လေးပါးတို့၏ စိတ်ကို ချီးမြှောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– စကြဝတေးမင်း၏ တိုင်းနိုင်ငံ၌ ခိုးသားတို့သည် မထမကြွ မသောင်းကျန်းကြကုန်။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကာမဝိတက်၊ ဗျာပါဒဝိတက်၊ ဝိဟိံသာဝိတက်တို့ကို မထကြွ၊ မသောင်းကျန်းစေရာ။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

'အကြင်သူသည် ကာမဝိတက် စသည်တို့မှ အေးငြိမ်းရာအာရုံ၌ မွေ့လျော်သည် ဖြစ်၍သာလျှင် အခါခပ်သိမ်း သတိထားလျက် အသုဘ အာရုံကို ပွားများ၏။ ဤသူသည် ကိလေသာပျက်စီးအောင် ပြုနိုင်ပေလတ္တံ့၊ မာရ်နတ်မင်း၏ အနှောင်အဖွဲ့ကို ဖြတ်တောက်နိုင်လတ္တံ့ဟု ဟောကြားတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား စကြဝတေးမင်းသည် နေ့စဉ်နေ့တိုင်း သမုဒ္ဒရာအဆုံးရှိသော မြေအပြင်၌ ကောင်းမှု၊ မကောင်းမှုတို့ကို လေ့လာစူးစမ်းလျက် လှည့်လည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကာယကံ၊ ဝစီကံ၊ မနောကံတို့ဖြင့် စွပ်စွဲစရာ မပေါ်လာဘဲ ငါသည် တစ်နေ့တာကို ကျော်လွန်ခဲ့ပါ၏လောဟု နေ့စဉ်နေ့စဉ် လေ့လာစူးစမ်း၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား စကြဝတေးမင်းသည် နန်းတော်အတွင်းနှင့် နန်းတော်ပြင်ပတို့၌ အစောင့်အရှောက်တို့ကို အလုံအလောက် စီစဉ်ချထား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိုယ်တွင်းကိုယ်ပ၌ ကိလေသာတို့ကို စောင့်ရှောက်နိုင်ရန် သတိတရားကို ထားရှိရာ၏။ စကြဝတေးမင်း၏ ဤအင်္ဂါလေးပါးကို ယူအပ်၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည်–

'ရဟန်းတို့၊ သတိတည်းဟူသော တံခါးစောင့်ရှိသော အရိယာသာဝကသည် အကုသိုလ်ကို စွန့်ပယ်၏။ ကုသိုလ်ကို ပွားများ၏။ အပြစ်ရှိသော တရားကို စွန့်ပယ်၏။ အပြစ်မရှိသော တရားကို ပွားများ၏။ မိမိကိုယ်ကို စင်ကြယ်စွာ ဆောင်၏ဟု ဟောကြားတော် မူပေ၏'

❋ ❋ ❋




## ၁။ ခြ၏ အင်္ဂါတစ်ပါး

‘အရှင် နာဂသေနဘုရား၊ ခြ၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်’

‘မင်းမြတ်၊ ခြသည် မြေအမိုးဖြင့် မိမိကိုယ်ကို ဖုံးအုပ်လျက် အစာရှာရန် လှည့်လည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သီလဖြင့် မိမိစိတ်ကို ဖုံးအုပ်လျက် ဆွမ်းခံရာ၏။ သီလစောင့်ထိန်းမှုဟူသော အဖုံးဖြင့် အလုံးစုံသောဘေးကို လွန်မြောက်နိုင်၏။ ခြ၏ ဤအင်္ဂါ တစ်ပါးကို ယူအပ်ပေ၏’

## ၂။ ကြောင်၏ အင်္ဂါနှစ်ပါး

‘အရှင် နာဂသေနဘုရား၊ ကြောင်၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း’

‘မင်းမြတ်၊ ကြောင်သည် လိုဏ်ဂူကိုသွားသော် လည်းကောင်း၊ သစ်ခေါင်းသို့သွားသော် လည်းကောင်း၊ ပြာသာဒ်ဆောင်အတွင်းသို့သွားသော် လည်းကောင်း ကြွက်ကိုသာလျှင် ရှာဖွေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ရွာသို့သွားသော် လည်းကောင်း၊ တောသို့သွားသော် လည်းကောင်း၊ သစ်ပင်ရင်းသို့သွားသော် လည်းကောင်း၊ ဆိတ်ငြိမ်ရာအရပ်သို့ သွားသော် လည်းကောင်း၊ ကာယဂတာသတိ ကိုသာလျှင် မမေ့ မလျော့ ရှာဖွေရာ၏။

‘မင်းမြတ်၊ နောက်တစ်မျိုးကား ကြောင်သည် အနီးအပါး၌သာလျှင် အစာကို ရှာဖွေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဥပါဒါ နက္ခန္ဓာငါးပါးတို့၌သာလျှင် ဖြစ်ခြင်း၊ ပျက်ခြင်းကို အဖန်ဖန် ရှုဆင်ခြင်၍ နေရာ၏။ ကြောင်၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

‘မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

‘ဤကိုယ်မှ အဝေး မရှာဖွေလင့်။ အထက်ဘဝဂ် တည်းဟူသော ဗြဟ္မာ့ပြည်သည် အဘယ်အကျိုးပြုနိုင်အံ့နည်း။ မိမိကိုယ်၌သာ ရှာဖွေကြကုန်လော့ဟု ဟောကြားတော်မူပေ၏’

## ၃။ ကြွက်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ကြွက်၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကြွက်သည် ထိုမှဤမှ သွားလာသည်ရှိသော် အစာရှိရာကိုသာ ရှေးရှုသွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ထိုမှဤမှ လှည့်လည်သွားလာသည်ရှိသော် သင့်လျော်သော နှလုံးသွင်းခြင်းကိုသာ ရှေးရှုလှည့်လည်သွားလာရာ၏။ ကြွက်၏အင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၄။ ကင်းမြီးကောက်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ကင်းမြီးကောက်၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကင်းမြီးကောက်သည် အမြီး တည်းဟူသော လက်နက်ကို ထောင်လျက် သွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဉာဏ်တည်းဟူသော လက်နက်ကို ထောင်လျက်သာ နေထိုင်ရာ၏။ ကင်းမြီးကောက်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝင်္ကန္တပုဏ္ဏား၏ သားဖြစ်သော အရှင် ဥပသေနသည် ဉာဏ်တည်းဟူသော သန်လျက်ကို ကိုင်စွဲလျက် ဝိပဿနာ ရှုမြင်ပွားများနေသော သူသည် အလုံးစုံသော ဘေးမှ လွတ်မြောက်နိုင်၏။ သူတစ်ပါးတို့ မညှဉ်းဆဲနိုင်သူဖြစ်၏ဟု မိန့်ကြားတော်မူပေ၏'

## ၅။ မြွေပါ၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ မြွေပါ၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မြွေပါသည် ကိုယ်ကာဆေးဖြင့် မိမိကိုယ်ကို မွမ်းထုံပြီးမှ မြွေအနားသို့ချဉ်းကပ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အားကြီးလှစွာသော အမျက်ရန်ငြိုးဖြင့် ခိုက်ရန်ဖြစ်ပွားနေကြသော သူတို့ထံသို့ချဉ်းကပ်သောအခါ မိမိစိတ်ကို မေတ္တာဘာဝနာဖြင့် ရှေးဦးစွာ ထုံမွမ်း ထားရာ၏။ မြွေပါ၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၆။ မြေခွေးအို၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ မြေခွေးအို၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မြေခွေးအိုသည် အစာကိုရသောအခါ ရွံရှာစက်ဆုပ်ခြင်းမရှိဘဲ အားပါးတရ စားသောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ယုတ်ညံ့သော ဘောဇဉ်ကို ရရှိသည်ရှိသော် ရွံရှာစက်ဆုပ်မှုမပြုဘဲ ခန္ဓာကိုယ် မျှတရေးအတွက်သာ ရည်စွယ်၍ စားသောက်ရာ၏။

'မင်းမြတ်၊ အရှင်မဟာကဿပသည်–

'ငါသည် ကျောင်းမှ ဆင်းသက်၍ ရွာတွင်းသို့ ဆွမ်းခံဝင်ခဲ့၏။ ထမင်းစားနေသော နူနာရောဂါသည် ယောကျ်ားတစ်ယောက်ထံသွား၍ ဆွမ်းရပ်၏။ နူနာရောဂါသည် ယောကျ်ားသည် ပြည်ပုပ်များ၊ သွေးခြောက်များ လိမ်းကျံနေသော လက်ဖြင့် စားနေဆဲထမင်းထဲမှ ဆုပ်ယူ၍ ငါ့အား ဆွမ်းလောင်း၏။ ဆွမ်းလောင်းစဉ်မှာပင် နူနာစွဲနေသော လက်ချောင်းသည် သပိတ်ထဲသို့ ပြုတ်၍ ကျ၏။ ငါသည် တိုက်နံရံအခြေတစ်ခုကိုမှီ၍ ထိုဆွမ်းလုတ်ကိုစား၏။ စားနေဆဲမှာ လည်းကောင်း၊ စားပြီးနောက်မှာ လည်းကောင်း ငါသည်စက်ဆုပ်ရွံ့ရှာခြင်းမရှိပေ' ဟု မိန့်ကြားတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြေခွေးအိုသည် အစာကိုရသည် ရှိသော် ကြမ်းတမ်း၏ဟူ၍ လည်းကောင်း၊ မွန်မြတ်သည် ဟူ၍ လည်းကောင်း မရွေးချယ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဘောဇဉ်ကို ရသည်ရှိသော် အကောင်း အဆိုးကို မရွေးချယ်ရာ။ ရလာသမျှသော အစာဖြင့်သာ ရောင့်ရဲတင်းတိမ်ရာ၏။ မြေခွေးအို၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏'

## ၇။ သမင်၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ သမင်၏ အဘယ်အင်္ဂါ သုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သမင်သည် နေ့အခါတွင် တောသဲ၌ လှည့်လည်၏။ ညဉ့်အခါတွင် လွင်တီးခေါင်ပြင်၌ လှည့်လည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် နေ့အခါတွင် တောထဲ၌ နေရာ၏။ ညဉ့်အခါတွင် လွင်တီးခေါင်၌နေရာ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် ကြက်သီးထဖွယ်ရာများကို ပြဆိုသော လောမဟံသန ဒေသနာတော်၌–

'သာရိပုတ္တရာ၊ တပို့တွဲလ၊ တပေါင်းလ တို့စပ်ကြားတွင် ဆီးနှင်းများ ကျ၍ အလွန်တရာ ချမ်းအေးလှသော ရှစ်ရက်တို့၌ ငါဘုရားသည် ညဉ့်အခါတွင် လွင်တီးခေါင်၌နေ၏။ နေ့အခါတွင် တောအုပ်၌နေ၏။ နွေရာသီ၏ နောက်ဆုံးတစ်လ၌ နေ့အခါတွင် လွင်တီးခေါင်၌ နေ၏။ ညဉ့်အခါတွင် တောအုပ်၌ နေ၏' ဟု ဟောတော်မူပေ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သမင်သည် မိမိထံသို့ လှံဖြစ်စေ၊ မြားဖြစ်စေ ပြေးဝင်လာသောအခါ လှည့်ပတ်၍ပြေးသွား၏။ လက်နက်များ အနီးသို့ ကိုယ်ကိုအရောက်မခံပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိမိထံသို့ ကိလေသာများ ပြေးဝင်လာသောအခါ လှည့်ပတ်ပြေးသွားရာ၏။ ကိလေသာ၏ အနီးသို့ စိတ်အရောက်မခံရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား သမင်သည် မိမိအား လူတို့က မမြင်စေလိုသဖြင့် ထိုအရပ်သို့ ပြေးဝင်ပုန်းအောင်း၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ခိုက်ရန်ဖြစ်တတ်ကုန်သော၊ ငြင်းခုံလေ့ရှိကုန်သော၊ သီလမရှိကုန်သော၊ ပျင်းရိကုန်သော၊ အပေါင်းအဖော်တို့၌ မွေ့လျော်တတ်ကုန်သောသူတို့က မိမိအား မမြင်မတွေ့စေလိုသဖြင့် လွတ်ရာကျွတ်ရာသို့ ပြေးဝင်ပုန်းအောင်းရာ၏။ သမင်၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏'

## ၈။ နွားအုပ်၏ အင်္ဂါလေးပါး

'အရှင် နာဂသေနဘုရား၊ နွားအုပ်၏ အဘယ်အင်္ဂါ လေးပါးကို ယူအပ်ပါသနည်း:'

'မင်းမြတ်၊ နွားအုပ်သည် မိမိနေမြဲခြံကို မစွန့်ခွာပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဤကိုယ်ကောင်သည် အမြဲမရှိ။ အဝတ်တို့ဖြင့် ဖုံးလွှမ်းထားအပ်၏။ နှိပ်နယ်ပေးအပ်၏။ ပြိုကွဲခြင်း၊ ဖရိုဖရဲပြန့်ကျဲခြင်း၊ ပျက်စီးခြင်း သဘောရှိပေ၏ဟူ၍ မိမိကိုယ်၌ ရှုဆင်ခြင်ခြင်းကို မစွန့်ခွာရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား နွားအုပ်သည် ဝန်လေးသော ပစ္စည်းတို့ကို ထမ်းဆောင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မြတ်သော အကျင့်ကို အသက်ထက်ဆုံး ထမ်းဆောင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နွားအုပ်သည် အလိုအာသာဖြင့်အနံ့ကို ခံယူကာ ရေကိုသောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆရာဥပဇ္ဈာယ်တို့၏ ဆုံးမသင်ကြားခြင်းကို အလိုအာသာ ရှိလျက် ခံယူဆောက်တည်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား နွားအုပ်သည် တစ်စုံတစ်ယောက်က ဝန်ကို သယ်ဆောင်စေသောအခါ ကောင်းမွန်စွာ သယ်ဆောင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သီတင်းကြီး၊ သီတင်းလတ်ဖြစ်သော ရဟန်းတို့က ဆိုဆုံးမလျှင် လည်းကောင်း၊ လူဥပါသကာတို့က ဆုံးမစကား ပြောကြားလျှင် လည်းကောင်း ရိုသေစွာ ခံယူရာ၏။

'မင်းမြတ်၊ တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာသည်-

'ခုနစ်နှစ်အရွယ်သာ ရှိသေး၍ ယနေ့မှ ရှင်ပြုလာသော သာမဏေငယ်သည် အကယ်၍ ငါ့ကို ဆုံးမငြားအံ့။ ထိုအဆုံးအမကို ငါသည် ဦးထိပ်ဖြင့် ခံယူပါ၏။ ထိုသာမဏေငယ်ကို ဖူးမြင်ရလျှင် ချစ်ခင်လေးမြတ်စွာ ဆည်းကပ်ပါအံ့။ အကြိမ်ကြိမ် အရိုအသေပြု၍ ဆရာ့အရာ၌ ထားပါအံ့ဟု မိန့်ကြားတော်မူပေ၏'

## ၉။ ဝက်၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ ဝက်၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း:'

'မင်းမြတ်၊ ဝက်သည် အလွန်တရာပူအိုက်လှသော နွေရာသီသို့ရောက်သောအခါ ရေရှိရာ ချဉ်းကပ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည်လည်း အမျက်ဒေါသကြောင့် စိတ်နှလုံး

ပူလောင်လာသောအခါ မေတ္တာ ဘာဝနာသို့ ချဉ်းကပ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– ဝက်သည် နှာခေါင်းဖျားဖြင့် မြေကြီးကို တူးဆွ၍ ကျင်းဖွဲ့ပြီးလျှင် ထိုကျင်း၌အိပ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိုယ်ခန္ဓာကို ကမ္မဋ္ဌာန်း အာရုံယူကာ ထိုအာရုံအတွင်းသို့ သက်ဝင်ပွားများ၍ နေထိုင်ရာ၏။

'မင်းမြတ်၊ အရှင်ပိဏ္ဍောလဘာရဒွါဇသည်–

'ဝိပဿနာ ရှုသော သူသည် ကိုယ်ခန္ဓာ၌ အနိစ္စ စသော သဘောကိုရှုမြင်၍ စူးစမ်း ဆင်ခြင်လျက် အဖော်မမှီး တစ်ပါးတည်းဖြင့် သတိပဋ္ဌာန် စသော အာရုံအတွင်း၌ အိပ်နေ၏ဟု မိန့်ကြားတော်မူပေ၏'

## ၁၀။ ဆင်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ ဆင်၏ အဘယ်အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ဆင်သည် သွားနေစဉ် အတောအတွင်းမှာပင် မြေကြီးကို ခွဲ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိုယ်ခန္ဓာကို သုံးသပ်ဆင်ခြင်လျက်သာလျှင် ကိလေသာကို ခွဲဖျက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဆင်သည် လှည့်လည်ရန် ရှိသောအခါ တစ်ကိုယ်လုံး သာ လှည့်လည်၏။ ရှေ့တူရူ အရပ်သို့သာ ဖြောင့်စွာကြည့်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မျက်နှာကို တည့်မတ်စွာ ထားလျက်သာ ကြည့်ရာ၏။ ထက်အောက် ဘယ်ညာ အရပ်များသို့ စောင့်ငဲ့၍ မကြည့်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဆင်သည် အမြဲတမ်းနေရာဟူ၍ သတ်မှတ်မထားဘဲ ရောက်ရာအရပ်၌သာ နေထိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အမြဲတမ်းနေရာဟူ၍ သတ်မှတ်မထားဘဲ၊ စွဲလမ်းတပ်မက်မနေဘဲ ဆွမ်းခံထွက်ရာ၏။ မဏ္ဍပ်၊ သစ်ပင်ရင်း၊ လိုဏ်ဂူ၊ တောင်ဝှမ်းတို့ကို တွေ့မြင်သော် မိမိနှစ်သက်ရာ နေရာ၌ နေထိုင်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဆင်သည် စင်ကြယ် အေးမြသောရေရှိ၍ ကြာအပေါင်းတို့ ဖုံးလွှမ်းနေသော အိုင်ကြီးကို သက်ဆင်းကာ ရေကစား နေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မြတ်သော တရားဖြင့် ပြည့်သော၊ အရဟတ္တမဂ်ဖြင့် ဖုံးလွှမ်းထားသော မဟာသတိပဋ္ဌာန်သို့ သက်ဝင်ကာ ဉာဏ်ဖြင့် ကိလေသာတို့ကို ခါချရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဆင်သည် သတိထား၍ ခြေကိုကြွ၏။ ခြေကိုချ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သတိသမ္ပဇဉ်ယှဉ်ကပ်လျက် အလုံးစုံသော ကိုယ်အမူအရာတို့၌ ယှဉ်ကပ်ရာ၏။ ဆင်၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည်-

'ကိုယ်ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏။ နှုတ်ဖြင့် စောင့်စည်းခြင်းသည် ကောင်း၏။ စိတ်ဖြင့်စောင့်စည်းခြင်းသည် ကောင်း၏။ အလုံးစုံဖြင့် စောင့်စည်းခြင်းသည်ကောင်း၏။ အလုံးစုံသော ဒွါရတို့၌ မကောင်းမှုမှ ရှက်ကြောက်၍ စောင့်စည်းသောသူကို စောင့်ရှောက်သူ၊ လုံခြုံသူဟူ၍ ဆိုအပ်၏ဟု ဟောကြားတော် မူပေ၏'




## ၁။ ခြင်္သေ့၏ အင်္ဂါခုနစ်ပါး

'အရှင် နာဂသေနဘုရား၊ ခြင်္သေ့၏ အဘယ်အင်္ဂါ ခုနစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ခြင်္သေ့သည် ညစ်ကြေးမတင် စင်ကြယ်သန့်ရှင်း၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ညစ်ကြေးမတင် စင်ကြယ်သန့်ရှင်းသောစိတ်ဖြင့် ယုံမှားမှုကင်းသူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြင်္သေ့သည် ခြေထောက် လေးချောင်းဖြင့် အလွန်ရဲရင့်စွာ လှည့်လည် သွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဣဒ္ဓိပါဒ် လေးပါးတို့ဖြင့် အလွန်ရဲရင့်စွာ လှည့်လည်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြင်္သေ့သည် အလွန်လှပ၍ နှစ်သက်ဖွယ်ကောင်းသော လည်ဆံရှိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် စင်ကြယ်သန့်ရှင်း၍ နှစ်သက်ဖွယ်ကောင်းသော သီလနှင့် ပြည့်စုံရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြင်္သေ့သည် အသက်ပင် သေဆုံးပါစေ။ တစ်စုံတစ်ခုသော သတ္တဝါကိုမျှ ဦးမညွတ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ပစ္စည်းလေးပါးတို့ ပြတ်လပ်ချင် ပြတ်လပ်ပါစေ။ မည်သူကိုမျှ ဦးမညွတ်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြင်္သေ့သည် သားကောင်တစ်ကောင်ကိုရလျှင် အစဉ်အတိုင်းသာစား၏။ ကျရာအရပ်မှာသာ စား၏။ အသားကောင်းကို ရွေးချယ်မနေပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆွမ်းဘောဇဉ်ကို အစဉ်အတိုင်းသာ စားသောက်ရာ၏။ ဆွမ်းလှူသူနှင့် ဆွမ်းဘောဇဉ်ကို မရွေးချယ်ရာ။ ခန္ဓာကိုယ် မျှတရေးအတွက် ဆွမ်းလုတ်ယူရာ နေရာမှာသာ စားသောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြင်္သေ့သည် အစာကို သိုမှီး သိမ်းဆည်း၍ မထားပေ။ တစ်ကြိမ်စားထားပြီးသော အရပ်သို့ နောက်တစ်ကြိမ် မချဉ်းကပ်တော့ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အစာအာဟာရကို သိုမှီးသိမ်းဆည်းခြင်း မပြုမူ၍ စားသောက်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခြသေ့်သည် အစာမရသော် မပူပင်၊ မတောင့်တ၊ အစာရသော်လည်း မတပ်မက်၊ မတွေဝေ၊ အလွန်လောဘ မကြီးဘဲ စားသောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဘောဇဉ်ကိုမရသော် မပူပင်၊ မတောင့်တရာ။ ဘောဇဉ်ကိုရသော်လည်း မတပ်မက်၊ မတွေဝေရာ၊ အလွန်လောဘမကြီးမူ၍ အပြစ်ကိုရှုမြင်ကာ သံသရာမှ လွတ်မြောက်နိုင်စေသော ဉာဏ်ပညာဖြင့် ဆင်ခြင်သုံးသပ်၍ စားသောက်ရာ၏။ ခြသေ့်၏ ဤအင်္ဂါခုနစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် သံယုတ္တနိကာယ်၌ အရှင်မဟာကဿပအား ချီးကျူးတော်မူလိုသည်ဖြစ်၍–

'ရဟန်းတို့၊ ဤကဿပသည် ရတတ်သမျှသော ဆွမ်းဖြင့် ရောင့်ရဲ၏။ ရတတ်သမျှဆွမ်းဖြင့် ရောင့်ရဲခြင်း၏ ဂုဏ်ကျေးဇူးကိုလည်း ပြောဆိုလေ့ရှိ၏။ ဆွမ်းကိုအကြောင်းပြု၍ မအပ်စပ်သော ရှာမှီခြင်းဖြင့် မရှာမှီးပေ။ ဆွမ်းကိုမရသော် မပူပင်၊ မတောင့်တပေ။ ဆွမ်းကို ရသော်လည်း မတပ်မက်၊ မတွေဝေပေ။ လောဘ အလွန်မသက်ရောက်စေဘဲ အပြစ်ကိုရှုမြင်ကာ သံသရာမှ ထွက်မြောက်ကြောင်း ပညာရှိသည်ဖြစ်၍ သုံးဆောင်၏'ဟု ဟောကြားတော်မူပေ၏'

## ၂။ စက္ကဝက်ငှက်၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ စက္ကဝက်ငှက်၏ အဘယ်အင်္ဂါ သုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ စက္ကဝက်ငှက်သည် မိမိအဖော်ကို ရာသက်ပန်မစွန့်ပစ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အသင့်အတင့် နှလုံးသွင်းခြင်းကို ရာသက်ပန် မစွန့်လွှတ်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား စက္ကဝက်ငှက်သည် မှော်သေး၊ မှော်ညင်းကိုသာ စားသောက်၏။ ထိုသို့စားသောက်သဖြင့် အင်အားလည်းမဆုတ်မယုတ်ပေ။ အရောင်အဆင်းလည်း မညှိုးမိန်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကောင်းဆိုးယုတ်မြတ် ရတတ်သမျှကိုသာ သုံးဆော-င်၍ ရောင့်ရဲရာ၏။ ထိုသို့ရောင့်ရဲ၍ ကမ္မဋ္ဌာန်းစီးဖြန်းနေပါလျှင် သီလ၊ သမာဓိ၊ ပညာ၊ အရဟတ္တဖိုလ်၊ အရဟတ္တဖိုလ်ကို ဆင်ခြင်သော ပစ္စဝေက္ခဏာဉာဏ် တို့နှင့် တကွ အလုံးစုံသော ကုသိုလ်တရားတို့မှ မဆုတ်ယုတ်ပေ။

'မင်းမြတ်၊ နောက်တစ်မျိုးကား စက္ကဝက်ငှက်သည် သတ္တဝါတို့ကို မညှဉ်းဆဲ၊ မသတ်ဖြတ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တုတ်လက်နက်တို့ကို မကိုင်ဆောင်ရာ။ မကောင်းမှုကို ရှက်ရာ၏။ အလုံးစုံသော သတ္တဝါတို့ကို သနားသဖြင့် စောင့်ရှောက်ရာ၏။ စက္ကဝက်ငှက်၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော် ဘုရားရှင်သည် စက္ကဝါကဇာတ်တော်၌–

'အကြင်သူသည် ကိုယ်တိုင်လည်းမသတ်၊ သူတစ်ပါးကိုလည်းမသတ်စေ။ ကိုယ်တိုင်လည်း အနိုင်မကျင့်၊ သူတစ်ပါးကိုလည်း အနိုင်မကျင့်စေ။ အလုံးစုံသော သတ္တဝါတို့ကို မေတ္တာထား၏။ ထိုသူမှာ တစ်စုံတစ်ယောက်နှင့်မျှ ရန်မဖြစ်နိုင်ဟု ဟောကြားတော်မူပေ၏'

## ၃။ အောက်ချင်းငှက်မ၏ အင်္ဂါ နှစ်ပါး

'အရှင် နာဂသေနဘုရား၊ အောက်ချင်းငှက်မ၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ အောက်ချင်းငှက်မသည် မိမိလင်အပေါ်ငြူစူသဖြင့် သားငယ်တို့ကို အစာမကျွေးပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိမိစိတ်၌ဖြစ်ပေါ်လာသော ကိလေသာတို့ကို ငြူစူရာ၏။ သတိပဋ္ဌာန်ဖြင့် ကောင်းစွာဆို့ပိတ်၍ ကာယဂတာသတိကို ပွားများရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– အောက်ချင်းငှက်မသည် နေ့အခါတွင် တောထဲ၌ လှည့်လည်ကျက်စားကာ ညဥ့်အခါတွင် အောက်ချင်းငှက်အုပ်သို့ ပြန်ဝင်လာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သံယောဇဉ်မှ လွတ်စေရန် ဆိတ်ငြိမ်ရာ၌ တစ်ဦးတည်း နေထိုင်ရာ၏။ ဆိတ်ငြိမ်ရာ၌ မမွေ့လျော်နိုင်လျှင် သူတစ်ပါးတို့စွပ်စွဲခြင်းမှ ကင်းလွတ်စေရန် သံဃာ့ဘောင်သို့ ခိုဝင်၍ နေထိုင်ရာ၏။ အောက်ချင်းငှက်မ၏ ဤအင်္ဂါ နှစ်ပါးကို ယူအပ်ပေ၏'

## ၄။ ခို၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ခို၏ အဘယ်အင်္ဂါ တစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ခိုသည် သူတစ်ပါးအိမ်၌ မှီခို၍နေရသည်ရှိသော် ထိုသူတစ်ပါးတို့က ပိုင်ဆိုင်သော ဥစ္စာဘဏ္ဍာတို့၏ ပုံပန်းသဏ္ဌာန် စသည်ကို ဂရုတစိုက် မှတ်သားမထားဘဲ လျစ်လျူရှု၍သာ နေထိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဒါယကာတို့၏ အိမ်သို့ ချဉ်းကပ်သည်ရှိသော် ထိုအိမ်မှာ ရှိနေကြသော ယောက်ျား၊ မိန်းမ၊ ညောင်စောင်း၊ အင်းပျဉ်၊ အဝတ်ပုဆိုး၊ အဆင်တန်ဆာ၊ အိမ်တွင်းအိမ်ပြင် အသုံးအဆောင်များ၊ စားသောက်ဖွယ်ရာများတို့၏ ပုံပန်းသဏ္ဌာန် စသည်တို့ကို ဂရုတစိုက်မှတ်သားမထားဘဲ လျစ်လျူရှု၍သာ ချဉ်းကပ်ရာ၏။ ရဟန်းဟူသော အမှတ်သညာကို ရှေးရှု၍ ဖြစ်စေရာ၏။ ခို၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၅။ ခင်ပုတ်ငှက်၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ ခင်ပုတ်ငှက်၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ခင်ပုတ်ငှက်သည် ညဥ့်အခါ၌ ကျီးအပေါင်းရှိရာသို့ သွားရောက်လျက် ကျီးများစွာတို့ကို သတ်ဖြတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တစ်ပါးတည်းဆိတ်ငြိမ်ရာသို့ ချဉ်းကပ်၍ မောဟကိုကောင်းစွာ နှိမ်နင်းရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ခင်ပုတ်ငှက်သည် လုံခြုံစွာ ကိန်းအောင်း၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆိတ်ငြိမ်ရာ၌ တစ်ပါးတည်းကိန်းအောင်း၍ မွေ့လျော်ရာ၏။ ခင်ပုတ်ငှက်၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

'ဤသာသနာတော်၌ ရဟန်းသည် ဆိတ်ငြိမ်ရာ၌ မွေ့လျော်ပျော်ပိုက်သည် ဖြစ်၍ ဤတရားကား ဆင်းရဲခြင်းတည်း။ ဤတရားကား ဆင်းရဲဖြစ်ပေါ်ကြောင်းတည်း။ ဤတရားကား ဆင်းရဲချုပ်ငြိမ်းရာတည်း။ ဤတရားကား ဆင်းရဲချုပ်ငြိမ်းရာသို့ ရောက်ကြောင်းတည်းဟု ဟုတ်တိုင်းမှန်စွာသိ၏ဟု ဟောကြားတော် မူပေ၏'

## ၆။ ခေါက်ရှာငှက်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ခေါက်ရှာငှက်၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ခေါက်ရှာငှက်သည် ပျံသန်းလျက် သူတစ်ပါးတို့အတွက် ဘေးရှိသည်၊ မရှိသည်ကိုတွန်မြည်၍ အသိပေးတတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တရားဟောကြားလျက် အပါယ်လေးပါး ကျရောက်ရသည့် ဘေးကို လည်းကောင်း၊ နိဗ္ဗာန်တည်းဟူသော ဘေးကင်းရာကို လည်းကောင်း ပြဆိုရာ၏။ ခေါက်ရှာငှက်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၇။ လင်းနို့၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ လင်းနို့၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လင်းနို့သည် အိမ်တွင်းသို့ဝင်၍ လှည့်လည်ပြီးလျှင် အိမ်ကို မနှောင့်ယှက်ဘဲ ထွက်ခွာသွား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ရွာအတွင်းသို့ ဆွမ်းခံဝင်ပြီးလျှင် ရလာသမျှသော ဆွမ်းကိုယူဆောင်၍ ရွာတွင်းမှ လျင်မြန်စွာထွက်ခွာရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လင်းနို့သည် သူတစ်ပါးအိမ်၌ နေသည်ရှိသော် အိမ်ရှင်တို့၏ ဆုတ်ယုတ်ပျက်စီးကြောင်းကို မပြုပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဒါယကာတို့အိမ်သို့ ချဉ်းကပ်သည်ရှိသော်နှုတ်မြွက်၍ အတောင်းများခြင်း၊ နှုတ်သံမမြွက် ကိုယ်အမူရာသက်သက်ဖြင့် အတောင်းများခြင်း၊ ဒါယကာတို့နှင့် အေးအတူပူအမျှစိတ်ထားရှိခြင်းတို့ဖြင့် ဒါယကာတို့အား စိတ်နှလုံး မသာမယာအောင် မပြုလုပ်ရာ။ ဒါယကာတို့ပြုလုပ်မြဲ လုပ်ငန်းဆောင်တာများကို မယုတ်လျော့စေရာ။ အဘက်ဘက်မှ ကြီးပွားချမ်းသာရေးကိုသာ ရှေးရှုရာ၏။ လင်းနို့၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏'

## ၈။ မျှော့၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ မျှော့၏ အဘယ်အင်္ဂါ တစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မျှော့သည် မိမိတွယ်တာလက်စရှိသော သူမှာသာ စွဲမြဲစွာတွယ်၍ သွေးကိုစုပ်ယူ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိမိပွားများ အားထုတ်လက်စ ကမ္မဋ္ဌာန်းအာရုံကို အဆင်း သဏ္ဌာန်၊ အရပ်မျက်နှာ၊ တည်ရာမှီရာ၊ အပိုင်းအခြား၊ အသွင်အပြင်၊ အမှတ်နိမိတ် တို့ဖြင့် စွဲမြဲအောင် ကြိုးစားပြီးလျှင် ထိုကမ္မဋ္ဌာန်းအာရုံဖြင့်ပင် အရဟတ္တဖိုလ် အရသာကို ခံစားရာ၏။ မျှော့၏ ဤအင်္ဂါ တစ်ပါးကို ယူအပ်ပေ၏'

'မင်းမြတ်၊ အရှင်အနုရုဒ္ဓါသည်–

'စင်ကြယ်လှစွာသော စိတ်ဖြင့် ကမ္မဋ္ဌာန်း အာရုံတည်၍ မည်သည့် အရသာနှင့်မျှ မရောယှက်သော ဝိမုတ္တဟူသော နိဗ္ဗာန်မဂ်ဖိုလ်အရသာကို ခံစားအပ်၏ ဟု မိန့်ကြားတော်မူပေ၏'

## ၉။ မြွေ၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ မြွေ၏ အဘယ်အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မြွေသည် ရင်ဘတ်ဖြင့်တွား၍သွား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ပညာဖြင့်သွားလာကျက်စားရာ၏။ ပညာဖြင့်သွားလာကျက်စားသော ယောဂီ၏စိတ်သည် နည်းမှန်လမ်းမှန် သဘောမှန်ကို သိမြင်၏။ မမှန်သော သဘောလက္ခဏာကို ရှောင်ကြဉ်၏။ ဟုတ်မှန်သော လက္ခဏာကို ပွားများ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြွေသည် အဆိပ်ပယ်စေသည့်ဆေးကို ရှောင်ကြဉ်သွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မကောင်းသောဒုစရိုက်အကျင့်တို့ကို ရှောင်ကြဉ်၍သွားလာရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မြွေသည် လူတို့ကို မြင်သောအခါပူပန်၏။ စိုးရိမ်၏။ ကြံစည်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မကောင်းသော အတွေးအကြံတစ်ခုခုကို တွေးတော ကြံစည်မိ၍ သာသနာတော်၌မမွေ့မလျော် ဖြစ်လာသော် ငါသည် မေ့လျော့ခြင်းဖြင့် နေ့ကိုကုန်လွန်စေခဲ့၏။ ထိုနေ့ကို နောက်ထပ်တစ်ဖန် မရနိုင်တော့ချေတကားဟု ပူပန်ရာ၏။ စိုးရိမ်ရာ၏။ ကြံစည်ရာ၏။ မြွေ၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏'

## ၁၀။ စပါးကြီးမြွေ၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ စပါးကြီးမြွေ၏ အဘယ်အင်္ဂါ တစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ စပါးကြီးမြွေသည် ကိုယ်ခန္ဓာ ကြီးမားလှသော်လည်း နေ့ရက်များစွာ ဝမ်းဟာလျက်နေရ၏။ ဝမ်းခေါင်းပြည့်အောင် အစာစားရသည်ဟူ၍မရှိဘဲ မျှတရုံလောက်သာ စားသောက်နေရ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဆွမ်းခံ၍ ဝလောက်အောင် မရသော်လည်း ရသမျှသော ဆွမ်းဖြင့်သာ မျှတ၍ နေရာ၏။ လေးငါးလုတ်စာဆက်၍ စားရမှ ဝမည်ဖြစ်သော်လည်း ထိုလေးငါးလုတ်စာကို ရေသောက်၍ ဖြည့်တင်းပေးရာ၏။ စပါကြီးမြွေ၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

❁ ❁ ❁



## ၁။ ပင့်ကူ၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ပင့်ကူ၏ အဘယ်အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ပင့်ကူသည် ပိုးကောင် မှွားကောင်တို့ ပျံသန်းရာလမ်းကြောင်း၌ ပင့်ကူအိမ်ကို ရက်လုပ်ထားပြီးလျှင် ထိုပင့်ကူအိမ်၌ ကပ်ဖမ်းမိသော ပိုးကောင်၊ ယင်ကောင်၊ နံကောင်တို့ကို စားသောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဒွါရခြောက်ပါးတို့၌ သတိပဋ္ဌာန်ဖြင့် ဖြန့်ကြက်ပြီးလျှင် တိုးဝင်လာသော ကိလေသာတို့ကို သတ်ဖြတ်ရာ၏။ ပင့်ကူ၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏'

## ၂။ နို့စို့ကလေး၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ နို့စို့ကလေး၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ နို့စို့ကလေးသည် နို့ဆာလာသောအခါ မိမိအကျိုးကို သာငဲ့ကွက်၍ငိုကြွေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အရဟတ္တဖိုလ် တည်းဟူသော မိမိအကျိုးကိုသာငဲ့ကွက်၍ ပါဠိတော်များ သင်ယူခြင်း၊ တရားအားထုတ်ခြင်း၊ ဆိတ်ငြိမ်ရာအရပ်၌ ဆရာနှင့် အတူနေထိုင်ခြင်း၊ အဆွေ ခင်ပွန်းကောင်းနှင့် ပေါင်းခြင်းတို့၌ ဉာဏ်ပညာ သက်ဝင်၍ ပြုလုပ်ရာ၏။ နို့မို့ဂလေး၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည် ဒီဃနိကာယ်မဟာပရိနိဗ္ဗာနသုတ်၌–

'အာနန္ဒာ၊ ငါဘုရား တိုက်တွန်း၏။ သင်တို့သည် မိမိအကျိုးစီးပွား၌ စေ့ဆော် အားထုတ်ကြကုန်လော့။ မိမိအကျိုးစီးပွားကို မမေ့မလျော့စေကြဘဲ ကိလေသာကို ပူပန်စေတတ်သော လုံ့လရှိကုန်သည် ဖြစ်၍ နေထိုင်ကြကုန်လော့ဟု ဟောကြားတော် မူခဲ့ပေ၏'

## ၃။ ကုန်းလိပ်ပြောက်၏ အင်္ဂါတစ်ပါး

'အရှင် နာဂသေနဘုရား၊ ကုန်းလိပ်ပြောက်၏ အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ကုန်းလိပ်ပြောက်သည် ရေကိုကြောက်သဖြင့် ရေရှိရာကို ရှောင်ကြဉ်၏။ ထိုသို့ရေကို ရှောင်ကြဉ်နေရသော်လည်း သူ၏ အသက်ခွန်အား ဆုတ်ယုတ်မသွားပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မေ့မလျော့မှုကို ဘေးဟုရှု၍ ရှောင်ကြဉ်ရာ၏။ မမေ့လျော့မှု၏ ဂုဏ်ကျေးဇူးကို ရှုမြင်၍ ဆည်းပူးရာ၏။ မေ့လျော့မှုကို ဘေးဟု ရှုမြင်၍ ရှောင်ကြဉ်ခြင်းကြောင့် ရဟန်းတရားမှ ဆုတ်ယုတ် မသွားပေ။ ထိုယောဂီပုဂ္ဂိုလ်သည် အနီးမှာကပ်၍ နေပေ၏။ ကုန်းလိပ်ပြောက်၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏'

## ၄။ တောအုပ်၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ တောအုပ်၏ အဘယ်အင်္ဂါ ငါးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ တောအုပ်သည် မစင်ကြယ်သော လူအပေါင်းကို ဖုံးအုပ်ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သူတစ်ပါး၏ အပြစ်များ၊ ချွတ်ယွင်းချက်များကို မပြောကြားဘဲ ဖုံးအုပ်ပေးရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား– တောအုပ်သည် လူများစွာတို့မှ ကင်းဆိတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အလုံးစုံသော ကိလေသာတို့မှ ကင်းဆိတ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား တောအုပ်သည် လူနေ ထူထပ်ခြင်းမှ ကင်းဆိတ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အရိယာတို့၏ ဥစ္စာမဟုတ်ကုန်သော ယုတ်ညံ့သော အကုသိုလ်တရားတို့မှ ကင်းဆိတ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား တောအုပ်သည် ငြိမ်သက်၍ စင်ကြယ်သန့်ရှင်း၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ငြိမ်သက်၍ စင်ကြယ်သန့်ရှင်းသူ ဖြစ်ရာ၏။ တပ်မက်ခြင်း၊ မာန်ထောင်လွှားခြင်း၊ သူ့ကျေးဇူးကို ချေဖျက်ခြင်းတို့ကို ပယ်စွန့်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား တောအုပ်သည် အရိယာ သူတော်ကောင်းတို့၏ အမြတ်တမ်းမှီဝဲအပ်သော နေရာဖြစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အရိယာသူကောင်းတို့၏ အမြတ်တမ်း မှီဝဲအပ်သော ပုဂ္ဂိုလ် ဖြစ်ပေရာ၏။ ဤတောအုပ်၏ ဤအင်္ဂါလေးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ် ဖြစ်တော်မူသော ဘုရားရှင်သည်–

'ရာဂ စသည်တို့မှ ကင်းဆိတ်ကုန်သော အကျင့်သီလ ဖြူစင်ကြကုန်သောစိတ်ကို နိဗ္ဗာန်သို့ စေလွှတ်ထား ကြကုန်သော၊ ကိလေသာကိုရှို့မြိုက် ကြကုန်သော၊ အမြတ်တမ်းထက်သန်သော ဝိရိယ ရှိကြကုန်သော ပညာရှိတို့နှင့်အတူ နေထိုင်ရာ၏ဟု ဟောကြားတော်မူပေ၏'

## ၅။ သစ်ပင်၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ သစ်ပင်၏ အဘယ်အင်္ဂါ သုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သစ်ပင်သည် အပွင့်ပွင့်၍ အသီး သီး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အရဟတ္တဖိုလ်တည်းဟူသော အကျိုးတရားနှင့်မဂ်ဖိုလ်တည်းဟူသော အကျိုးတရားကို ရရှိရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သစ်ပင်သည် မိမိအနီးသို့ ချဉ်းကပ်လာသူတို့အား အရိပ်ကို ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မိမိထံချဉ်းကပ်လာသူတို့အား ဆွမ်းခဲဖွယ်များ ကျွေးမွေးခြင်း၊ တရားစကား ချီးမြှင့်ခြင်းတို့ဖြင့် ပဋိသန္ဓာရဝတ် ပြုရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သစ်ပင်သည် မိမိအနီးသို့ ချဉ်းကပ်လာသူတို့အား ကွက်တိကွက်ကျား ပြုမနေရဘဲ တစ်စပ်တည်းသော အရိပ်ဖြင့် မိုး၍ ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ခိုးသူ၊ လူသတ်သမားနှင့် ရန်သူတို့ကို မိမိနှင့် မခွဲခြားဘဲ ထပ်တူထပ်မျှ မေတ္တာပွားရာ၏။ သစ်ပင်၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာသည်–

'ဘုရားရှင်သည် သတ်ပုတ်ညှဉ်းဆဲတတ်သော ဒေဝဒတ်အပေါ်၌လည်းကောင်း၊ အင်္ဂုလိမာလ ခိုးသားကြီးအပေါ်၌ လည်းကောင်း၊ မိမိအား နင်းသတ်ရန် အတင်းတရကြမ်း ပြေးလာခဲ့သော နာဠာဂိရိဆင်ကြီးအပေါ်၌ လည်းကောင်း၊ သားတော်ရာဟုလာ အပေါ်၌ လည်းကောင်း၊ အလုံးစုံသော သူတို့အပေါ်၌ ထပ်တူထပ်မျှ စိတ်ထားတော်မူ၏ဟု မိန့်ကြားတော်မူပေ၏'

## ၆။ မိုး၏ အင်္ဂါငါးပါး

'အရှင် နာဂသေနဘုရား၊ မိုး၏ အဘယ် အင်္ဂါငါးပါးတို့ကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မိုးသည် ထကြွနေသော မြူအညစ်အကြေးတို့ကို ငြိမ်ဝပ်သွားစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ထကြွလာသော ကိလေသာတို့ကို ငြိမ်ဝပ်သွားစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မိုးသည် မြေကြီး၏အပူကို ငြိမ်းအေးစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် နတ်နှင့်တကွသော လူအပေါင်းကို မေတ္တာဘာဝနာဖြင့် ငြိမ်းအေးစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မိုးသည် အလုံးစုံသော မျိုးစေ့တို့ကို အပင်ပေါက်စေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သတ္တဝါတို့အား သဒ္ဓါတရား ဖြစ်ပွားလာအောင် ဟောပြောကာ ထိုသဒ္ဓါတရားဖြင့် လူနတ်နိဗ္ဗာန်သုံးတန်သော ချမ်းသာကို ရအောင် ဆောင်ရွက်ပေးရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဥတုအားဖြင့် ဖြစ်ပွား၍ မြေပြင်ပေါ်ရှိမြက် သစ်ပင်၊ နွယ်၊ ချုံ၊ ဆေးပင်နှင့် တောစိုးသစ်ပင် တို့ကို စောင့်ရှောက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သင့်လျော်သော နှလုံးသွင်းခြင်းကြောင့် သာလျှင် အလုံးစုံသော ကုသိုလ်တရားတို့ ဖြစ်ပွားလာကြကုန်၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မိုးသည် မြစ်၊ တစ်ဖက်ဆည်ကန်၊ လေးထောင့်ကန်၊ ချောက်၊ ချောက်လက်တက်၊ ရေအိုင်၊ ထုံးအိုင်၊ ရေတွင်းတို့ကို မိုးရေဖြင့်ပြည့်စေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ပါဠိတော်များသင်ကြား၍ တရားဟောကြားကာ မဂ်တရား၊ ဖိုလ်တရား ရလိုသူတို့၏ စိတ်အလိုကို ပြည့်စေရာ၏။ မိုး၏ ဤအင်္ဂါငါးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာသည်–

'မုနိငါးပါးတို့ထက် မြင့်မြတ်တော်မူသော ဘုရားရှင်သည် ကျွတ်ထိုက်သောသတ္တဝါကို မြင်တော်မူလတ်သော် ယူဇနာတစ်သိန်း ဝေးကွာသော အရပ်တိုင်အောင် ထိုသူရှိရာသို့ ခဏချင်းဖြင့် ကြွတော်မူ၍ သစ္စာလေးပါး တရားတော်ကို ဟောကြားတော်မူပေ၏ ဟု မိန့်ကြားတော်မူပေ၏'

## ၇။ ပတ္တမြားရတနာ၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ ပတ္တမြားရတနာ၏ အဘယ်အင်္ဂါ သုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ပတ္တမြားရတနာသည် စင်စစ်အားဖြင့် ထက်ဝန်းကျင်မှ စင်ကြယ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် စင်စစ်အားဖြင့် ထက်ဝန်းကျင်မှ စင်ကြယ်သော အသက်မွေးမှုဖြင့် အသက်မွေးရာ၏။

'မင်းမြတ်–နောက်တစ်မျိုးကား ပတ္တမြားရတနာသည် အညစ်အကြေး တစ်စုံတစ်ရာနှင့်မျှ မရောနှောပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ယုတ်ညံ့သောတရားများ၊ ယုတ်ညံ့သော အဆွေခင်ပွန်းများနှင့် ရောနှော ဆက်ဆံမှု မပြုလုပ်ရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား ပတ္တမြားရတနာသည် အမျိုးမှန်၊ အဖိုးတန် ရတနာများနှင့် ယှဉ်စပ်လျက် ရှိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် မဂ်အကျိုးငှာကျင့်သူ၊ ဖိုလ်၌တည်သူ၊ သေက္ခပုဂ္ဂိုလ်၊ ရဟန္တာပုဂ္ဂိုလ်၊ ဝိဇ္ဇာဉာဏ်သုံးပါးရရှိသူ၊ အဘိဉာဏ်ခြောက်ပါး ရရှိသူ စသော မြင့်မြတ်သော ပုဂ္ဂိုလ်တို့ကိုသာ ဆည်းကပ်ရာ၏။ ပတ္တမြားရတနာ၏ ဤအင်္ဂါသုံးပါးကို ယူအပ်၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည် သုတ္တနိပါတ်၌–

'စင်ကြယ်သူသည် စင်ကြယ်သူတို့နှင့် ရိုသေကျိုးနွံစွာ ပေါင်းသင်းကြကုန်လော့။ ထိုသို့ပြုသည်ရှိသော် ညီညွတ်စွာ ရှိကြကုန်၍ ပညာရင့်ကျက်ပြီး ဆင်းရဲဒုက္ခ၏ အဆုံးကို ပြုနိုင်ကြကုန်လတ္တံ့ဟု ဟောကြားတော် မူပေ၏'

## ၈။ မုဆိုး၏ အင်္ဂါလေးပါး

'အရှင် နာဂသေနဘုရား၊ မုဆိုး၏ အဘယ်အင်္ဂါလေးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ မုဆိုးသည် တစ်ခဏမျှသာ အိပ်စက်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အအိပ်နည်းသူ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မုဆိုးသည် သားသမင်တို့အပေါ်မှာသာလျှင် စွဲမြဲစွာ စူးစိုက်ထားရာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကမ္မဋ္ဌာန်းအာရုံမှာသာ စွဲမြဲစွာ စူးစိုက်ထားရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား မုဆိုးသည် တောလိုက်ခြင်းအလုပ် လုပ်ရမည့်အချိန်ကို သိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် တစ်ပါးတည်း ကိန်းအောင်းရမည့်အချိန်နှင့် ကိန်းအောင်းရာမှ ထရမည့်အချိန်ကို သိ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား မုဆိုးသည် သမင်တစ်ကောင်ကောင်ကို တွေ့လိုက်သောအခါ ဤသမင်ကို ငါရတော့မည်ဟုအားရဝမ်းသာဖြစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂုလ်သည်ကမ္မဋ္ဌာန်းအာရုံ၌ အလွန်မွေ့လျော်သည်ဖြစ်၍ မွန်မြတ်လှသော လောကုတ္တရာ တရားထူးကို ငါရတော့မည်ဟု အားရပေဝမ်းသာဖြစ်ရာ၏။ မုဆိုး၏ ဤအင်္ဂါလေးပါးကို ယူအပ်ပေ၏'

## ၉။ ငါးမျှားသူ၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ ငါးမျှားသူ၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ငါးမျှားသူသည် ငါးမျှားချိတ်ဖြင့် ငါးကို သုတ်ယူ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဝိပဿနာဖြင့် မဂ်ဖိုလ်တို့ကို ထုတ်ဆောင်ယူငင်ရာ၏။

မင်းမြတ်၊ နောက်တစ်မျိုးကား ငါးမျှားသူသည် သေးငယ်သော ငါးကလေးဖြင့်မျှား၍ ငါးကြီးများကို ရအောင်ယူ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လောကုတ္တရာမဂ်ဖိုလ် အကျိုးတရားများကို ရရှိခြင်းငှာ လောကီအာမိသကို စွန့်လွှတ်ရာ၏။ ငါးမျှားသူ၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ အရှင်ရာဟုလာသည်–

'လောကီအာမိသကို စွန့်လွှတ်သောကြောင့် သုညတ၊ အနိမိတ္တ၊ အပ္ပဏိဟိတ ဖြစ်ကုန်သော မဂ်ဖိုလ်နိဗ္ဗာန်တို့ကို လည်းကောင်း၊ အဘိညာဉ်ခြောက်ပါးတို့ကို လည်းကောင်း ရနိုင်၏ဟု ဟောကြားမှုပေ၏'

## ၁၀။ သစ်ရွေသမား၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ သစ်ရွေသမား၏ အဘယ် အင်္ဂါ နှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ သစ်ရွေသမားသည် ရွေရမည့် သစ်ပေါ်တွင် တံမျဉ်းကြိုးဖြင့်ရိုက်ကာ ထိုကြိုးရာ အတိုင်းသာလျှင် ရွေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဘုရားရှင်ဆုံးတော်မူသည့် အတိုင်းသာလျှင် သီလ၊ သဒ္ဓါ၊ ပညာတို့ဖြင့် ကိလေသာတို့ကို ခုတ်ရွေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား သစ်ရွှေသမားသည် အကာကိုပစ်၍ အနှစ်ကိုယူ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သဿတဒိဋ္ဌိ၊ ဥစ္ဆေဒ ဒိဋ္ဌိ အစရှိသော ငြင်းခုံ၍ မပြီးဆုံးနိုင်သော အယူတို့ကို စွန့်ပယ်၍ သင်္ခါတရားတို့၏ ဖြစ်ခြင်း ပျက်ခြင်း သဘောကိုသာ စွဲမြဲစွာ ဆင်ခြင် သုံးသပ်ရာ၏။ သစ်ရွှေသမား၏ ဤအင်္ဂါနှစ်ပါးတို့ကို ယူအပ်ပေ၏'

❁ ❁ ❁




## ၁။ အိုး၏အင်္ဂါတစ်ပါး

'အရှင်နာဂသေနဘုရား၊ အိုး၏အဘယ် အင်္ဂါတစ်ပါးကို ယူအပ်ပါသနည်း'

မင်းမြတ်၊ အိုးသည် ရေပြည့်နေသည်ရှိသော် အသံမမည်တော့ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ပါဠိတော်များ သင်ကြားခြင်း၊ နှုတ်တတ် အာဂုံဆောင်ခြင်း၊ တရားထူးရခြင်းတို့၌ ပြည့်စုံလုံလောက်လာသည်ရှိသော် ဤသို့သော ဂုဏ်ကျေးဇူးဖြင့် မာန်ထောင်လွှားမှုကို မပြုရာ။ အိုး၏ ဤအင်္ဂါတစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

'မပြည့်သောအိုးသည် အသံထွက်၏။ ပြည့်သောအိုးသည်ကား အသံမထွက်တော့ဘဲ ငြိမ်သက်နေ၏။ လူမိုက်သည် မပြည့်သောအိုးနှင့် တူ၏။ ပညာရှိသည်ကား ပြည့်နေသော အိုးကြီးနှင့်တူ၏ဟု ဟောကြားတော်မူပေ၏'

## ၂။ တီးတုတ်ငှက်၏အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ တီးတုတ်ငှက်၏ အဘယ် အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

မင်းမြတ်၊ တီးတုတ်ငှက်သည် သေရည်ကိုသောက်မိသော် ထွေးအန်ပစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သင့်လျော်သော နှလုံးသွင်းခြင်းဖြင့် မနှစ်သက်စရာ ကိလေသာယှဉ်သောစိတ်ကို ထွေးအန်ပစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား တီးတုတ်ငှက်သည် ရေကိုသောက်မိသော် ထွေးအန်မပစ်ပေ။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးတို့၏ ဂုဏ်တော်များကို တစ်ကြိမ်တစ်ခါကြည်ညိုမိလျှင် ထိုကြည်ညိုမှုကို မစွန့်လွှတ်ရာ။ ခန္ဓာငါးပါးတို့၏ အနိစ္စသဘောကို တစ်ကြိမ်တစ်ခါ သိမြင်လာလျှင် ထိုအသိအမြင်ကို မစွန့်လွှတ်ရာ။ တီးတုတ်ငှက်၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏'

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

သောတာပတ္တိမဂ်ဉာဏ်အမြင် စင်ကြယ်ပြီးသော ပုဂ္ဂိုလ်သည် အရိယာတို့၏ မြဲမြဲလျက် ထူးသော ပုဂ္ဂိုလ်အဖြစ်သို့ ရောက်၍ များစွာသောအကြောင်းတို့ကြောင့် မတုန်လှုပ်နိုင်။ ထိုသူသည် များစွာသောအကြောင်းတို့ဖြင့် မြတ်သည့် အဖြစ်သို့သာ ရောက်၏ဟု ဟောကြားတော်မူပေ၏'

## ၃။ ထီး၏အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ ထီး၏ အဘယ်အင်္ဂါ သုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ထီးသည် ဦးခေါင်းပေါ်မှမိုးလျက် လှည့်လည်သွားလာ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကိလေသာတို့၏အပေါ်မှ လွှမ်းမိုးလျက် ကျက်စားရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ထီးသည် ဦးခေါင်းထက်မှ နေ၍ အထောက်အပံ့ကို ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သင့်လျော်သော နှလုံးသွင်းခြင်းဟူသော အထောက်အပံ့ကို ရရှိရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ထီးသည် လေ၊ နေပူနှင့်မိုးပေါက်တို့ကို ကာကွယ်ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သာမဏ ဗြာဟ္မဏ အမျိုးမျိုးတို့၏ အထူးထူး အပြားပြားသော မိစ္ဆာအယူဝါဒများ၊ ရာဂ၊ ဒေါသ၊ မောဟတရားများ၊ ကိလေသာတရားများကို ပယ်ဖျောက်ရာ၏။ ထီး၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏'

## ၄။ လယ်၏အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ လယ်၏ အဘယ် အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လယ်သည်ရေမြောင်းနှင့် ပြည့်စုံ၏။ ဤအတူပင် ယောဂီပုဂ္ဂိုလ်သည် ဝတ်ကြီး ဝတ်ငယ်နှင့် ပြည့်စုံရာ၏'

'မင်းမြတ်၊ နောက်တစ်မျိုးကား လယ်သည် ကန်သင်းနှင့်ပြည့်စုံ၏။ ထိုကန်သင်းဖြင့် ရေကိုထိန်းထား၍ စပါးကိုအောင်စေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် အကျင့်သီလ မကောင်းမှုမှ ရှက်ခြင်းတည်းဟူသော ဟိရိတို့နှင့် ပြည့်စုံရာ၏။ ထိုတရားနှစ်ပါးတို့ဖြင့် ရဟန်း၏ဂုဏ်ကျေးဇူးတို့ကို ထိန်းထား၍ မဂ်ဖိုလ်ကို အောင်မြင်စေရာ၏။

'မင်းမြတ်၊ လယ်သည် စပါးကောင်းစွာထွက်စေ၍ လယ်သမားအား ရွှင်လန်းအောင် ပြု၏။ အနည်းငယ်မျှသော မျိုးစေ့ဖြင့် စပါးများစွာရစေ၏။ မျိုးစေ့များစွာကြဲချသော် ပိုမို၍ များပြားသော စပါးတို့ကို ရရှိ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကောင်းမြတ်သော အကျင့်ဖြင့် များပြားသော အကျိုးတရားတို့ကို ရယူရာ၏။ အနည်းငယ် ပေးလှူလျှင် အကျိုး

များစွာ ရစေရန် မြောက်မြားစွာ ပေးလှူလျှင် အတိုင်းထက်အလွန် အကျိုးတရား ခံစားစေရန် စင်ကြယ်သော အကျင့်သီလဖြင့် ဒါယကာတို့အား အားရ ရွှင်လန်းစေ၏။ လယ်၏ ဤအင်္ဂါ သုံးပါးတို့ကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိနည်းခိုရ်ဖြစ်သော အရှင်ဥပါလိသည်–

'ရဟန်းသည် လယ်နှင့်တူစွာ ကောင်းမှုဖြစ်ထွန်းရာ ပြန့်ပြောသောအကျိုးကို ပေးနိုင်သူ ဖြစ်ရာ၏။ ပြန့်ပြောသော ဒါနအကျိုးကို ပေးနိုင်အောင် စွမ်းဆောင်နိုင်သော ပုဂ္ဂိုလ်သည် ကောင်းမှု၏ ဖြစ်ထွန်းရာ မြင့်မြတ်လှသော လယ်မြေမည်ပေ၏ဟု မိန့်ကြားတော် မူပေ၏"

## ၅။ အဆိပ်ဖြေဆေး၏ အင်္ဂါနှစ်ပါး

'အရှင် နာဂသေနဘုရား၊ အဆိပ်ဖြေဆေး၏ အဘယ်အင်္ဂါနှစ်ပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ အဆိပ်ဖြေဆေး၌ ပိုးလောက်တို့ မတည်ရှိနိုင်ကုန်။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်တို့၏စိတ်၌ ကိလေသာတို့ မတည်ရှိစေရာ။

'မင်းမြတ်၊ နောက်တစ်မျိုးကား အဆိပ်ဖြေဆေးသည် ကိုက်အပ်သော၊ တွေ့ထိအပ်သော၊ မြင်အပ်သော၊ စားအပ်သော၊ သောက်အပ်သော၊ ခဲအပ်သော၊ လျက်အပ်သော အဆိပ်အားလုံးကို ပယ်ဖျောက်နိုင်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ရာဂ၊ ဒေါသ၊ မာန၊ ဒိဋ္ဌိ အစရှိသော အလုံးစုံသော ကိလေသာကို ပယ်ဖျောက်ရာ၏။ အဆိပ်ဖြေဆေး၏ ဤအင်္ဂါနှစ်ပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ ဝိသုဒ္ဓိနတ်ဖြစ်တော်မူသော ဘုရားရှင်သည်–

'သင်္ခါရ တရားတို့၏သဘောကို ရှုဆင်ခြင်သော ယောဂီပုဂ္ဂိုလ်သည် ကိလေသာတည်း ဟူသော အဆိပ်ကိုဖျက်ဆီးရာ၌ အဆိပ်ဖြေဆေးနှင့် တူညီသည်ဖြစ်ရာ၏ဟု ဟောကြားတော် မူပေ၏'

## ၆။ ဘောဇဉ်၏ အင်္ဂါသုံးပါး

'အရှင် နာဂသေနဘုရား၊ ဘောဇဉ်၏ အဘယ်အင်္ဂါသုံးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ ဘောဇဉ်သည် စားသောက်သော သတ္တဝါအားလုံးအား အထောက်အပံ့ကို ပေး၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သတ္တဝါအားလုံးတို့အား မဂ်၏အထောက်အပံ့ ဖြစ်စေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဘောဇဉ်သည် စားသောက်သော သတ္တဝါအားလုံးတို့၏ ခွန်အားကို တိုးပွားစေ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကုသိုလ်ကောင်းမှု အင်အားကို တိုးပွားစေရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား ဘောဇဉ်ကို သတ္တဝါအားလုံးက တောင့်တကြရ၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် လူအပေါင်းတို့တောင့်တထိုက်သူ ဖြစ်ပေရာ၏။ ဘောဇဉ်၏ ဤအင်္ဂါသုံးပါးကို ယူအပ်ပေ၏။

'မင်းမြတ်၊ အရှင်မဟာမောဂ္ဂလာန်သည်–

လုံ့လကြီးကုတ် အားထုတ်တတ်သော ပုဂ္ဂိုလ်သည် ဣန္ဒြေစောင့်ခြင်းဖြင့် လည်းကောင်း၊ အမြဲကျင့်သုံး ဆောက်တည်သော သီလဖြင့် လည်းကောင်း၊ အကျင့်ပဋိပတ်ဖြင့် လည်းကောင်း လူအပေါင်းတို့ တောင့်တထိုက်သူ ဖြစ်ရာ၏ဟု မိန့်ကြားတော်မူပေ၏'

## ၇၉ လေးသမား၏ အင်္ဂါလေးပါး

'အရှင် နာဂသေနဘုရား၊ လေးသမား၏ အဘယ်အင်္ဂါလေးပါးကို ယူအပ်ပါသနည်း'

'မင်းမြတ်၊ လေးသမားသည် လေးပစ်မည် ပြုသောအခါ ခြေနှစ်ဖက်ကို မြေပြင်ပေါ်၌ ခိုင်မြဲစွာရပ်၏။ ဒူးနှစ်ဖက်တို့ကို မတုန်လှုပ်နိုင်အောင် ထိန်းထား၏။ မြားတောင့်ကို ခါးမှာ ချိတ်ဆွဲထား၏။ ကိုယ်ခန္ဓာ တစ်ခုလုံးကို အားတောင့်ထား၏။ လက်နှစ်ဖက်တို့ကို လေးညှို့ ရှိရာသို့ လှမ်း၏။ လက်ဆုပ်ကို မြဲမြဲဆုပ်၏။ လက်ချောင်းတို့ကို အကြားမပေါ်စေဘဲ ထိစပ် နေအောင် ဆုပ်ထား၏။ လည်ပင်းကို မြှောက်ချီထား၏။ မျက်တစ်ဖက်နှင့် ခံတွင်းကို ပိတ်ထား ၏။ မှတ်တိုင်သို့ ဖြောင့်ဖြောင့်ချိန်၏။ ငါပစ်ရတော့မည်ဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် သီလအခြေခံပေါ်တွင် ဝီရိယဖြင့် ရပ်တည်ရာ၏။ သည်းခံခြင်း အကျင့်၌ မွေ့လျော်အောင် ထိန်းထားရာ၏။ စောင့်စည်းခြင်း၌ စိတ်ကိုထားရာ၏။ ဣန္ဒြေစောင့်စည်း ခြင်းဖြင့် ကိုယ်ကို အားတောင့် ထားရာ၏။ အလိုဆိုးနှင့် တွေဝေမိန်းမောမှု တို့ကို နှိပ်စက်ရာ၏။ သင့်လျော်သော နှလုံးသွင်းခြင်းဖြင့် စိတ်ကို စေ့စေ့စပ်စပ် ဖြစ်နေစေရာ၏။ ဝီရိယကို မြှောက်ချီ ထားရာ၏။ ခြောက်ဒွါရတို့ကို ပိတ်ထားရာ၏။ သတိကို ဖြောင့်စွာချိန်ထားရာ၏။ ကိလေသာ အားလုံးတို့ကို ဉာဏ်ဖြင့် ပစ်ခွင်းရပေတော့မည်ဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်ရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လေးသမားသည် ကောက်ကွေးနေသောမြားကို ဖြောင့်ရန် မြားဖြောင့်သောကျင်းကို ယူဆောင်သွား၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ကောက်ကွေး သောစိတ်ကို ဖြောင့်ရန် သတိပဋ္ဌာန်ကို ပွားများရာ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လေးသမားသည် မှတ်တိုင်၌ မြားပစ်လေ့ကျင့်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ဤကိုယ်၌သာလျှင် လေ့လာသင့်၏။ မမြဲခြင်း၊ ဆင်းရဲခြင်း၊ အစိုးမရခြင်း၊ အနာရောဂါ၊ အိုင်းအမာ၊ ငြောင့်၊ ဆင်းရဲခြင်း၏တည်ရာ၊ အနာပေါက်ရာ၊ ရန်သူ၊ ပျက်စီးတတ်သောဘေး၊ ဘေး၏ငြိကပ်ရာ၊ လောက၌လှုပ်ရှားခြင်း၊ ပျက်စီးတတ်ခြင်း၊ မခိုင်ခံ့ခြင်း၊ ဘေးကိုစောင့်ရှောက်မပေးခြင်း၊ ပုန်းအောင်းရာမရှိခြင်း၊ မှီခိုရာမရှိခြင်း၊ သုခ စသည်မှ ကင်းဆိတ်ခြင်း၊ သုခစသည်မှ အချည်းနှီးဖြစ်ခြင်း၊ အရှင်သခင်အဖြစ်မှ ဆိတ်သုဉ်းခြင်း၊ အပြစ်၊ ဖောက်ပြန် ⋯ဘ်သောသဘော၊ အနှစ်မရှိခြင်း၊မကောင်းမှု၏ ရေသောက်မြစ်ဖြစ်ခြင်း၊ သတ်ပုတ်ညှဉ်းဆဲခြင်း၊ ကြီးပွားမှု ကင်းရှင်းခြင်း၊ အာသဝ၏ အာရုံဖြစ်ခြင်း၊ ပြုပြင်စီရင်ရခြင်း၊ မစ္စုမာရ်၊ ကိလေသမာရ်တို့၏

အာမိသဖြစ်ခြင်း၊ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်း၊ ပူဆွေးခြင်း၊ ငိုကြွေးခြင်း၊ ပြင်းစွာပင်ပန်းခြင်း၊ ပူပန်ခြင်းဟူသော ဤသဘော လက္ခဏာတို့ဖြင့် လေ့လာရ၏။

'မင်းမြတ်၊ နောက်တစ်မျိုးကား လေးသမားသည် ညနေတိုင်း နံနက်တိုင်း မြားပစ်လေ့ကျင့်၏။ ဤအတူသာပင် ယောဂီပုဂ္ဂိုလ်သည် ညနေတိုင်း နံနက်တိုင်း ကမ္မဋ္ဌာန်း ဘာဝနာ ပွားများရာ၏။ လေးသမား၏ ဤအင်္ဂါလေးပါးတို့ကို ယူအပ်ပေ၏။

'မင်းမြတ်၊ တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာသည်–

'လေးသမားသည် ညနေတိုင်း နံနက်တိုင်း မြားပစ်လေ့ကျင့်၏။ လေ့ကျင့်မှုမပြတ်တမ်း ပြုလုပ်သည်ရှိသော် ထမင်းရိက္ခာကို ရရှိ၏။ ထို့အတူသာလျှင် ဘုရားသားတော်သည်လည်း ကိုယ်နှာကို လက္ခဏာသုံးပါးဖြင့် လေ့လာနေရာ၏။ လေ့လာမှုမပြတ်သည်ရှိသော် အရဟတ္တဖိုလ် ရနိုင်၏ဟု မိန့်ကြားတော်မူပေ၏'

[ ဩပမ္မကထာပဉှာ တစ်ခန်းလုံးအတွက် မှတ်ချက်။ ။ ဆဋ္ဌမမူ၊ မိလိန္ဒ ပဉှာပါဠိတော်နှင့် ဘာသာပြန်တို့တွင် ဤအခန်း၏ အစ၌ ဥပမာ ၁၀၅ ပါးတို့ကို မာတိကာစဉ်၍ ပြဆိုထား၏။ စာကိုယ်တွင် အကျယ်ပြရာ၌ကား ဤ ဥပမာ ၆၇ ပါး တို့သာပါရှိပေ၏။ ကျန်သောဥပမာ ၃၈ ပါးတို့ကား မည်သည့်မူတွင်မှ မပါရှိကြတော့ပေ။ ဥပမာတို့၏ အင်္ဂါများကို တစ်ခုချင်း တစ်ခုချင်း ဥပမာ၊ ဥပမေယျဟပ်ပြီးနောက် ဘုရားရှင်နှင့်တကွ သာဝကအရှင်မြတ်ကြီးများ ဟောကြားခဲ့သော ဒေသနာတော်များဖြင့် အကိုးအကားပြထား၏။ အချို့ ဒေသနာတော်များမှာ ဥပမေယျ စကားရပ်၌ သဒ္ဒါရောအနက်ပါ ထပ်တူထပ်မျှဖြစ်နေ၍ ခြွင်းချန်ထားခဲ့ရပါသည်။ အနက်၊ သဒ္ဒါ နှစ်ဌာနတွင် တစ်ခုဖြစ်စေ၊ နှစ်ခုလုံးဖြစ်စေ ထူးခြားမှုရှိသော သာဓကများကိုသာ ဖော်ပြလိုက်ပေ၏။]

# နိဂုံး

ဤသို့လျှင် အခန်းကြီးအားဖြင့် ၆ ခန်းတို့ဖြင့် တန်ဆာဆင်ထားသော မိလိန္ဒမင်းကြီးနှင့် အရှင်နာဂသေနတို့၏ မေးခန်း ဖြေခန်းကြီး ပြီးဆုံးသွားပေပြီ။

မိလိန္ဒမင်းကြီးနှင့် အရှင်နာဂသေနတို့၏ အမေးအဖြေ အဆုံး၌ ယူဇနာပေါင်း ရှစ်သောင်းလေးထောင် အထုရှိသော ဤ မဟာပထဝီမြေပြင်ကြီး တစ်ခုလုံးသည် အမျိုးမျိုးအဖုံဖုံ တုန်လှုပ်၏။ လျှပ်စီးကြောင်းတို့ ပြက်သန်းကုန်၏။ နတ်တို့သည် ပန်းမိုးများရွာချကုန်၏။ မဟာဗြဟ္မာကြီးသည် ကောင်းချီးသြဘာပေး၏။ မဟာသမုဒ္ဒရာရေထဲမှ မိုးကြိုးထစ်သံကဲ့သို့ မြည်ဟည်းလာ၏။ ဤသို့သော အံ့ဖွယ်သူရဲ ထူးကဲလှသော အဖြစ်များကို မြင်ကြရသောအခါ မိလိန္ဒမင်းကြီးနှင့်တကွ မောင်းမအပေါင်းသည် ဦးခေါင်းထက်သို့ လက်အုပ်တင်ကာ ကြည်ညိုစွာ ရှိခိုးကြလေကုန်၏။

မိလိန္ဒမင်းကြီးသည် အရှင်နာဂသေန၏ ဂုဏ်ကျေးဇူးတို့ကို အလွန်တရာ ကြည်ညိုမြတ်နိုးလှသည်ဖြစ်၍ 'အရှင် နာဂသေနဘုရား၊ အရှင်ဘုရား ဖြေရှင်းတော်မူသမျှသည် ကောင်းလှပါပေ၏။ ဘုရားရှင်တို့သာလျှင် ဖြေကြားနိုင်မည့် ပြဿနာများကို အရှင်ဘုရား ဖြေကြားတော် မူနိုင်ပါပေ၏။ ဤသာသနာတော်၌ တရားစစ်သူကြီး ဖြစ်တော်မူသော အရှင်သာရိပုတ္တရာကို ချန်ထား၍ ဤပြဿနာကို အရှင်ဘုရားနည်းတူ ဖြေကြားနိုင်သော အခြားပုဂ္ဂိုလ် မရှိနိုင်တော့ပါ။ အရှင်ဘုရား၊ တပည့်တော်မှာ အပြစ်ရှိလျှင် သည်းခံတော်မူပါ။ ဤယနေ့မှ အစပြု၍ အရှင်ဘုရားအား အသက်ထက်ဆုံး ဆည်းကပ်ကိုးကွယ်သော ဥပသကာဟူ၍ မှတ်ယူတော်မူပါဘုရား' ဟူ၍ လျှောက်ထား၏။

# မိလိန္ဒမင်းကြီး ရဟန်းပြုခြင်း

မိလိန္ဒမင်းကြီးသည် ဗိုလ်ပါ အပေါင်းတို့နှင့်တကွ အရှင်နာဂသေနအား ဆည်းကပ်ကိုးကွယ်၏။ မိလိန္ဒမည်သော ကျောင်းတိုက်ကြီးကို ဆောက်လုပ်ကာ အရှင်နာဂသေန အား တင်လှူပူဇော်၏။ အရှင်နာဂသေန နှင့်တကွ ရာပေါင်းများစွာသော ရဟန်းတို့အား ပစ္စည်းလေးပါးတို့ဖြင့် ပြုစုလုပ်ကျွေး၏။

ထို့နောက် မိလိန္ဒမင်းကြီးသည် သံဃာတော်အား ပြုစုလုပ်ကျွေးရုံဖြင့် အားမရနိုင်တော့ဘဲ အရှင်နာဂသေန၏ ပညာဂုဏ်ရည်ကို ကြည်ညိုလှသဖြင့် သားတော်ကြီးအား ထီးနန်းလွှဲအပ်ပြီးလျှင် သာသနာတော်၌ ရဟန်းပြု၏။

ရဟန်းအဖြစ်ကိုရရှိပြီးနောက် အရှင်မိလိန္ဒသည် ဝိပဿနာပွားများသောအခါ ရဟန္တာအဖြစ်သို့ ဆိုက်ရောက်သွားလေသတည်း။

# မူလမှတ်တမ်းတင်သူ

သီဟိုဠ်ကျွန်း၊ ဒေါဏိမြို့၌ နေထိုင်သဖြင့် ဒေါဏိမထေရ်ဟု အမည်ရသော မဟာထေရ်သည် မိလိန္ဒမင်း၏အမေးကို လည်းကောင်း၊ အရှင်နာဂသေန၏အဖြေကို လည်းကောင်း ကြားနာရဖူးသည့် အတိုင်း ကောင်းစွာမှတ်သားထားပေ၏။

# မူလ မှတ်တမ်းတင်သူ၏ ဆုတောင်း

ဤကျမ်းစာကို မှတ်သားထားရသော ကောင်းမှုကြောင့် ဤလူ့ပြည်မှ စုတေလတ်သော် ဟုသိတာ နတ်ပြည်သို့ ရောက်ရပါလို၏။ နောင်အခါပွင့်တော်မူလာမည့် အရိမေတ္တေယျ ဘုရားရှင်ကို ဖူးမြင်ရပါလို၏။ မြတ်သော တရားတော်ကို နာယူရပါလို၏။ ဤကား ကျမ်းပြီးနိဂုံး အဆုံးသတ် စကားပေတည်း။

*ဤတွင် မိလိန္ဒပဉှာ ပုဏ္ဏာ ဝိသဇ္ဇနာ*
*ပြီးပါပြီ။*